# Constitution of the Republic of the Union of Myanmar

(2008)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# ဖွဲ့စည်းပုံအခြေခံဥပဒေ

(၂၀၀၈ ခုနှစ်)

# Constitution of the Republic of the Union of Myanmar

# (2008)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ဖွဲ့စည်းပုံအခြေခံဥပဒေ

(၂၀၀၈ ခုနှစ်)

# CONTENTS

# မာတိကာ

## Preamble

Myanmar is a Nation with magnificent historical traditions. We, the National people, have been living in unity and oneness, setting up an independent sovereign State and standing tall with pride.

Due to colonial intrusion, the Nation lost her sovereign power in 1885. The National people launched anti-colonialist struggles and National liberation struggles, with unity in strength, sacrificing lives and hence the Nation became an independent sovereign State again on 4th January 1948.

In order to gain independence speedily, the Constitution was hastily drafted, and it was adopted by the Constitutent Assembly on 24th September 1947. After attaining independence, Parliamentary Democracy System was practised in the State in accord with the Constitution of the Union of Myanmar. However, as democratic system could not be effectively materialized, the new Constitution of the Socialist Republic of the Union of Myanmar was drafted based on the single party system, and after holding a National Referendum, a socialist democratic State was set up in 1974. The Constitution came to an end because of the general situation occurred in 1988.

Later, due to public aspirations, the State Peace and Development Council made efforts to adopt multi-party democratic system and market economy in accord with the National situation.

As an enduring Constitution, that guarantees long-term benefits, has become essential for the future nation, the State Peace and Development Council convened the National Convention in 1993.

Persons who are well experienced in various aspects of politics, security, administration, economics, social and law as well as National races representatives of all townships in the Nation took part in the National Convention.

# နိဒါန်း

မြန်မာနိုင်ငံတော်သည် သမိုင်းအစဉ်အလာကြီးမားသော နိုင်ငံတော်ဖြစ်ပေသည်။ ကျွန်ုပ်တို့ တိုင်းရင်းသားပြည်သူအပေါင်းတို့သည် စည်းလုံးညီညွတ်စွာ တစ်သားတည်း နေထိုင်လာခဲ့ကြပြီး အချုပ်အခြာအာဏာပိုင် လွတ်လပ်သောနိုင်ငံအဖြစ် ထူထောင်ကာ ထည်ဝါစွာ ရပ်တည်ခဲ့ကြပေသည်။

ကိုလိုနီနယ်ချဲ့တို့၏ကျူးကျော်မှုကြောင့် ၁၈၈၅ ခုနှစ်တွင် နိုင်ငံတော်အာဏာ လုံးဝလက်လွတ်ဆုံးရှုံးခဲ့ရပေသည်။ တိုင်းရင်းသားပြည်သူအပေါင်းတို့သည် စည်းလုံးညီညွတ်မှု စွမ်းအားဖြင့် နယ်ချဲ့ဆန့်ကျင်ရေးနှင့် အမျိုးသားလွတ်မြောက်ရေးတိုက်ပွဲများကို အသက်ပေါင်း များစွာစတေး၍ ဆင်နွှဲခဲ့ကြသောကြောင့် ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် အချုပ်အခြာအာဏာပိုင် လွတ်လပ်သောနိုင်ငံတော်အဖြစ် ပြန်လည်ရပ်တည်နိုင်ခဲ့ပေသည်။

လွတ်လပ်ရေးအမြန်ရရှိရန်အတွက် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို အလျင်အမြန် ရေးဆွဲကာ ၁၉၄၇ ခုနှစ် စက်တင်ဘာလ ၂၄ ရက်နေ့တွင် တိုင်းပြည်ပြုလွှတ်တော်က အတည်ပြုပြဋ္ဌာန်းခဲ့ပြီး လွတ်လပ်ရေးရရှိသောအခါ နိုင်ငံတော်တွင် အဆိုပါ ဖွဲ့စည်းပုံ အခြေခံဥပဒေဖြင့် ပါလီမန်ဒီမိုကရေစီစနစ်ကို ဖော်ဆောင်ကျင့်သုံးခဲ့ကြပေသည်။ သို့ရာတွင် နိုင်ငံတော်၌ ဒီမိုကရေစီစနစ်ကို ပီပြင်စွာ ကျင့်သုံးနိုင်မှုမရှိသဖြင့် ၁၉၇၄ ခုနှစ်တွင် တစ်ပါတီပုံစံကိုအခြေခံလျက် ဖွဲ့စည်းပုံအခြေခံဥပဒေတစ်ရပ်ကို ရေးဆွဲပြီး ပြည်လုံးကျွတ် ဆန္ဒခံယူပွဲကျင်းပ၍ အတည်ပြုပြဋ္ဌာန်းကာ ဆိုရှယ်လစ်ဒီမိုကရေစီ နိုင်ငံတော်အဖြစ် ကြိုးပမ်းတည်ထောင်ခဲ့ပြန်ပေသည်။ ၁၉၈၈ ခုနှစ်တွင် နိုင်ငံတော်၌ ဖြစ်ပေါ်လာသည့် အခြေအနေအရပ်ရပ်ကြောင့် အဆိုပါဖွဲ့စည်းပုံအခြေခံဥပဒေမှာလည်း ရပ်ဆိုင်းသွားခဲ့ရသည်။

ထို့နောက် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ပြည်သူများ၏ လိုအင်ဆန္ဒနှင့်အညီ ပါတီစုံဒီမိုကရေစီစနစ်နှင့် ဈေးကွက်စီးပွားရေးစနစ်တို့ကို မိမိနိုင်ငံနှင့် လိုက်လျောညီထွေစွာ ထူထောင်နိုင်ရန်အတွက် ကြိုးပမ်းတည်ဆောက်ပေးခဲ့ပေသည်။

အနာဂတ်နိုင်ငံတော်တွင် ရေရှည်အကျိုးရှိပြီး ခိုင်မာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေ တစ်ရပ် မရှိမဖြစ်လိုအပ်သည့်အတွက် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ သည် ၁၉၉၃ ခုနှစ်မှစ၍ အမျိုးသားညီလာခံကို ခေါ်ယူကျင်းပပေးခဲ့သည်။

အမျိုးသားညီလာခံတွင် နိုင်ငံရေး၊ လုံခြုံရေး၊ အုပ်ချုပ်ရေး၊ စီးပွားရေး၊ လူမှုရေးနှင့် ဥပဒေရေးရာစသည့် ရှုထောင့်မျိုးစုံမှ အတွေ့အကြုံကြွယ်ဝသည့် ပုဂ္ဂိုလ်များပါဝင်သကဲ့သို့ နိုင်ငံတော်အတွင်းတည်ရှိသည့် မြို့နယ်အားလုံးမှ တိုင်းရင်းသားကိုယ်စားလှယ်များလည်း ပါဝင်ခဲ့ကြပေသည်။

Despite many difficulties and disturbances encountered the National Convention, it was unwaveringly reconvened in 2004 in accord with the seven-step Roadmap adopted in 2003. As the National Convention was able to adopt the Basic Principles and Detailed Basic Principles for formulating a Constitution, it successfully concluded on 3rd September 2007.

We, the National people, drafted this Constitution of the Republic of the Union of Myanmar in accord with the Basic Principles and Detailed Basic Principles laid down by the National Convention.

We, the National people, firmly resolve that we shall :

- steadfastly adhere to the objectives of non-disintegration of the Union, non-disintegration of National solidarity, and perpetuation of sovereignty;
- stalwartly strive for further burgeoning the **eternal principles** namely justice, liberty, equality and perpetuation of peace and prosperity of the National people;
- uphold racial equality, living eternally in unity fostering the firm Union Spirit of true patriotism;
- constantly endeavour to uphold the principles of peaceful co-existence among nations with a view to having world peace and friendly relations among nations.

DO HEREBY ADOPT this Constitution of the Republic of the Union of Myanmar through a nation-wide referendum on the Tenth day of Kasone Waning, 1370 M.E. (The Twenty-Ninth day of May, 2008 A.D.)

အမျိုးသားညီလာခံကျင်းပရာတွင် အခက်အခဲအနှောင့်အယှက်များ ကြုံတွေ့ခဲ့ရသော်လည်း ၂၀၀၃ ခုနှစ်တွင် ချမှတ်ခဲ့သော နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ် (၇) ရပ်နှင့်အညီ အမျိုးသားညီလာခံကို ၂၀၀၄ ခုနှစ်တွင် မဆုတ်မနစ်သော ဇွဲလုံ့လဖြင့် ဆက်လက်ကျင်းပခဲ့ရာ ခိုင်မာသော နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေတစ်ရပ် ပေါ်ပေါက်ရန်အတွက် အခြေခံရမည့်မူများနှင့် အသေးစိတ်အခြေခံရမည့်မူများကို အနှစ်သာရပြည့်ဝစွာ ချမှတ်နိုင်ခဲ့ကြသဖြင့် ၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ ၃ ရက်နေ့တွင် အမျိုးသားညီလာခံသည် အောင်မြင်စွာ ပြီးမြောက်ခဲ့ပေသည်။

ကျွန်ုပ်တို့ တိုင်းရင်းသားပြည်သူအပေါင်းတို့သည် အမျိုးသားညီလာခံက ချမှတ်ပေးခဲ့သည့် အခြေခံမူများနှင့် အသေးစိတ်အခြေခံရမည့်မူများနှင့်အညီ ဤပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေကို ရေးဆွဲခဲ့ကြပေသည်။

ကျွန်ုပ်တို့တိုင်းရင်းသားပြည်သူအပေါင်းတို့သည် -

- ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေးနှင့် အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေးဟူသော ဦးတည်ချက်များကို အစဉ်တစိုက် မမှိတ်မသုန် စွဲမြဲစွာ ခံယူစောင့်ထိန်းသွားကြမည်ဟု သန္နိဋ္ဌာန်ချမှတ်၍လည်းကောင်း၊
- နိုင်ငံတော်၌ တရားမျှတခြင်း၊ လွတ်လပ်ခြင်းနှင့် ညီမျှခြင်းတည်းဟူသော လောကပါလတရားများ ထွန်းကားစေလျက် တိုင်းရင်းသားပြည်သူအများ ငြိမ်းချမ်းသာယာဝပြောရေးကို တည်တံ့ခိုင်မြဲအောင် စဉ်ဆက်မပြတ် ဆောင်ရွက်ထိန်းသိမ်းသွားကြမည်ဟု သန္နိဋ္ဌာန်ချမှတ်၍လည်းကောင်း၊
- နိုင်ငံတော်အတွင်း လူမျိုးရေးတန်းတူမှုဖြင့် စစ်မှန်သော မျိုးချစ်စိတ်ဓာတ်ဖြစ်သည့် ပြည်ထောင်စုစိတ်ဓာတ်ကို ခိုင်မြဲစွာမွေးမြူလျက် ထာဝစဉ် စည်းလုံးညီညွတ်စွာ အတူတကွ လက်တွဲနေထိုင်ကြမည်ဟု သန္နိဋ္ဌာန်ချမှတ်၍လည်းကောင်း၊
- ကမ္ဘာ့ငြိမ်းချမ်းရေးနှင့် နိုင်ငံအချင်းချင်း မိတ်ဝတ်မပျက် ပေါင်းသင်း ဆက်ဆံရေးကို ရှေးရှုလျက် ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေးမူများကို စောင့်ထိန်းရန် အစဉ်ကြိုးပမ်းကြမည်ဟု သန္နိဋ္ဌာန်ချမှတ်၍လည်းကောင်း၊

ဤပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံ အခြေခံဥပဒေကို သက္ကရာဇ် ၁၃၇၀ ပြည့်နှစ်၊ ကဆုန်လပြည့်ကျော် ၁၀ ရက် (ခရစ်နှစ် ၂၀၀၈ ခုနှစ်၊ မေလ ၂၉ ရက်) နေ့တွင် ပြည်လုံးကျွတ် ဆန္ဒခံယူပွဲကြီးဖြင့် အတည်ပြုပြဋ္ဌာန်းလိုက်ကြသည်။

# Chapter I

# Basic Principles of the Union

**The Republic of the Union of Myanmar**

1. *Myanmar* is an independent sovereign Nation.
2. The State shall be known as the Republic of the Union of Myanmar.
3. The State is where multi-National races collectively reside.
4. The Sovereign power of the Union is derived from the citizens and is in force in the entire country.
5. The territory of the State shall be the land, sea, and airspace which constitutes its territory on the day this Constitution is adopted.

**Basic Principles**

6. The Union's consistent objectives are :
   (a) non-disintegration of the Union;
   (b) non-disintegration of National solidarity;
   (c) perpetuation of sovereignty;
   (d) flourishing of a genuine, disciplined multi-party democratic system;
   (e) enhancing the eternal principles of Justice, Liberty and Equality in the Union and;
   (f) enabling the Defence Services to be able to participate in the National political leadership role of the State.

7. The Union practises genuine, disciplined multi-party democratic system.

8. The Union is constituted by the Union system.

# အခန်း (၁)
# နိုင်ငံတော်အခြေခံမူများ

**နိုင်ငံတော်**

၁။ မြန်မာနိုင်ငံသည် အချုပ်အခြာအာဏာပိုင် လွတ်လပ်သည့်နိုင်ငံဖြစ်သည်။

၂။ နိုင်ငံတော်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ဟု ခေါ်တွင်ရမည်။

၃။ နိုင်ငံတော်သည် တိုင်းရင်းသားလူမျိုးပေါင်းစုံတို့ စုပေါင်းနေထိုင်ကြသော နိုင်ငံ ဖြစ်သည်။

၄။ နိုင်ငံတော်၏ အချုပ်အခြာအာဏာသည် နိုင်ငံသားများထံမှ ဆင်းသက်ပြီး နိုင်ငံတော် တစ်ဝန်းလုံး၌ တည်သည်။

၅။ နိုင်ငံတော်၏မြေထု၊ ရေထုနှင့် လေထုတို့ပါဝင်သော နယ်နိမိတ်သည် ဤဖွဲ့စည်းပုံ အခြေခံဥပဒေ အတည်ဖြစ်သည့်နေ့တွင် တည်ရှိသည့်အတိုင်းဖြစ်သည်။

**အခြေခံမူများ**

၆။ နိုင်ငံတော်သည် -

(က) ပြည်ထောင်စုမပြိုကွဲရေး၊

(ခ) တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး၊

(ဂ) အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေး၊

(ဃ) စစ်မှန်၍ စည်းကမ်းပြည့်ဝသော ပါတီစုံဒီမိုကရေစီစနစ် ထွန်းကားရေး၊

(င) နိုင်ငံတော်၌ တရားမျှတခြင်း၊ လွတ်လပ်ခြင်းနှင့် ညီမျှခြင်းတည်းဟူသော လောကပါလတရားများ ပိုမိုထွန်းကားရေးနှင့်

(စ) နိုင်ငံတော်၏ အမျိုးသားနိုင်ငံရေးဦးဆောင်မှုအခန်းကဏ္ဍတွင် တပ်မတော်က ပါဝင်ထမ်းဆောင်နိုင်ရေးတို့ကို အစဉ်တစိုက်ဦးတည်သည်။

၇။ နိုင်ငံတော်သည် စစ်မှန်၍စည်းကမ်းပြည့်ဝသော ပါတီစုံဒီမိုကရေစီစနစ်ကို ကျင့်သုံး သည်။

၈။ နိုင်ငံတော်ကို ပြည်ထောင်စုစနစ်ဖြင့် ဖွဲ့စည်းတည်ဆောက်သည်။

9. (a) The existing seven Divisions are designated as seven Regions and the existing seven States are designated as seven States. Those seven Regions and seven States are of equal status.

(b) The names of those seven Regions and seven States are retained as they exist.

(c) If it is desired to change the name of a Region or a State, it shall be done so with the enactment of a law after ascertaining the desire of citizens residing in the Region or State concerned.

10. No part of the territory constituted in the Union such as Regions, States, Union Territories and Self-Administered Areas shall ever secede from the Union.

11. (a) The three branches of sovereign power namely, legislative power, executive power and judicial power are separated, to the extent possible, and exert reciprocal control, check and balance among themselves.

(b) The three branches of sovereign power, so separated are shared among the Union, Regions, States and Self-Administered Areas.

12. (a) The legislative power of the Union is shared among the Pyidaungsu Hluttaw, Region Hluttaws and State Hluttaws. Legislative power stipulated by this Constitution shall be shared to the Self-Administered Areas.

(b) The Pyidaungsu Hluttaw consisting of two Hluttaws, one Hluttaw elected on the basis of township as well as population, and the other on an equal number of representatives elected from Regions and States.

၉။ (က) ရှိရင်းစွဲတိုင်း(၇)တိုင်းကို တိုင်းဒေသကြီး(၇)ခု အဖြစ်လည်းကောင်း၊ ရှိရင်းစွဲ ပြည်နယ်(၇)ပြည်နယ်ကို ပြည်နယ်(၇)ပြည်နယ် အဖြစ်လည်းကောင်း ပိုင်းခြား သတ်မှတ်သည်။ ထိုတိုင်းဒေသကြီး(၇)ခုနှင့် ပြည်နယ်(၇)ပြည်နယ်တို့သည် အဆင့်အတန်းတူညီကြသည်၊

(ခ) ထိုတိုင်းဒေသကြီး(၇)ခုနှင့် ပြည်နယ်(၇)ပြည်နယ်တို့၏ အမည်များကို ရှိရင်းစွဲ အတိုင်း ခေါ်ဆိုသုံးနှုန်းသည်၊

(ဂ) တိုင်းဒေသကြီးတစ်ခုခု၏အမည်ကိုဖြစ်စေ၊ ပြည်နယ်တစ်နယ်နယ်၏အမည်ကို ဖြစ်စေ ပြောင်းလဲသတ်မှတ်လိုလျှင် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းနေထိုင်ကြသော နိုင်ငံသားများ၏ဆန္ဒရယူပြီး ဥပဒေပြဋ္ဌာန်း ခြင်းဖြင့် ပြောင်းလဲသတ်မှတ်ရမည်။

၁၀။ နိုင်ငံတော်တွင်ပါဝင်သည့် တိုင်းဒေသကြီးများ၊ ပြည်နယ်များ၊ ပြည်ထောင်စု နယ်မြေများ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုများစသည့် နိုင်ငံတော်၏နယ်မြေအပိုင်းအခြား ဟူသမျှသည် နိုင်ငံတော်မှ မည်သည့်အခါမျှ ခွဲမထွက်ရ။

၁၁။ (က) နိုင်ငံတော်အချုပ်အခြာအာဏာ၏ ခက်မသုံးဖြာဖြစ်သည့် ဥပဒေပြုရေး အာဏာ၊ အုပ်ချုပ်ရေးအာဏာနှင့် တရားစီရင်ရေးအာဏာတို့ကို တတ်နိုင်သမျှ ပိုင်းခြားသုံးစွဲခြင်းနှင့် အချင်းချင်းအပြန်အလှန်ထိန်းကျောင်းခြင်းတို့ပြုသည်၊

(ခ) ထိုသို့ပိုင်းခြားထားသည့် နိုင်ငံတော်အာဏာသုံးရပ်ကို ပြည်ထောင်စု၊ တိုင်းဒေသကြီးများ၊ ပြည်နယ်များနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုများအား ခွဲဝေအပ်နှင်းသည်။

၁၂။ (က) နိုင်ငံတော်၏ ဥပဒေပြုရေးအာဏာကို ပြည်ထောင်စုလွှတ်တော်၊ တိုင်း ဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော်များအား ခွဲဝေအပ်နှင်းသည်။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုများအား ဤဖွဲ့စည်းပုံအခြေခံဥပဒေက သတ်မှတ်သော ဥပဒေပြုရေးအာဏာကို ခွဲဝေအပ်နှင်းသည်၊

(ခ) ပြည်ထောင်စုလွှတ်တော်တွင် မြို့နယ်ကိုအခြေခံ၍လည်းကောင်း၊ လူဦးရေကို အခြေခံ၍လည်းကောင်း၊ ရွေးကောက်တင်မြှောက်သည့် လွှတ်တော်တစ်ရပ်၊ တိုင်းဒေသကြီးများနှင့် ပြည်နယ်များမှ ကိုယ်စားလှယ်ဦးရေ တူညီစွာ ရွေးကောက်တင်မြှောက်သည့် လွှတ်တော်တစ်ရပ်ဟူ၍ လွှတ်တော်နှစ်ရပ် ပါရှိသည်။

13. There shall be a Region Hluttaw in each of the seven Regions, and a State Hluttaw in each of the seven States.

14. The Pyidaungsu Hluttaw, the Region Hluttaws and the State Hluttaws include the Defence Services personnel as Hluttaw representatives nominated by the Commander-in-Chief of the Defence Services in numbers stipulated by this Constitution.

15. For National races with suitable population, National races representatives are entitled to participate in legislature of Regions or States and Self-Administered Areas concerned.

16. The Head of the Union and the Head of Executive of the Union is the President.

17. (a) The executive power of the Union is shared among the Pyidaungsu, Regions and States; Self-Administrative power shall be shared between Self-Administered Areas as prescribed by this Constitution.

(b) In the executive of the Union, Regions, States, Union Territory, Self-Administered Areas and districts, Defence Services personnel, nominated by the Commander-in-Chief of the Defence Services to undertake responsibilities of the defence, security, border administration, so forth, shall be included.

(c) For National races of which representatives are so permitted to participate in legislature of Regions, States or Self-Administered Areas in accord with Section 15, such representatives are to be permitted to participate, mainly, to undertake their National races affairs.

၁၃။ တိုင်းဒေသကြီး(၇)ခုတွင် တိုင်းဒေသကြီးလွှတ်တော်တစ်ရပ်စီနှင့် ပြည်နယ်(၇) ပြည်နယ်တွင် ပြည်နယ်လွှတ်တော်တစ်ရပ်စီ ရှိသည်။

၁၄။ ပြည်ထောင်စုလွှတ်တော်၊ တိုင်းဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော်များတွင် လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ သတ်မှတ်သည့်ဦးရေ အတိုင်း တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က အမည်စာရင်းတင်သွင်းသည့် တပ်မတော်သားများ ပါဝင်သည်။

၁၅။ လျော်ကန်သင့်မြတ်သော လူဦးရေရှိသည့် တိုင်းရင်းသားလူမျိုးများအတွက် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စု ဥပဒေပြုရေးတွင် ထိုတိုင်းရင်းသားလူမျိုးကိုယ်စားလှယ်များ ပါဝင်ခွင့်ရှိသည်။

၁၆။ နိုင်ငံတော်အကြီးအကဲနှင့် နိုင်ငံတော်အုပ်ချုပ်ရေးအကြီးအကဲသည် နိုင်ငံတော်သမ္မတ ဖြစ်သည်။

၁၇။ (က) နိုင်ငံတော်အုပ်ချုပ်ရေးအာဏာကို ပြည်ထောင်စု၊ တိုင်းဒေသကြီးနှင့် ပြည်နယ်များအား ခွဲဝေအပ်နှင်းသည်။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုများအား ကိုယ်ပိုင်အုပ်ချုပ်ရေးအာဏာကို ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ သတ်မှတ်ပေးသည့်အတိုင်း ခွဲဝေအပ်နှင်းသည်၊

(ခ) ပြည်ထောင်စု၊ တိုင်းဒေသကြီးနှင့် ပြည်နယ်၊ ပြည်ထောင်စုနယ်မြေ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုနှင့် ခရိုင်အုပ်ချုပ်ရေးတို့တွင် ကာကွယ်ရေး၊ လုံခြုံရေး၊ နယ်စပ်အုပ်ချုပ်ရေးစသည့် တာဝန်များထမ်းဆောင်ရန် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က အမည်စာရင်းတင်သွင်းသည့် တပ်မတော်သားများ ပါဝင်သည်၊

(ဂ) ပုဒ်မ ၁၅ အရ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုဥပဒေပြုရေးတွင် ကိုယ်စားလှယ် ပါဝင်ခွင့် ရရှိသည့် တိုင်းရင်းသားလူမျိုးဖြစ်လျှင် ထိုတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စု အုပ်ချုပ်ရေးတွင် အဓိကအားဖြင့် ထိုတိုင်းရင်းသား လူမျိုးများရေးရာကို ဆောင်ရွက်နိုင်ရေးအတွက် တိုင်းရင်းသားလူမျိုး ကိုယ်စားလှယ်များ ပါဝင်ခွင့်ပြုရမည်။

18. (a) The judicial power of the Union is shared among the Supreme Court of the Union, High Courts of the Regions, High Courts of the States and Courts of different levels including Courts of Self-Administered Areas.

(b) There shall be one Supreme Court of the Union. The Supreme Court of the Union is the highest Court of the Republic.

(c) The Supreme Court of the Union has powers to issue writs.

(d) A High Court of the Region or State is constituted in each Region or State.

19. The following are prescribed as judicial principles :

(a) to administer justice independently according to law;

(b) to dispense justice in open court unless otherwise prohibited by law;

(c) to guarantee in all cases the right of defence and the right of appeal under law.

20. (a) The Defence Services is the sole patriotic defence force which is strong, competent and modern.

(b) The Defence Services has the right to independently administer and adjudicate all affairs of the armed forces.

(c) The Commander-in-Chief of the Defence Services is the Supreme Commander of all armed forces.

(d) The Defence Services has the right to administer for participation of the entire people in Union security and defence.

(e) The Defence Services is mainly responsible for safeguarding the non-disintegration of the Union, the non-disintegration of National solidarity and the perpetuation of sovereignty.

(f) The Defence Services is mainly responsible for safeguarding the Constitution.

၁၈။ (က) နိုင်ငံတော်၏တရားစီရင်ရေးအာဏာကို ပြည်ထောင်စုတရားလွှတ်တော်ချုပ်၊ တိုင်းဒေသကြီးတရားလွှတ်တော်များ၊ ပြည်နယ်တရားလွှတ်တော်များနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုတရားရုံးများ အပါအဝင် အဆင့်ဆင့်သော တရားရုံးများအား ခွဲဝေအပ်နှင်းသည်၊

(ခ) ပြည်ထောင်စုတွင် ပြည်ထောင်စုတရားလွှတ်တော်ချုပ်တစ်ရပ် ထားရှိသည်။ ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည် နိုင်ငံတော်၏အမြင့်ဆုံး တရားရုံး ဖြစ်သည်၊

(ဂ) ပြည်ထောင်စုတရားလွှတ်တော်ချုပ်တွင် စာချွန်တော်အမိန့်များ ထုတ်ပိုင်ခွင့် အာဏာများရှိသည်၊

(ဃ) တိုင်းဒေသကြီးတိုင်းတွင် တိုင်းဒေသကြီးတရားလွှတ်တော် တစ်ရပ်စီ လည်းကောင်း၊ ပြည်နယ်တိုင်းတွင် ပြည်နယ်တရားလွှတ်တော် တစ်ရပ်စီ လည်းကောင်း ထားရှိသည်။

၁၉။ အောက်ပါတို့ကို တရားစီရင်ရေးမူများအဖြစ် သတ်မှတ်သည် -

(က) ဥပဒေနှင့်အညီ လွတ်လပ်စွာတရားစီရင်ရေး၊

(ခ) ဥပဒေအရကန့်သတ်ချက်များမှအပ ပြည်သူ့ရှေ့မှောက်တွင် တရားစီရင်ရေး၊

(ဂ) အမှုများတွင် ဥပဒေအရ ခုခံချေပခွင့်နှင့် အယူခံပိုင်ခွင့်ရရှိရေး။

၂၀။ (က) တပ်မတော်သည် အင်အားတောင့်တင်းပြီး စွမ်းရည်ထက်မြက်သော ခေတ်မီ သည့် တစ်ခုတည်းသော မျိုးချစ်တပ်မတော် ဖြစ်သည်၊

(ခ) တပ်မတော်သည် တပ်ပိုင်းဆိုင်ရာကိစ္စအားလုံးကို လွတ်လပ်စွာစီမံခန့်ခွဲ စီရင်ဆောင်ရွက်ပိုင်ခွင့် ရှိသည်၊

(ဂ) တပ်မတော်ကာကွယ်ရေးဦးစီးချုပ်သည် လက်နက်ကိုင်တပ်ဖွဲ့အားလုံး၏ အကြီးအကဲ ဖြစ်သည်၊

(ဃ) တပ်မတော်သည် နိုင်ငံတော်လုံခြုံရေးနှင့်ကာကွယ်ရေးတွင် ပြည်သူ တစ်ရပ်လုံး ပါဝင်ရေးအတွက် စီမံဆောင်ရွက်ခွင့် ရှိသည်၊

(င) ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေးနှင့် အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေးတို့ကို ကာကွယ်စောင့်ရှောက်ရန် တပ်မတော်တွင် အဓိကတာဝန် ရှိသည်၊

(စ) တပ်မတော်သည် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေကို ကာကွယ် စောင့်ရှောက်ရန် အဓိကတာဝန် ရှိသည်။

21. (a) Every citizen shall enjoy the right of equality, the right of liberty and the right of justice, as prescribed in this Constitution.

(b) No citizen shall be placed in custody for more than 24 hours without the permission of a Court.

(c) Every citizen is responsible for public peace and tranquility and prevalence of law and order.

(d) Necessary law shall be enacted to make citizens' freedoms, rights, benefits, responsibilities and restrictions effective, steadfast and complete.

22. The Union shall assist :

(a) to develop language, literature, fine arts and culture of the National races;

(b) to promote solidarity, mutual amity and respect and mutual assistance among the National races;

(c) to promote socio-economic development including education, health, economy, transport and communication, so forth, of less-developed National races.

23. The Union shall :

(a) enact necessary laws to protect the rights of the peasants;

(b) assist peasants to obtain equitable value of their agricultural produce.

24. The Union shall enact necessary laws to protect the rights of workers.

25. The Union shall assist to promote the interests of the intellectuals and intelligentsia.

၂၁။ (က) နိုင်ငံသားတိုင်းသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေတွင် သတ်မှတ်ပြဋ္ဌာန်းထားသည့် တန်းတူညီမျှမှုအခွင့်အရေး၊ လွတ်လပ်မှုအခွင့်အရေး၊ တရားမျှတမှုအခွင့်အရေးတို့ ခံစားခွင့် ရှိသည်၊

(ခ) တရားရုံး၏ ခွင့်ပြုချက်မရရှိက နိုင်ငံသားတစ်ဦးကို ၂၄ နာရီထက် ကျော်လွန်၍ ချုပ်နှောင်ထားခွင့် မရှိစေရ၊

(ဂ) ပြည်သူတို့၏ အေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေးတို့သည် နိုင်ငံသားတိုင်း၏တာဝန် ဖြစ်သည်၊

(ဃ) နိုင်ငံသားများ၏ လွတ်လပ်ခွင့်၊ လုပ်ပိုင်ခွင့်၊ ခံစားခွင့်၊ တာဝန်နှင့် တားမြစ်ချက်များ ထိရောက်ခိုင်မာပြည့်စုံစေရန် လိုအပ်သောဥပဒေ ပြဋ္ဌာန်းရမည်။

၂၂။ နိုင်ငံတော်သည် -

(က) တိုင်းရင်းသားများ၏ စကား၊ စာပေ၊ အနုပညာ၊ ယဉ်ကျေးမှုတို့ကို ဖွံ့ဖြိုးတိုးတက်စေရန် ကူညီဆောင်ရွက်မည်၊

(ခ) တိုင်းရင်းသားအချင်းချင်း စည်းလုံးညီညွတ်ရေး၊ ချစ်ကြည်လေးစားရေးနှင့် ရိုင်းပင်းကူညီရေးတို့ တိုးတက်ဖြစ်ထွန်းစေရန် ကူညီဆောင်ရွက်မည်၊

(ဂ) တိုးတက်ဖွံ့ဖြိုးမှုနည်းပါးနေသည့် တိုင်းရင်းသားများ၏ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေး၊ လမ်းပန်းဆက်သွယ်ရေး စသည်တို့ပါဝင်သော လူမှုစီးပွားရေး တိုးတက်ဖွံ့ဖြိုးရေးအတွက် ကူညီဆောင်ရွက်မည်။

၂၃။ နိုင်ငံတော်သည် တောင်သူလယ်သမားများ၏ -

(က) အခွင့်အရေးများ ကာကွယ်စောင့်ရှောက်ရန် လိုအပ်သည့်ဥပဒေများ ပြဋ္ဌာန်းဆောင်ရွက်မည်၊

(ခ) စိုက်ပျိုးထုတ်လုပ်သည့် ကောက်ပဲသီးနှံများ သင့်တင့်မျှတသည့် တန်ဖိုးရရှိရန် ကူညီဆောင်ရွက်မည်။

၂၄။ နိုင်ငံတော်သည် အလုပ်သမားများ၏ အခွင့်အရေးများ ကာကွယ်စောင့်ရှောက်ရန် လိုအပ်သည့်ဥပဒေများ ပြဋ္ဌာန်းဆောင်ရွက်မည်။

၂၅။ နိုင်ငံတော်သည် အသိပညာရှင်၊ အတတ်ပညာရှင်များ၏အကျိုးကို ကူညီဆောင်ရွက်မည်။

26. (a) Civil Services personnel shall be free from party politics.
    (b) The Union shall enact necessary laws for Civil Services personnel to have security and sufficiency of food, clothing and shelter, to get maternity benefits for married women in service, and to ease livelihood for welfare of retired Service personnel.

27. The Union shall assist development, consolidation and preservation of National culture.

28. The Union shall :
    (a) earnestly strive to improve education and health of the people;
    (b) enact the necessary law to enable National people to participate in matters of their education and health;
    (c) implement free, compulsory primary education system;
    (d) implement a modern education system that will promote all-around correct thinking and a good moral character contributing towards the building of the Nation.

29. The Union shall provide inputs, such as technology, investments, machinery, raw materials, so forth, to the extent possible for changeover from manual to mechanized agriculture.

30. The Union shall provide inputs, such as technology, investments, machinery, raw materials, so forth, to the extent possible, for development of industries.

31. The Union shall, to the extent possible, assist to reduce unemployment among the people.

၂၆။ (က) နိုင်ငံ့ဝန်ထမ်းများသည် ပါတီနိုင်ငံရေးနှင့် ကင်းရှင်းရမည်၊
(ခ) နိုင်ငံတော်သည် နိုင်ငံ့ဝန်ထမ်းများ၏ လုပ်ငန်းခွင်အာမခံချက်ရရှိရေး၊ စားဝတ်နေမှုဖူလုံရေး၊ အိမ်ထောင်ရှင်အမျိုးသမီးဝန်ထမ်းများ မီးဖွားခြင်းဆိုင်ရာ အကျိုးခံစားခွင့်ရရှိရေးနှင့် အငြိမ်းစားဝန်ထမ်းများ စားဝတ်နေမှု သက်သာချောင်ချိရေးတို့အတွက် လိုအပ်သည့်ဥပဒေများ ပြဋ္ဌာန်းရမည်။

၂၇။ နိုင်ငံတော်သည် အမျိုးသားယဉ်ကျေးမှု ဖွံ့ဖြိုးတိုးတက်ခိုင်မာရေးနှင့် စောင့်ရှောက်ထိန်းသိမ်းရေးအတွက် ကူညီဆောင်ရွက်မည်။

၂၈။ နိုင်ငံတော်သည် -
(က) ပြည်သူများ၏ ပညာရေးနှင့်ကျန်းမာရေး တိုးတက်စေရေးတို့အတွက် အလေးထားဆောင်ရွက်ရမည်၊
(ခ) ပြည်သူများ၏ ပညာရေးနှင့်ကျန်းမာရေးတို့တွင် တိုင်းရင်းသားပြည်သူများက ပါဝင်ဆောင်ရွက်နိုင်ရန် လိုအပ်မည့်ဥပဒေ ပြဋ္ဌာန်းဆောင်ရွက်ရမည်၊
(ဂ) အခမဲ့မသင်မနေရ မူလတန်းပညာရေးစနစ် ဖော်ဆောင်ရမည်၊
(ဃ) ဘက်စုံအတွေးအခေါ် အယူအဆမှန်ကန်၍ အကျင့်စာရိတ္တကောင်းမွန်ပြီး နိုင်ငံတော်တည်ဆောက်ရေးအတွက် အကျိုးပြုမည့် ခေတ်မီပညာရေးစနစ် ဖော်ဆောင်ရမည်။

၂၉။ နိုင်ငံတော်သည် လက်မှုလယ်ယာမှစက်မှုလယ်ယာသို့ ကူးပြောင်းနိုင်ရန် နည်းပညာ၊ အရင်းအနှီး၊ စက်ပစ္စည်း၊ ကုန်ကြမ်း အစရှိသည်တို့ကို အတတ်နိုင်ဆုံး ဖြည့်ဆည်းရမည်။

၃၀။ နိုင်ငံတော်သည် စက်မှုလက်မှုလုပ်ငန်းများ တိုးတက်ဖွံ့ဖြိုးရေးအတွက် လိုအပ်သည့် နည်းပညာ၊ အရင်းအနှီး၊ စက်ပစ္စည်း၊ ကုန်ကြမ်း အစရှိသည်တို့ကို အတတ်နိုင်ဆုံး ဖြည့်ဆည်းရမည်။

၃၁။ နိုင်ငံတော်သည် ပြည်သူများ အလုပ်လက်မဲ့နည်းပါးစေရန် တတ်နိုင်သမျှ ကူညီဆောင်ရွက်ရမည်။

32. The Union shall :

(a) care for mothers and children, orphans, fallen Defence Services personnel's children, the aged and the disabled;

(b) ensure disabled ex-Defence Services personnel a decent living and free vocational training.

33. The Union shall strive for youth to have strong and dynamic patriotic spirit, the correct way of thinking and to develop the five noble strengths.

34. Every citizen is equally entitled to freedom of conscience and the right to freely profess and practise religion subject to public order, morality or health and to the other provisions of this Constitution.

35. The economic system of the Union is market economy system.

36. The Union shall :

(a) permit all economic forces such as the State, regional organizations, co-operatives, joint-ventures, private individual, so forth, to take part in economic activities for the development of National economy;

(b) protect and prevent acts that injure public interests through monopolization or manipulation of prices by an individual or group with intent to endanger fair competition in economic activities;

(c) strive to improve the living standards of the people and development of investments;

၃၂။ နိုင်ငံတော်သည် -

(က) မိခင်နှင့်ကလေးသူငယ်များ၊ မိဘမဲ့ကလေးများ၊ ကျဆုံးသောတပ်မတော်သားများ၏ ကလေးများ၊ အိုမင်းမစွမ်းသူများ၊ မသန်မစွမ်းသူများအား ကြည့်ရှုစောင့်ရှောက်ရမည်၊

(ခ) မသန်မစွမ်းဖြစ်လာသော တပ်မတော်သားများအား သင့်တင့်လျောက်ပတ်စွာ နေထိုင်စားသောက်နိုင်စေရန်နှင့် အသက်မွေးပညာကို အခလွတ်သင်ယူနိုင်စေရန် စီမံဆောင်ရွက်ရမည်။

၃၃။ နိုင်ငံတော်သည် လူငယ်များ မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး၊ အတွေးအခေါ် မှန်ကန်ရေးနှင့် ဗလငါးတန် တိုးတက်ဖွံ့ဖြိုးရေးတို့အတွက် ဆောင်ရွက်ရမည်။

၃၄။ ငြိမ်ဝပ်ပိပြားရေးနှင့်သော်လည်းကောင်း၊ ပြည်သူ့ကိုယ်ကျင့်တရားနှင့်သော်လည်းကောင်း၊ ပြည်သူ့ကျန်းမာရေးနှင့်သော်လည်းကောင်း၊ ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ အခြားပြဋ္ဌာန်းချက်တို့နှင့်သော်လည်းကောင်း မဆန့်ကျင်လျှင် နိုင်ငံသားတိုင်းသည် ဘာသာသာသနာရေးတွင် လွတ်လပ်စွာယူဆနိုင်သော အခွင့်အရေး၊ လွတ်လပ်စွာကိုးကွယ်ဆောက်တည်နိုင်သော အခွင့်အရေးတို့ကို အညီအမျှရရှိစေရမည်။

၃၅။ နိုင်ငံတော်၏စီးပွားရေးစနစ်သည် ဈေးကွက်စီးပွားရေးစနစ် ဖြစ်သည်။

၃၆။ နိုင်ငံတော်သည် -

(က) အမျိုးသားစီးပွားရေး တိုးတက်ဖွံ့ဖြိုးရေးအတွက် နိုင်ငံတော်၊ ဒေသဆိုင်ရာအဖွဲ့အစည်းများ၊ သမဝါယမအဖွဲ့အစည်းများ၊ ဖက်စပ်အဖွဲ့အစည်းများ၊ ပုဂ္ဂလိကစသည့် စီးပွားရေးအင်အားစုအားလုံးကို စီးပွားရေးလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခွင့်ပြုသည်၊

(ခ) စီးပွားရေးလုပ်ငန်းများတွင် တရားသဖြင့်ယှဉ်ပြိုင်ခြင်းကို ပျက်ပြားစေရန် တစ်ဦးတစ်ယောက်ကဖြစ်စေ၊ အစုအဖွဲ့ကဖြစ်စေ လက်ဝါးကြီးအုပ်ဆောင်ရွက်မှု သို့မဟုတ် ဈေးကစားမှုပြုခြင်းဖြင့် အများပြည်သူတို့၏ အကျိုးစီးပွားကို ထိခိုက်နစ်နာစေခြင်းမှ တားဆီးကာကွယ်မည်၊

(ဂ) အများပြည်သူတို့၏ နေထိုင်မှုအဆင့်အတန်းမြှင့်တင်ရေးနှင့် အထွေထွေအရင်းအနှီးများ တိုးတက်ဖွံ့ဖြိုးရေးတို့ကို ရှေးရှုဆောင်ရွက်မည်၊

(d) not nationalize economic enterprises;

(e) not demonetize the currency legally in circulation.

37. The Union :

(a) is the ultimate owner of all lands and all natural resources above and below the ground, above and beneath the water and in the atmosphere in the Union;

(b) shall enact necessary law to supervise extraction and utilization of State-owned natural resources by economic forces;

(c) shall permit citizens right of private property, right of inheritance, right of private initiative and patent in accord with the law.

38. (a) Every citizen shall have the right to elect and be elected in accord with the law.

(b) Electorate concerned shall have the right to recall elected people's representatives in accord with the provisions of this Constitution.

39. The Union shall enact necessary law to systematically form political parties for flourishing of a genuine, disciplined multi-party democratic system.

40. (a) If there arises a state of emergency characterized by inability to perform executive functions in accord with the provisions of the Constitution in a Region or a State or a Self-Administered Area, the President is empowered to exercise executive power in that Region, State or Self-Administered Area and, if necessary in doing so, the President is empowered to exercise

(ဃ) စီးပွားရေးဆိုင်ရာလုပ်ငန်းများကို နိုင်ငံပိုင်သိမ်းယူခြင်းမပြု၊

(င) တရားဝင်ထုတ်ဝေထားသော ငွေကြေးကို တရားမဝင်ငွေကြေးအဖြစ် သတ်မှတ်ခြင်းမပြု။

၃၇။ နိုင်ငံတော်သည် -

(က) နိုင်ငံတော်ရှိ မြေအားလုံး၊ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက် နှင့် လေထု အတွင်းရှိ သယံဇာတပစ္စည်းအားလုံး၏ ပင်ရင်းပိုင်ရှင် ဖြစ်သည်၊

(ခ) နိုင်ငံပိုင်သယံဇာတပစ္စည်းများအား စီးပွားရေးအင်အားစုများက ထုတ်ယူ သုံးစွဲခြင်းကို ကွပ်ကဲကြီးကြပ်နိုင်ရန် လိုအပ်သည့်ဥပဒေ ပြဋ္ဌာန်းရမည်၊

(ဂ) နိုင်ငံသားများအား ပစ္စည်းပိုင်ဆိုင်ခွင့်၊ အမွေဆက်ခံခွင့်၊ ကိုယ်ပိုင်လုပ်ကိုင်ခွင့်၊ တီထွင်ခွင့်နှင့် မူပိုင်ခွင့်တို့ကို ဥပဒေပြဋ္ဌာန်းချက်နှင့်အညီ ခွင့်ပြုရမည်။

၃၈။ (က) နိုင်ငံသားတိုင်းသည် ဥပဒေနှင့်အညီ ရွေးကောက်တင်မြှောက်ခွင့်နှင့် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့် ရှိသည်၊

(ခ) ရွေးကောက်တင်မြှောက်ထားသော ပြည်သူ့ကိုယ်စားလှယ်ကို သက်ဆိုင်ရာ မဲဆန္ဒရှင်များက ဤဖွဲ့စည်းပုံအခြေခံဥပဒေတွင် ပြဋ္ဌာန်းထားချက်များနှင့် အညီ တာဝန်မှပြန်လည်ရုပ်သိမ်းခွင့် ရှိသည်။

၃၉။ နိုင်ငံတော်သည် စစ်မှန်၍ စည်းကမ်းပြည့်ဝသော ပါတီစုံဒီမိုကရေစီစနစ် ထွန်းကားရေးအတွက် နိုင်ငံရေးပါတီများကို စနစ်တကျဖွဲ့စည်းနိုင်ရန် လိုအပ်သည့်ဥပဒေ ပြဋ္ဌာန်းဆောင်ရွက်ရမည်။

၄၀။ (က) တိုင်းဒေသကြီးတစ်ခုတွင်ဖြစ်စေ၊ ပြည်နယ်တစ်နယ်တွင်ဖြစ်စေ၊ ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရစီရင်စုတစ်စုတွင်ဖြစ်စေ၊ အုပ်ချုပ်ရေးဆိုင်ရာလုပ်ငန်းများကို ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်နိုင်ခြင်း မရှိသည့် အရေးပေါ်အခြေအနေ ပေါ်ပေါက်လျှင် နိုင်ငံတော်သမ္မတသည် ထိုတိုင်းဒေသကြီး၊ ပြည်နယ် သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စု၏ အုပ်ချုပ်ရေးဆိုင်ရာအခွင့်အာဏာကို သုံးစွဲဆောင်ရွက်ခွင့်ရှိသည်။ ထိုသို့ ဆောင်ရွက်ရာ၌ လိုအပ်လျှင် ထိုတိုင်းဒေသကြီး၊ ပြည်နယ် သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုနှင့် သက်ဆိုင်သည့် ဥပဒေပြုအခွင့်အာဏာများကို

legislative powers concerning that Region, State or Self-Administered Area in accord with the provisions of this Constitution.

(b) If there arises or there is sufficient reason to arise a state of emergency endangering life and property of the **people** in a Region, State or Self-Administered Area, the Defence Services has the right, in accord with the provisions of this Constitution, to prevent that danger and provide protection.

(c) If there arises a state of emergency that could cause disintegration of the Union, disintegration of national solidarity and loss of sovereign power or attempts therefore by wrongful forcible means such as insurgency or violence, the Commander-in-Chief of the Defence Services has the right to take over and exercise State sovereign power in accord with the provisions of this Constitution.

41. The Union practises independent, active and non-aligned foreign policy aimed at world peace and friendly relations with nations and upholds the principles of peaceful co-existence among nations.

42. (a) The Union shall not commence aggression against any nation.

(b) No foreign troops shall be permitted to be deployed in the territory of the Union.

43. No Penal law shall be enacted to provide retrospective effect.

44. No penalty shall be prescribed that violates human dignity.

45. The Union shall protect and conserve natural environment.

ဤဖွဲ့စည်းပုံအခြေခံဥပဒေတွင် သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံတော် သမ္မတက သုံးစွဲဆောင်ရွက်ခွင့် ရှိသည်၊

(ခ) တိုင်းဒေသကြီးတစ်ခုတွင်ဖြစ်စေ၊ ပြည်နယ်တစ်နယ်တွင်ဖြစ်စေ၊ ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရစီရင်စုတစ်စုတွင်ဖြစ်စေ၊ ပြည်သူများ၏ အသက်အိုးအိမ် စည်းစိမ်ကို ထိပါးအန္တရာယ်ပြုမည့် အရေးပေါ်အခြေအနေ ပေါ်ပေါက်လျှင် သို့မဟုတ် ပေါ်ပေါက်ရန် လုံလောက်သောအကြောင်းရှိလျှင် ထိုအန္တရာယ်ကို တပ်မတော်သည် ဤဖွဲ့စည်းပုံအခြေခံဥပဒေတွင် သတ်မှတ်ပြဋ္ဌာန်းထားချက် များနှင့်အညီ တားဆီးကာကွယ်စောင့်ရှောက်ခွင့် ရှိသည်၊

(ဂ) နိုင်ငံတော်၏ အချုပ်အခြာအာဏာကို ဆူပူသောင်းကျန်းမှု၊ အကြမ်းဖက်မှု စသော အဓမ္မနည်းဖြင့် ရယူရန်ဆောင်ရွက်ခြင်း၊ သို့မဟုတ် ကြိုးပမ်း အားထုတ်ခြင်းကြောင့် ပြည်ထောင်စုပြိုကွဲစေမည့်၊ တိုင်းရင်းသားစည်းလုံး ညီညွတ်မှုပြိုကွဲစေမည့် သို့မဟုတ် အချုပ်အခြာအာဏာ လက်လွတ်ဆုံးရှုံး စေမည့် အရေးပေါ်အခြေအနေပေါ်ပေါက်လျှင် တပ်မတော်ကာကွယ်ရေး ဦးစီးချုပ်သည် နိုင်ငံတော်အာဏာကို ဤဖွဲ့စည်းပုံအခြေခံဥပဒေတွင် သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ ရယူသုံးစွဲခွင့် ရှိသည်။

၄၁။ နိုင်ငံတော်သည် လွတ်လပ်၍တက်ကြွပြီး ဘက်မလိုက်သော နိုင်ငံခြားရေးဝါဒကို ကျင့်သုံးသည်။ ကမ္ဘာ့ငြိမ်းချမ်းရေးနှင့် နိုင်ငံအချင်းချင်း မိတ်ဝတ်မပျက်ပေါင်းဖက် ဆက်ဆံရေး ကိုရှေးရှုသည်။ နိုင်ငံအချင်းချင်း ငြိမ်းချမ်းစွာအတူယှဉ်တွဲနေထိုင်ရေးမူများကို စောင့်ထိန်းသည်။

၄၂။ (က) နိုင်ငံတော်သည် မည်သည့်နိုင်ငံကိုမျှ စတင်ကျူးကျော်တိုက်ခိုက်ခြင်းမပြု၊

(ခ) နိုင်ငံတော်အတွင်း မည်သည့်နိုင်ငံခြားတပ်ဖွဲ့ကိုမျှ တပ်ချခွင့်မပြု။

၄၃။ မည်သည့်ပြစ်မှုဆိုင်ရာဥပဒေမျှ နောက်ကြောင်းပြန်အာဏာ သက်ရောက်စေရန် ပြဋ္ဌာန်းခွင့် မရှိစေရ။

၄၄။ လူ့သိက္ခာညှိုးနွမ်းသေးသိမ်စေသည့် ပြစ်ဒဏ်ပြဋ္ဌာန်းခွင့် မရှိစေရ။

၄၅။ နိုင်ငံတော်သည် သဘာဝပတ်ဝန်းကျင်ကို ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ရမည်။

46. A Constitutional Tribunal shall be set up to interpret the provisions of the Constitution, to scrutinize whether or not laws enacted by the Pyidaungsu Hluttaw, the Region Hluttaws and the State Hluttaws and functions of executive authorities of Pyidaungsu, Regions, States and Self-Administered Areas are in conformity with the Constitution, to decide on disputes relating to the Constitution between Pyidaungsu and Regions, between Pyidaungsu and States, among Regions, among States, and between Regions or States and Self-Administered Areas and among Self-Administered Areas themselves, and to perform other duties prescribed in this Constitution.

47. The Basic Principles set forth in this Chapter, and Chapter 8, Citizen, Fundamental Rights, and Duties of the Citizen, the term "Union" means person or body exercising the legislative or executive authority of the Union under this Constitution according as the context may require.

48. The Basic Principles of the Union shall be the guidance in enacting laws by legislature and in interpreting the provisions of this Constitution and other laws.

၄၆။ ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို အနက်အဓိပ္ပာယ်ဖွင့်ဆိုခြင်း၊ ပြည်ထောင်စုလွှတ်တော်၊ တိုင်းဒေသကြီးလွှတ်တော်များနှင့် ပြည်နယ်လွှတ်တော်များက ပြဋ္ဌာန်းသည့် ဥပဒေများသည်လည်းကောင်း၊ ပြည်ထောင်စု၊ တိုင်းဒေသကြီးများ၊ ပြည်နယ်များနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုများ၏ အုပ်ချုပ်မှုဆိုင်ရာအာဏာပိုင်များ၏ ဆောင်ရွက်ချက်များသည်လည်းကောင်း၊ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် ညီညွတ်မှုရှိမရှိစိစစ်ခြင်း၊ ပြည်ထောင်စုနှင့် တိုင်းဒေသကြီးအကြား၊ ပြည်ထောင်စုနှင့် ပြည်နယ်အကြား၊ တိုင်းဒေသကြီးအချင်းချင်း၊ ပြည်နယ်အချင်းချင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုအကြား၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုအချင်းချင်း ဖြစ်ပေါ်သည့် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ အငြင်းပွားမှုများကို ကြားနာဆုံးဖြတ်ခြင်းနှင့် ဤဖွဲ့စည်းပုံ အခြေခံဥပဒေက အပ်နှင်းသည့် အခြားတာဝန်များ ဆောင်ရွက်ခြင်းတို့ကို ပြုနိုင်ရန် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးတစ်ရုံးကို ဖွဲ့စည်းရမည်။

၄၇။ ဤအခန်းပါအခြေခံမူများနှင့် အခန်း(၈)၊ နိုင်ငံသား၊ နိုင်ငံသားများ၏ မူလအခွင့်အရေးနှင့်တာဝန်များ အခန်းတွင်ပါရှိသော "နိုင်ငံတော်" ဆိုသည်မှာ ရှေ့နောက် စကားရပ်တို့၏ အဓိပ္ပာယ်ကိုထောက်၍ ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ ဥပဒေပြုမှုအခွင့်အာဏာကိုသော်လည်းကောင်း၊ အုပ်ချုပ်မှုအခွင့်အာဏာကိုသော်လည်းကောင်း ကျင့်သုံးသော အဖွဲ့အစည်း သို့မဟုတ် ပုဂ္ဂိုလ်ကိုဆိုလိုသည်။

၄၈။ နိုင်ငံတော်အခြေခံမူများသည် ဥပဒေပြုလွှတ်တော်များက ဥပဒေပြဋ္ဌာန်းရာတွင်လည်းကောင်း၊ ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့် အခြားဥပဒေများပါ ပြဋ္ဌာန်းချက်များကို သက်ဆိုင်ရာက အနက်အဓိပ္ပာယ်ဖွင့်ဆိုရာတွင်လည်းကောင်း လိုက်နာရမည့်လမ်းညွှန်များ ဖြစ်သည်။

# Chapter II

# State Structure

49. The Union is delineated and constituted by seven Regions, seven States and the Union territories as follows :

(a) Kachin State;

(b) Kayah State;

(c) Kayin State;

(d) Chin State;

(e) Sagaing Region;

(f) Taninthayi Region;

(g) Bago Region;

(h) Magway Region;

(i) Mandalay Region;

(j) Mon State;

(k) Rakhine State;

(l) Yangon Region;

(m) Shan State;

(n) Ayeyawady Region; and

(o) Union territories.

50. (a) Nay Pyi Taw, the capital of the Union, prescribed as Union territory, shall be under the direct administration of the President.

# အခန်း (၂)
# နိုင်ငံတော်ဖွဲ့စည်းတည်ဆောက်ပုံ

၄၉။ နိုင်ငံတော်ကို အောက်ပါတိုင်းဒေသကြီး(၇)ခု၊ ပြည်နယ်(၇)ပြည်နယ်နှင့် ပြည်ထောင်စုနယ်မြေများဖြင့် ပိုင်းခြားသတ်မှတ်သည် -

(က) ကချင်ပြည်နယ်၊
(ခ) ကယားပြည်နယ်၊
(ဂ) ကရင်ပြည်နယ်၊
(ဃ) ချင်းပြည်နယ်၊
(င) စစ်ကိုင်းတိုင်းဒေသကြီး၊
(စ) တနင်္သာရီတိုင်းဒေသကြီး၊
(ဆ) ပဲခူးတိုင်းဒေသကြီး၊
(ဇ) မကွေးတိုင်းဒေသကြီး၊
(ဈ) မန္တလေးတိုင်းဒေသကြီး၊
(ည) မွန်ပြည်နယ်၊
(ဋ) ရခိုင်ပြည်နယ်၊
(ဌ) ရန်ကုန်တိုင်းဒေသကြီး၊
(ဍ) ရှမ်းပြည်နယ်၊
(ဎ) ဧရာဝတီတိုင်းဒေသကြီးနှင့်
(ဏ) ပြည်ထောင်စုနယ်မြေများ။

၅၀။ (က) နိုင်ငံတော်၏မြို့တော်ဖြစ်သည့် နေပြည်တော်ကို နိုင်ငံတော်သမ္မတ၏ တိုက်ရိုက်အုပ်ချုပ်မှုအောက်တွင်ထားရှိသည့် ပြည်ထောင်စုနယ်မြေအဖြစ် သတ်မှတ်သည်၊

(b) If there arises a need to specify areas that have special situations concerning national defence, security, administration and economy, so forth, those areas may be prescribed as Union territories under the direct administration of the President after enacting law.

51. The Union is constituted as follows :

(a) villages are organized as village-tract;

(b) wards are organized as town or township;

(c) village-tracts and wards or towns are organized as township;

(d) townships are organized as district;

(e) districts are organized as Region or State;

(f) townships in a Self-Administered Zone are organized as Self-Administered Zone;

(g) townships in a Self-Administered Division are organized as District and such Districts are organized as Self-Administered Division;

(h) If there are Self-Administrated Zone or Self-Administered Division in a Region or a State, those Self-Administered Divisions, Self-Administered Zones and Districts are organized as Region or State;

(i) Regions, States and Union territories are organized as the Republic.

52. (a) If there arises a need to re-delineate the territorial boundary of the Union, the President shall firstly intimate the Head of the Pyidaungsu Hluttaw to ask for the opinion of the Pyidaungsu Hluttaw.

(ခ) နိုင်ငံတော် ကာကွယ်ရေး၊ လုံခြုံရေး၊ အုပ်ချုပ်ရေး၊ စီးပွားရေးစသည်တို့နှင့် စပ်လျဉ်းပြီး ထူးခြားသောအခြေအနေရှိသည့်နယ်မြေများကို ပြည်ထောင်စု နယ်မြေအဖြစ် သတ်မှတ်ရန်လိုအပ်လျှင် ဥပဒေပြဋ္ဌာန်းပြီး နိုင်ငံတော်သမ္မတ၏ တိုက်ရိုက်အုပ်ချုပ်မှုအောက်တွင်ထားရှိသည့် ပြည်ထောင်စုနယ်မြေအဖြစ် သတ်မှတ်နိုင်သည်။

၅၁။ နိုင်ငံတော်ကို အောက်ပါအတိုင်း စုစည်းသည် -

(က) ကျေးရွာများကို ကျေးရွာအုပ်စုအဖြစ် စုစည်းသည်၊

(ခ) ရပ်ကွက်များကို မြို့ သို့မဟုတ် မြို့နယ်အဖြစ် စုစည်းသည်၊

(ဂ) ကျေးရွာအုပ်စုနှင့်ရပ်ကွက်များ သို့မဟုတ် မြို့များကို မြို့နယ်အဖြစ်စုစည်းသည်၊

(ဃ) မြို့နယ်များကို ခရိုင်အဖြစ် စုစည်းသည်၊

(င) ခရိုင်များကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဖြစ် စုစည်းသည်၊

(စ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသတွင် ထိုဒေသအတွင်းရှိ မြို့နယ်များကို ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသအဖြစ် စုစည်းသည်၊

(ဆ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းတွင် ထိုတိုင်းအတွင်းရှိ မြို့နယ်များကို ခရိုင်အဖြစ် စုစည်းပြီး ယင်းခရိုင်များကို ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းအဖြစ် စုစည်းသည်၊

(ဇ) တိုင်းဒေသကြီးတစ်ခု သို့မဟုတ် ပြည်နယ်တစ်နယ်တွင် ကိုယ်ပိုင်အုပ်ချုပ် ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသရှိပါက ကိုယ်ပိုင်အုပ်ချုပ် ခွင့်ရတိုင်း၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသနှင့် ခရိုင်များကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဖြစ် စုစည်းသည်၊

(ဈ) တိုင်းဒေသကြီးများ၊ ပြည်နယ်များနှင့် ပြည်ထောင်စုနယ်မြေများကို နိုင်ငံတော် အဖြစ် စုစည်းသည်။

၅၂။ (က) နိုင်ငံတော်နယ်နိမိတ်ကို ပြင်ဆင်သတ်မှတ်ရန် လိုအပ်ပါက နိုင်ငံတော် သမ္မတသည် ပြည်ထောင်စုလွှတ်တော်အကြီးအမှူးထံ နိုင်ငံတော်နယ်နိမိတ် ပြင်ဆင်သတ်မှတ်ရေးအတွက် ပြည်ထောင်စုလွှတ်တော်၏ သဘောထားကို ရယူပေးပါရန် ပထမဦးစွာ အကြောင်းကြားရမည်၊

(b) The Head of the Pyidaungsu Htuttaw, after receiving the intimation of the President, shall obtain the opinion of the Hluttaw representatives as follows :

(i) assenting votes of more than half of the total number of representatives in the Hluttaw, elected in equal numbers from Regions and States;

(ii) assenting votes of more than half of the total number of representatives in the Hluttaw, elected as representatives on the basis of township as well as population;

(iii) assenting votes of more than half of the total number of representatives of the two Hluttaws from the Region or State involved in the boundary concerned.

(c) The Head of the Pyidaungsu Hluttaw, after obtaining the assenting votes as mentioned above, shall inform the President for re-delineating the territorial boundary of the Union as necessary.

(d) In accord with the above-mentioned procedures, if either of the Hluttaws, or representatives from the Region or State involved in the territorial boundary concerned resolve against re-delineation, the opinion of the Pyidaungsu Hluttaw shall be obtained. If three-fourths and above of the total number of the Pyidaungsu Hluttaw representatives cast assenting votes, the Head of the Pyidaungsu Hluttaw shall inform the President to re-delineate the territorial boundary as necessary.

(ခ) နိုင်ငံတော်နယ်နိမိတ် ပြင်ဆင်သတ်မှတ်ရေးအတွက် နိုင်ငံတော်သမ္မတ၏ အကြောင်းကြားစာ ရရှိသည့်အခါ ပြည်ထောင်စုလွှတ်တော်အကြီးအမှူးသည် အောက်ပါအတိုင်း လွှတ်တော်ကိုယ်စားလှယ်များ၏ဆန္ဒကို ရယူရမည် -

(၁) တိုင်းဒေသကြီးများနှင့်ပြည်နယ်များမှ ကိုယ်စားလှယ်ဦးရေတူညီစွာ ရွေးကောက်တင်မြှောက်ထားသည့် လွှတ်တော်တွင် ပါရှိသော လွှတ်တော်ကိုယ်စားလှယ်များ၏ ထက်ဝက်ကျော် ထောက်ခံဆန္ဒမဲ၊

(၂) မြို့နယ်ကို အခြေခံ၍လည်းကောင်း၊ လူဦးရေကို အခြေခံ၍ လည်းကောင်း ရွေးကောက်တင်မြှောက်ထားသည့် လွှတ်တော်တွင် ပါရှိသော ကိုယ်စားလှယ်များ၏ ထက်ဝက်ကျော် ထောက်ခံဆန္ဒမဲ၊

(၃) ထိုလွှတ်တော်နှစ်ရပ်ရှိ သက်ဆိုင်ရာ နယ်နိမိတ်နှင့်အကျုံးဝင်သော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်မှ လွှတ်တော်ကိုယ်စားလှယ်များ၏ ထက်ဝက်ကျော် ထောက်ခံဆန္ဒမဲ။

(ဂ) အထက်ပါအတိုင်း ထောက်ခံဆန္ဒမဲ အသီးသီးရရှိလျှင် နိုင်ငံတော် နယ်နိမိတ်ကို လိုအပ်သလို ပြင်ဆင်သတ်မှတ်ပေးရန် ပြည်ထောင်စုလွှတ်တော်အကြီးအမှူး က နိုင်ငံတော်သမ္မတထံ အကြောင်းကြားရမည်၊

(ဃ) အထက်ပါသတ်မှတ်ထားသော နည်းလမ်းများနှင့်အညီ လွှတ်တော် တစ်ရပ်ရပ်ကဖြစ်စေ၊ ထိုလွှတ်တော်နှစ်ရပ်ရှိ သက်ဆိုင်ရာနယ်နိမိတ်နှင့် အကျုံးဝင်သော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်မှလွှတ်တော် ကိုယ်စားလှယ်များကဖြစ်စေ နယ်နိမိတ်ပြင်ဆင်ရေးနှင့် စပ်လျဉ်းပြီး သဘောမတူကြောင်း ဆုံးဖြတ်လျှင် ပြည်ထောင်စုလွှတ်တော်၏ သဘောထား ကိုရယူဆောင်ရွက်ရမည်။ ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ် စုစုပေါင်း၏ လေးပုံသုံးပုံနှင့်အထက်က ထောက်ခံလျှင် နိုင်ငံတော်နယ်နိမိတ်ကို လိုအပ်သလို ပြင်ဆင်သတ်မှတ်ပေးရန် ပြည်ထောင်စုလွှတ်တော်အကြီးအမှူး က နိုင်ငံတော်သမ္မတထံ အကြောင်းကြားရမည်၊

(e) The President shall take necessary measures for re-delineation of the territorial boundary of the Union, as necessary, after obtaining the opinion of the Pyidaungsu Hluttaw.

53. (a) If there arises a cause to re-delineate the territorial boundary of a Region or a State, the prior consent of the electorate residing within the township concerned shall be obtained.

(b) In obtaining consent, re-delineation of the territorial boundary shall not be executed at all in the absence of assenting votes of more than half of the total number of the electorate residing within the township concerned.

(c) If more than half of the total number of eligible voters residing within the township concerned cast assenting vote for re-delineation of the territorial boundary, the consent of the Hluttaw representatives of the Region or State involved in the territorial boundary concerned shall be obtained.

(d) The President shall re-delineate the territorial boundary of the Region or State concerned with the consent of the Pyidaungsu Hluttaw, after obtaining the assenting votes of three-fourths and above of the total number of representatives from the Region or the State concerned.

(e) The resolution of the Pyidaungsu Hluttaw shall be obtained if a Region Hluttaw or a State Hluttaw concerned decided against re-delineation of the territorial boundary.

(f) The President shall, as necessary, re-delineate the territorial boundary of a Region or a State if three-fourths and above of the total number of representatives in the Pyidaungsu Hluttaw assent to the re-delineation of the territorial boundary.

(င) ပြည်ထောင်စုလွှတ်တော်၏ သဘောထားကို ရရှိသည့်အခါ နိုင်ငံတော် နယ်နိမိတ် ပြင်ဆင်သတ်မှတ်ရေးနှင့် စပ်လျဉ်း၍ နိုင်ငံတော်သမ္မတက လိုအပ်သလို ဆောင်ရွက်ရမည်။

၅၃။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တစ်နယ်၏ နယ်နိမိတ်ကို ပြင်ဆင် သတ်မှတ်ရန် အကြောင်းပေါ် ပေါက်လာပါက ယင်းနယ်နိမိတ်နှင့် အကျုံးဝင် သည့် မြို့နယ်အတွင်း နေထိုင်ကြသော ဆန္ဒမဲပေးပိုင်ခွင့်ရှိသူများ၏ ဆန္ဒသဘောထားကို ဦးစွာပထမရယူရမည်၊

(ခ) ယင်းသို့ရယူသည့်အခါ ယင်းမြို့နယ်အတွင်း နေထိုင်ကြသည့် ဆန္ဒမဲ ပေးပိုင်ခွင့်ရှိသူဦးရေ စုစုပေါင်း၏ ထက်ဝက်ကျော် ထောက်ခံဆန္ဒမဲမရလျှင် ယင်းနယ်နိမိတ် ပြင်ဆင်သတ်မှတ်ခြင်းကို ဆောင်ရွက်ခြင်း လုံးဝမပြုရ၊

(ဂ) ယင်းမြို့နယ်အတွင်း နေထိုင်ကြသောဆန္ဒမဲ ပေးပိုင်ခွင့်ရှိသူဦးရေစုစုပေါင်း၏ ထက်ဝက်ကျော်က နယ်နိမိတ်ပြင်ဆင်သင့်ကြောင်း ထောက်ခံဆန္ဒမဲပေးလျှင် ယင်းနယ်နိမိတ်နှင့် အကျုံးဝင်သည့် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များ၏ ဆန္ဒရယူရမည်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်း၏ လေးပုံသုံးပုံနှင့်အထက် ထောက်ခံဆန္ဒမဲရရှိလျှင် ပြည်ထောင်စု လွှတ်တော်၏ သဘောတူညီချက်ကိုရယူပြီး နိုင်ငံတော်သမ္မတက တိုင်းဒေသ ကြီး သို့မဟုတ် ပြည်နယ်တစ်နယ်၏ နယ်နိမိတ်ကို ပြင်ဆင်သတ်မှတ်ပေးရမည်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် တစ်ရပ်ရပ်က နယ်နိမိတ်ပြင်ဆင်ရန် သဘောမတူကြောင်း ဆုံးဖြတ်လျှင် ပြည်ထောင်စု လွှတ်တော်၏ အဆုံးအဖြတ်ကို ရယူရမည်၊

(စ) ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေ၏ လေးပုံသုံးပုံနှင့် အထက်က နယ်နိမိတ်ပြင်ဆင်သင့်ကြောင်း ထောက်ခံဆန္ဒမဲပေးလျှင် နိုင်ငံတော်သမ္မတက တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏နယ်နိမိတ်ကို လိုအပ်သလို ပြင်ဆင်သတ်မှတ်ပေးရမည်။

54. Where there arises a situation to alter or form the territorial boundary or change the name of a village, village-tract, ward, town, township or district of a Region, State, Self-Administered Division or Self-Administered Zone concerned, the President shall act, as necessary, upon the recommendation of the Chief Minister of the Region or State concerned.

55. If it is desired to change the name of a Self-Administered Division or Self-Administered Zone, the same procedure shall be applied as in the case of changing the name of a Region or State.

56. The Self-Administered Divisions and Self-Administered Zones are delineated as follows :

(a) grouping Leshi, Lahe and Namyun townships in Sagaing Division as Naga Self-Administered Zone;

(b) grouping Ywangan and Pindaya townships in Shan State as Danu Self-Administered Zone;

(c) grouping HoPong, HsiHseng and Pinlaung townships in Shan State as Pa-O Self-Administered Zone;

(d) grouping Namhsan and Manton townships in Shan State as Pa Laung Self-Administered Zone;

(e) grouping Konkyan and Laukkai townships in Shan State as Kokang Self-Administered Zone;

၅၄။ သက်ဆိုင်ရာတိုင်းဒေသကြီး၊ ပြည်နယ်၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသအတွင်း၌ရှိသော ကျေးရွာ၊ ကျေးရွာအုပ်စု၊ ရပ်ကွက်၊ မြို့၊ မြို့နယ် သို့မဟုတ် ခရိုင်နယ်နိမိတ်များ ပြင်ဆင်ရန်၊ ဖွဲ့စည်းရန် သို့မဟုတ် အမည်ပြောင်းလဲရန် ပေါ်ပေါက်လျှင် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က နိုင်ငံတော်သမ္မတထံ ထောက်ခံတင်ပြပြီး နိုင်ငံတော်သမ္မတက လိုအပ်သလို ဆောင်ရွက်ပေးရမည်။

၅၅။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းတစ်ခုခု၏ အမည်ကိုဖြစ်စေ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသတစ်ခုခု၏ အမည်ကိုဖြစ်စေ ပြောင်းလဲသတ်မှတ်လိုလျှင် တိုင်းဒေသကြီးတစ်ခုခု၏ အမည်ကိုဖြစ်စေ၊ ပြည်နယ်တစ်နယ်နယ်၏ အမည်ကိုဖြစ်စေ ပြောင်းလဲသတ်မှတ်သည့် နည်းလမ်းအတိုင်း ပြောင်းလဲသတ်မှတ်ရမည်။

၅၆။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသများကို အောက်ပါအတိုင်း သတ်မှတ်သည် -

(က) စစ်ကိုင်းတိုင်းရှိ လေရှီးမြို့နယ်၊ လဟယ်မြို့နယ်နှင့် နန်းယွန်းမြို့နယ်တို့ကို စုစည်းပြီး နာဂကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ၊

( ခ ) ရှမ်းပြည်နယ်ရှိ ရွာငံမြို့နယ်နှင့် ပင်းတယမြို့နယ်တို့ကို စုစည်းပြီး ဓနုကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ၊

( ဂ ) ရှမ်းပြည်နယ်ရှိ ဟိုပုန်းမြို့နယ်၊ ဆီဆိုင်မြို့နယ်နှင့် ပင်လောင်းမြို့နယ်တို့ကို စုစည်းပြီး ပအိုဝ်းကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ၊

(ဃ) ရှမ်းပြည်နယ်ရှိ နမ့်ဆန်မြို့နယ်နှင့် မန်တုံမြို့နယ်တို့ကို စုစည်းပြီး ပလောင်ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ၊

( င ) ရှမ်းပြည်နယ်ရှိ ကုန်းကြမ်းမြို့နယ်နှင့် လောက်ကိုင်မြို့နယ်တို့ကို စုစည်းပြီး ကိုးကန့်ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ၊

(f) grouping six townships – Hopang, Mongma, Panwai, Nahpan, Metman and Pangsang (Pankham) townships in Shan State as two districts which are forged into 'Wa' Self-Administered Division.

(စ) ရှမ်းပြည်နယ်ရှိ ဟိုပန်မြို့နယ်၊ မိုင်းမောမြို့နယ်၊ ပန်ဝိုင်မြို့နယ်၊ နားဖန်းမြို့နယ်၊ မက်မန်းမြို့နယ်နှင့် ပန်ဆန်း(ပန်းခမ်း)မြို့နယ် ခြောက်မြို့နယ် တို့ကို ခရိုင်နှစ်ခရိုင်ဖွဲ့ပြီး "ဝ" ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း။

## Chapter III

# The President and Vice-Presidents

57. The President and Vice-Presidents represent the Union.

58. The President of the Republic of the Union of Myanmar takes precedence over all other persons throughout the Republic of the Union of Myanmar.

59. Qualifications of the President and Vice-Presidents are as follows :

(a) shall be loyal to the Union and its citizens;

(b) shall be a citizen of Myanmar who was born of both parents who were born in the territory under the jurisdiction of the Union and being Myanmar Nationals;

(c) shall be an elected person who has attained at least the age of 45;

(d) shall be well acquainted with the affairs of the Union such as political, administrative, economic and military;

(e) shall be a person who has resided continuously in the Union for at least 20 years up to the time of his election as President;

Proviso: An official period of stay in a foreign country with the permission of the Union shall be counted as a residing period in the Union;

(f) shall he himself, one of the parents, the spouse, one of the legitimate children or their spouses not owe allegiance to a foreign power, not be subject of a

# အခန်း (၃)
# နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများ

၅၇။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် နိုင်ငံတော်ကို ကိုယ်စားပြုသည်။

၅၈။ နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် တစ်ဝန်းလုံးတွင် နိုင်ငံသားအားလုံး၏ အထွတ်အထိပ်နေရာ ရရှိသည်။

၅၉။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများ၏ အရည်အချင်းများမှာ အောက်ပါအတိုင်း ဖြစ်သည် -

(က) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ ဖြစ်ရမည်၊
(ခ) မိမိနှင့်မိမိ၏မိဘနှစ်ပါးလုံး နိုင်ငံတော်၏အာဏာ ပိုင်နက်အတွင်း၌ မွေးဖွားသော တိုင်းရင်းသားမှဖြစ်သည့် မြန်မာနိုင်ငံသား ဖြစ်ရမည်၊
(ဂ) ရွေးချယ်တင်မြှောက်ခြင်းခံရသူသည် အနည်းဆုံး အသက် ၄၅ နှစ်ပြည့်ပြီးသူ ဖြစ်ရမည်၊
(ဃ) နိုင်ငံတော်အရေးအရာများဖြစ်သော နိုင်ငံရေး၊ အုပ်ချုပ်ရေး၊ စီးပွားရေး၊ စစ်ရေးစသည့် အမြင်များရှိရမည်၊
(င) သမ္မတအဖြစ် ရွေးချယ်တင်မြှောက်ခံရသည့် အချိန်နှင့်တစ်ဆက်တည်း အနည်းဆုံးအနှစ် ၂၀ နိုင်ငံတော်တွင် အခြေချနေထိုင်ခဲ့သူဖြစ်ရမည်၊

ခြွင်းချက်။ နိုင်ငံတော်၏ခွင့်ပြုချက်ဖြင့် နိုင်ငံခြားသို့ တရားဝင်သွားရောက်သည့် ကာလများကိုလည်း နိုင်ငံတော်တွင် အခြေချနေထိုင်ခဲ့သည့် ကာလ အဖြစ် ထည့်သွင်းရေတွက်ရမည်။

(စ) မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိ၏မိဘ တစ်ပါးပါး သော်လည်းကောင်း၊ မိမိ၏ဇနီး သို့မဟုတ် ခင်ပွန်းသော်လည်းကောင်း၊ မိမိ၏ တရားဝင် သားသမီးတစ်ဦးဦးသော်လည်းကောင်း၊ ထိုတရားဝင်သားသမီးတစ်ဦးဦး၏ ဇနီး

foreign power or citizen of a foreign country. They shall not be persons entitled to enjoy the rights and privileges of a subject of a foreign government or citizen of a foreign country;

(g) shall possess prescribed qualifications of the President, in addition to qualifications prescribed to stand for election to the Hluttaw.

60. (a) The President shall be elected by the Presidential Electoral College.

(b) The Presidential Electoral College shall be formed with three groups of the Pyidaungsu Hluttaw representatives as follows :

(i) group formed with elected Hluttaw representatives in the Hluttaw with an equal number of representatives elected from Regions and States;

(ii) group formed with elected Hluttaw representatives in the Hluttaw elected on the basis of township and population;

(iii) group formed with the Defence Services personnel Hluttaw representatives nominated by the Commander-in-Chief of the Defence Services for the said two Hluttaws.

(c) Each group shall elect a Vice-President from among the Hluttaw representatives or from among persons who are not Hluttaw representatives.

သို့မဟုတ် ခင်ပွန်းသော်လည်းကောင်း နိုင်ငံခြားအစိုးရ၏ ကျေးဇူးသစ္စာတော်ကို ခံယူစောင့်ရှောက်ရှိသေသူ သို့မဟုတ် နိုင်ငံခြားအစိုးရ၏ လက်အောက်ခံဖြစ်သူ သို့မဟုတ် တိုင်းတစ်ပါး၏ နိုင်ငံသားဖြစ်သူများ မဖြစ်စေရ၊ ထိုသူများသည် နိုင်ငံခြားအစိုးရ၏ လက်အောက်ခံဖြစ်သူသော်လည်းကောင်း၊ တိုင်းတစ်ပါး၏ နိုင်ငံသားသော်လည်းကောင်း ခံစားရသော အခွင့်အရေးများနှင့် ကျေးဇူးခံစားခွင့်များကို ခံစားနိုင်ခွင့်ရှိသူများ မဖြစ်စေရ၊

(ဆ) လွှတ်တော်ရွေးကောက်ပွဲ၌ ရွေးကောက်တင်မြှောက် ခံပိုင်ခွင့်အတွက် သတ်မှတ်ထားသည့် အရည်အချင်းများအပြင် နိုင်ငံတော်သမ္မတအတွက် သီးခြားသတ်မှတ်ထားသော အရည်အချင်းများနှင့်လည်း ပြည့်စုံရမည်။

၆၀။ (က) နိုင်ငံတော်သမ္မတကို သမ္မတရွေးချယ်တင်မြှောက်ရေးအဖွဲ့ဖြင့် ရွေးချယ်တင်မြှောက်ရမည်၊

(ခ) သမ္မတရွေးချယ်တင်မြှောက်ရေးအဖွဲ့ကို ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ်အစုအဖွဲ့သုံးဖွဲ့ဖြင့် အောက်ပါအတိုင်း ဖွဲ့စည်းရမည် -

(၁) တိုင်းဒေသကြီးများနှင့် ပြည်နယ်များမှ ကိုယ်စားလှယ်ဦးရေ တူညီစွာ ရွေးကောက်တင်မြှောက်သည့် လွှတ်တော်ရှိ ရွေးကောက်တင်မြှောက်ခြင်းခံရသော လွှတ်တော်ကိုယ်စားလှယ်များအစုအဖွဲ့၊

(၂) မြို့နယ်ကိုအခြေခံ၍လည်းကောင်း၊ လူဦးရေကိုအခြေခံ၍ လည်းကောင်း ရွေးကောက်တင်မြှောက်သည့်လွှတ်တော်ရှိ ရွေးကောက်တင်မြှောက်ခြင်းခံရသည့် လွှတ်တော်ကိုယ်စားလှယ်များအစုအဖွဲ့၊

(၃) ဖော်ပြပါလွှတ်တော်နှစ်ရပ်အတွက် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က အမည်စာရင်းတင်သွင်းသည့် တပ်မတော်သားလွှတ်တော်ကိုယ်စားလှယ်များအစုအဖွဲ့။

(ဂ) ယင်းအစုအဖွဲ့တစ်ဖွဲ့စီကဒုတိယသမ္မတတစ်ဦးစီကို လွှတ်တော်ကိုယ်စားလှယ်များထဲမှဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲမှ ဖြစ်စေ ရွေးချယ်တင်မြှောက်ရမည်၊

(d) The Pyidaungsu Hluttaw and a Body comprising the Heads and Deputy Heads of the two Hluttaws in the Pyidaungsu Hluttaw shall scrutinize whether or not the Vice-Presidents possess the qualifications prescribed for the President.

(e) The Presidential Electoral College comprising all the Pyidaungsu Hluttaw representatives shall elect by vote one of the three Vice-Presidents who are Presidential candidates, as the President.

(f) Necessary law shall be enacted for the election of President and Vice-Presidents.

61. (a) The term of office of the President or the Vice-Presidents is five years.

(b) After the expiry of the incumbent term, the President and the Vice-Presidents shall continue their duties until the time the new President is duly elected.

(c) The President and the Vice-Presidents shall not serve more than two terms.

(d) An interim period to serve as the President or the Vice-President shall not be counted as one term of office.

(e) If a vacancy is filled for the President or the Vice-President for any reason, the term of office of the new President or the new Vice-President shall be up to the expiry of the original term of office.

62. The President or the Vice-Presidents shall not be representative of any Hluttaw.

63. If the President or the Vice-Presidents are Hluttaw representatives, they shall be deemed to have resigned from their seats in that Hluttaw, and if the President or the Vice-

(ဃ) ဒုတိယသမ္မတများသည် နိုင်ငံတော်သမ္မတအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံခြင်းရှိမရှိကို ပြည်ထောင်စုလွှတ်တော်နှင့် ပြည်ထောင်စုလွှတ်တော်တွင် ပါဝင်သော လွှတ်တော်နှစ်ရပ်၏ အကြီးအမှူးများနှင့် ဒုတိယအကြီးအမှူးများ ပါဝင်သည့်အဖွဲ့က စိစစ်ရမည်၊

(င) ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ် အားလုံးပါဝင်သော သမ္မတရွေးချယ်တင်မြှောက်ရေးအဖွဲ့က နိုင်ငံတော်သမ္မတလောင်းများဖြစ်သည့် ဒုတိယသမ္မတသုံးဦးအနက် မိမိတို့ကြိုက်နှစ်သက်သည့် ဒုတိယသမ္မတတစ်ဦးကို နိုင်ငံတော်သမ္မတအဖြစ် ဆန္ဒမဲပေး ရွေးချယ်တင်မြှောက်ရမည်၊

(စ) ထိုသို့ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများ ရွေးချယ်တင်မြှောက်နိုင်ရန် လိုအပ်သည့်ဥပဒေကို ပြဋ္ဌာန်းပေးရမည်။

၆၁။ (က) နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတတို့၏ ရာထူးသက်တမ်းသည် ငါးနှစ် ဖြစ်သည်၊

(ခ) ယင်းရာထူးသက်တမ်း ကုန်ဆုံးသည့်အခါ နိုင်ငံတော်သမ္မတအသစ် ရွေးချယ်တင်မြှောက်ပြီးသည့် အချိန်အထိ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် မိမိတို့၏လုပ်ငန်းတာဝန်များကို ဆက်လက်ထမ်းဆောင်ရမည်၊

(ဂ) နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် ရာထူးသက်တမ်း နှစ်ကြိမ်ထက်ပို၍ ထမ်းဆောင်ခြင်းမပြုရ၊

(ဃ) နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတအဖြစ် ကြားဖြတ်တာဝန်ယူရသည့်ကာလကို ရာထူးသက်တမ်းတစ်ခုဟု မသတ်မှတ်ရ၊

(င) အကြောင်းတစ်ရပ်ရပ်ကြောင့် နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတရာထူးနေရာ လစ်လပ်သည့်အတွက် အစားထိုးရွေးချယ်တင်မြှောက်ပါက ယင်းနိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတအသစ်၏ ရာထူးသက်တမ်းသည် မူလရာထူးသက်တမ်းကုန်ဆုံးသည်အထိသာ ဖြစ်ရမည်။

၆၂။ နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတများသည် မည်သည့်လွှတ်တော်ကိုယ်စားလှယ်မျှ မဖြစ်စေရ။

၆၃။ နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတများသည် လွှတ်တော်ကိုယ်စားလှယ်ဖြစ်လျှင် လွှတ်တော်ကိုယ်စားလှယ်အဖြစ်မှလည်းကောင်း၊ နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် နိုင်ငံ့

Presidents are the Civil Services personnel, they shall be deemed to have resigned or retired from their offices from the day of their election.

64. If the President or the Vice-Presidents are members of a political party, they shall not take part in its party activities during their term of office from the day of their election.

65. The President and the Vice-Presidents shall make an affirmation as follows:

"I ........... do solemnly and sincerely promise and declare that I will be loyal to the Republic of the Union of Myanmar and the citizens and hold always in esteem non-disintegration of the Union, non-disintegration of national solidarity and perpetuation of sovereignty.

I will uphold and abide by the Constitution and its Laws. I will carry out the responsibilities uprightly to the best of my ability and strive for further flourishing the **eternal principles** of justice, liberty and equality. I will dedicate myself to the service of the Republic of the Union of Myanmar."

66. The President or the Vice-Presidents shall exercise duties and powers vested by this Constitution and other laws.

67. The President and the Vice-Presidents shall not hold any other office or position of emolument.

ဝန်ထမ်းအဖြစ်မှလည်းကောင်း နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတများအဖြစ် ရွေးချယ်တင်မြှောက်ခြင်းခံရသည့်နေ့မှစ၍ နုတ်ထွက်ပြီး သို့မဟုတ် အငြိမ်းစားယူပြီးဖြစ်သည် ဟု မှတ်ယူရမည်။

၆၄။ နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတများသည် နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်ဖြစ်လျှင် နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတများအဖြစ် ရွေးချယ်တင်မြှောက်ခြင်းခံရသည့်နေ့မှစ၍ မိမိတို့ရာထူးသက်တမ်းအတွင်း ယင်းပါတီအဖွဲ့အစည်း၏ ပါတီလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခြင်းမပြုရ။

၆၅။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် အောက်ပါအတိုင်း ကတိသစ္စာပြုရမည် -

> "ကျွန်ုပ်--သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာစောင့်သိရိုသေပြီး ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး၊ အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေးတို့ကို ထာဝစဉ်ဦးထိပ်ပန်ဆင် ဆောင်ရွက်ပါမည်။
>
> ကျွန်ုပ်သည် ဤနိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေကို ထိန်းသိမ်းစောင့်သိလိုက်နာရိုသေပြီး နိုင်ငံတော်၏ဥပဒေများကို လိုက်နာကျင့်သုံးဆောင်ရွက်ပါမည်။ မိမိ၏ တာဝန်ဝတ္တရားများကို ဖြောင့်မတ်မှန်ကန်စွာဖြင့် အစွမ်းကုန်ဆောင်ရွက်ပါမည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် တရားမျှတခြင်း၊ လွတ်လပ်ခြင်းနှင့် ညီမျှခြင်းတည်းဟူသော လောကပါလတရားများ ပိုမိုထွန်းကားရေးအတွက် ဆောင်ရွက်ပါမည်။
>
> ကျွန်ုပ်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အကျိုးငှာ နိုင်ငံတော်အား မိမိ၏ အသက်နှင့်ကိုယ်ကိုအပ်နှင်းသည်ဟု လေးနက်တည်ကြည်စွာ ကြေညာ၍ ကတိသစ္စာပြုသည်"

၆၆။ နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတများသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့် အခြားဥပဒေများက အပ်နှင်းထားသော တာဝန်နှင့်လုပ်ပိုင်ခွင့်များကို ကျင့်သုံးထမ်းဆောင်ရမည်။

၆၇။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် လစာ၊ စရိတ်၊ ငွေကြေးရသော အခြားမည်သည့်ရာထူးကိုမျှ လက်ခံခြင်းမပြုရ။

68. The President and the Vice-Presidents shall furnish a list of family assets under his direction, namely land, houses, buildings, businesses, savings and other valuables together with their values to the Head of the Pyidaungsu Hluttaw.

69. The President and the Vice-Presidents shall receive the emoluments, allowances and insignia of office as prescribed by law. Each shall also be provided with an appropriate official residence.

70. Except in the case of removal from office following impeachment, the President and the Vice-Presidents shall enjoy pension and suitable allowances on retirement in accord with the law after the expiry of the term of office.

71. (a) The President or any Vice-President may be impeached for one of the following reasons :
   (i) high treason;
   (ii) breach of the provisions of this Constitution;
   (iii) misconduct;
   (iv) being disqualified for the President or Vice-President under provisions as prescribed in this Constitution;
   (v) inefficient discharge of duties assigned by law.

(b) If it be required to impeach the President or any Vice-President, a charge signed by not less than one-fourth of the total number of representatives of either Hluttaw included in the Pyidaungsu Hluttaw shall be submitted to the Head of the Hluttaw concerned.

(c) Action shall proceed only when this charge is supported by not less than two-thirds of the total number of representatives of the Hluttaw concerned.

၆၈။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် မိမိတို့ဦးစီးသည့် တစ်စီးပွားတည်းဖြစ်သော မိသားစုပိုင် မြေ၊ အိမ်၊ အဆောက်အအုံ၊ စီးပွားရေးလုပ်ငန်း၊ စုငွေနှင့် အခြားအဖိုးတန်ပစ္စည်းများကို တန်ဖိုးနှင့်တကွ စာရင်းပြုစုပြီး ပြည်ထောင်စုလွှတ်တော် အကြီးအမှူးထံ ပေးပို့ရမည်။

၆၉။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် ဥပဒေဖြင့်သတ်မှတ်ထားသည့် လစာ၊ စရိတ်နှင့် အဆောင်အယောင်များ ရရှိစေရမည်။ သင့်တင့်လျောက်ပတ်သည့် အိမ်တော်တစ်ဆောင်စီကိုလည်း ရရှိစေရမည်။

၇၀။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတများသည် စွပ်စွဲပြစ်တင်ခံရ၍ ရာထူးမှ ရပ်စဲခံရခြင်းမှအပ တာဝန်ပြီးဆုံးသဖြင့် အနားယူပါက ဥပဒေနှင့်အညီ အငြိမ်းစားလစာနှင့် သင့်တင့်လျောက်ပတ်သော ထောက်ပံ့မှုများ ရရှိစေရမည်။

၇၁။ (က) နိုင်ငံတော်သမ္မတကိုဖြစ်စေ၊ ဒုတိယသမ္မတတစ်ဦးဦးကိုဖြစ်စေ အောက်ပါအကြောင်းတစ်ရပ်ရပ်ဖြင့် စွပ်စွဲပြစ်တင်နိုင်သည် -

(၁) နိုင်ငံတော်၏ကျေးဇူးသစ္စာတော်ကို ဖောက်ဖျက်ခြင်း၊

(၂) ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို ဖောက်ဖျက်ကျူးလွန်ခြင်း၊

(၃) အကျင့်သိက္ခာပျက်ပြားခြင်း၊

(၄) ဤဖွဲ့စည်းပုံအခြေခံဥပဒေတွင် ပြဋ္ဌာန်းထားသော နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတ၏အရည်အချင်း ပျက်ယွင်းခြင်း၊

(၅) ဥပဒေအရပေးအပ်သောတာဝန်များကို ကျေပွန်စွာမဆောင်ရွက်ခြင်း။

(ခ) နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတတစ်ဦးဦးကို စွပ်စွဲပြစ်တင်လိုပါက ပြည်ထောင်စုလွှတ်တော်တွင်ပါဝင်သော လွှတ်တော်နှစ်ရပ်မှ လွှတ်တော်တစ်ရပ်ရပ်၏ လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံး လေးပုံတစ်ပုံက လက်မှတ်ရေးထိုးပြီး မိမိတို့၏စွပ်စွဲချက်ကို သက်ဆိုင်ရာလွှတ်တော်အကြီးအမှူးထံ တင်ပြရမည်၊

(ဂ) ယင်းစွပ်စွဲချက်ကို သက်ဆိုင်ရာလွှတ်တော်၏ လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံး သုံးပုံနှစ်ပုံကထောက်ခံမှသာ ဆက်လက်အရေးယူဆောင်ရွက်ရမည်၊

(d) If one Hluttaw supports the taking of action, the other Hluttaw shall form a Body to investigate this charge.

(e) The President or the Vice-President shall have the right to refuse the charge himself in person or through a representative when it is investigated.

(f) If, after the investigation, not less than two-thirds of the total number of representatives of the Hluttaw which investigated the charge or caused the investigation to be initiated passed the resolution that the charge has been substantiated and renders the President or the Vice-President unfit to continue in office, the Hluttaw concerned shall submit to the Head of the Pyidaungsu Hluttaw such resolution to remove the impeached President or the impeached Vice-President from office.

(g) The Head of the Pyidaungsu Hluttaw shall declare the removal of the President or the Vice-President immediately after the receipt of the submission.

72. The President or any of the Vice-Presidents shall be allowed to resign from office of his own volition before the expiry of the term of office.

73. (a) One of the two Vice-Presidents who has won the second highest votes in the Presidential election shall serve as Acting President if the office of the President falls vacant due to his resignation, death, permanent disability or any other cause.

(ဃ) လွှတ်တော်တစ်ရပ်ရပ်က စွပ်စွဲချက်ကို အရေးယူဆောင်ရွက်ရန် ထောက်ခံလျှင် အခြားလွှတ်တော်တစ်ရပ်က ယင်းစွပ်စွဲချက်ကိုအဖွဲ့ဖွဲ့၍ စုံစမ်းစစ်ဆေးရမည်၊

(င) စွပ်စွဲချက်ကိုစုံစမ်းစစ်ဆေးသည့်အခါ နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတ ကိုယ်တိုင်သော်လည်းကောင်း၊ ကိုယ်စားလှယ်ဖြင့်သော်လည်းကောင်း ချေပခွင့်ပေးရမည်၊

(စ) စွပ်စွဲချက်ကို စုံစမ်းစစ်ဆေးပြီးသည့်အခါ စွပ်စွဲချက်ကို စစ်ဆေးသော သို့မဟုတ် စုံစမ်းစစ်ဆေးစေသောလွှတ်တော်၏ လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်း ဦးရေအနက် အနည်းဆုံးသုံးပုံနှစ်ပုံက ထိုစွပ်စွဲချက်သည် မှန်ကန်ပြီး စွပ်စွဲခံရသောပြစ်မှုသည် နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတအား ရာထူးတွင် ဆက်လက်ထမ်းရွက်စေရန် မသင့်ကြောင်းဆုံးဖြတ်လျှင် စွပ်စွဲခံရသော နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတအား ရာထူးမှရပ်စဲရန် ယင်းလွှတ်တော်က ပြည်ထောင်စုလွှတ်တော်အကြီးအမှူးထံ တင်ပြရမည်၊

(ဆ) ပြည်ထောင်စုလွှတ်တော်အကြီးအမှူးသည် တင်ပြချက် ရရှိလျှင်ရရှိချင်း စွပ်စွဲခံရသော နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတအား ရာထူးမှ ရပ်စဲကြောင်း ကြေညာရမည်။

၇၂။ နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတ တစ်ဦးဦးသည် မိမိ၏ရာထူးသက်တမ်း မကုန်ဆုံးမီ ဆန္ဒအလျောက်နုတ်ထွက်လိုလျှင် နုတ်ထွက်ခွင့်ပြုရမည်။

၇၃။ (က) နိုင်ငံတော်သမ္မတသည် ရာထူးသက်တမ်း မကုန်ဆုံးမီနုတ်ထွက်သောကြောင့် ဖြစ်စေ၊ ကွယ်လွန်သောကြောင့်ဖြစ်စေ၊ ထာဝစဉ်မစွမ်းဆောင်နိုင်သောကြောင့်ဖြစ်စေ၊ တစ်စုံတစ်ခုသော အကြောင်းကြောင့်ဖြစ်စေ နိုင်ငံတော်သမ္မတရာထူးနေရာ လစ်လပ်လျှင် ဒုတိယသမ္မတနှစ်ဦးအနက် နိုင်ငံတော်သမ္မတ ရွေးချယ်တင်မြှောက်စဉ်အခါက ဒုတိယဆန္ဒမဲအများဆုံး ရရှိသည့် ဒုတိယသမ္မတက ယာယီသမ္မတအဖြစ် ထမ်းဆောင်ရမည်၊

(b) If the office of the President becomes vacant when the Pyidaungsu Hluttaw is in session, the Acting President shall promptly intimate the Head of the Pyidaungsu Hluttaw to fill the vacancy within seven days.

(c) On receipt of the intimation from the Acting President, the Head of the Pyidaungsu Hluttaw shall proceed to elect a Vice-President by the group of Hluttaw representatives concerned that initially elected the Vice-President who subsequently got elected President, the office now being vacant.

(d) After the group of Hluttaw representatives concerned has elected a Vice-President, the Electoral College comprising all the Pyidaungsu Hluttaw representatives shall elect the President from among the three Vice-Presidents.

(e) If the office of the President becomes vacant when the Pyidaungsu Hluttaw is not in session, the Head of the Pyidaungsu Hluttaw shall summon the Pyidaungsu Hluttaw within 21 days from the day of receipt of the intimation from the Acting President and proceed to hold election to fill the vacant office of the President in accord with the above procedure.

(f) If the office of a Vice-President becomes vacant before the expiry of the term by reason of his resignation, death, permanent disability or any other cause when the Pyidaungsu Hluttaw is in session, the President shall promptly intimate the Head of the Pyidaungsu Hluttaw to elect a Vice-President within seven days by the group of Hluttaw representatives concerned that elected the said Vice-President.

(ခ) နိုင်ငံတော်သမ္မတရာထူးနေရာ လစ်လပ်သွားသည့် အချိန်သည် ပြည်ထောင်စု လွှတ်တော် အစည်းအဝေးကျင်းပနေချိန်ဖြစ်လျှင် လစ်လပ်သွားသည့် နိုင်ငံတော်သမ္မတရာထူးကို ခုနစ်ရက်အတွင်း ဖြည့်စွက်နိုင်ရေးအတွက် ယာယီသမ္မတက ပြည်ထောင်စုလွှတ်တော် အကြီးအမှူးထံ ဆောလျင်စွာ အကြောင်းကြားရမည်၊

(ဂ) ယာယီသမ္မတထံမှ အကြောင်းကြားစာကိုရရှိသည့်အခါ လစ်လပ်သွားသည့် နိုင်ငံတော်သမ္မတကို ဒုတိယသမ္မတအဖြစ် ဦးစွာရွေးချယ်တင်မြှောက် ပေးခဲ့သည့် သက်ဆိုင်ရာ လွှတ်တော်ကိုယ်စားလှယ်များ အစုအဖွဲ့က ဒုတိယသမ္မတတစ်ဦးကို ရွေးချယ်တင်မြှောက်ပေးရေးအတွက် ပြည်ထောင်စု လွှတ်တော်အကြီးအမှူးက ဆောင်ရွက်ပေးရမည်၊

(ဃ) သက်ဆိုင်ရာ လွှတ်တော်ကိုယ်စားလှယ်များ အစုအဖွဲ့သည် ဒုတိယ သမ္မတတစ်ဦးကို ရွေးချယ်တင်မြှောက်ပြီးပါက ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ် အားလုံးပါဝင်သည့် သမ္မတရွေးချယ်တင်မြှောက်ရေးအဖွဲ့က ဒုတိယသမ္မတ သုံးဦးအနက် မိမိတို့ကြိုက်နှစ်သက်သည့်ပုဂ္ဂိုလ်ကို နိုင်ငံတော် သမ္မတအဖြစ် ရွေးချယ်တင်မြှောက်ရမည်၊

(င) ပြည်ထောင်စုလွှတ်တော် အစည်းအဝေးကျင်းပချိန်မဟုတ်လျှင် ပြည်ထောင်စု လွှတ်တော်အကြီးအမှူးသည် ယာယီသမ္မတထံမှ အကြောင်းကြားစာရရှိသည့် နေ့မှစ၍ ၂၁ ရက်အတွင်း ပြည်ထောင်စုလွှတ်တော်အစည်းအဝေးကို ခေါ်ယူပြီး လစ်လပ်သော နိုင်ငံတော်သမ္မတ ရွေးချယ်တင်မြှောက်နိုင်ရေးအတွက် အထက်ပါနည်းလမ်းအတိုင်း ဆောင်ရွက်ရမည်၊

(စ) ဒုတိယသမ္မတတစ်ဦးဦးသည် ရာထူးသက်တမ်းမကုန်ဆုံးမီ နုတ်ထွက်သော ကြောင့်ဖြစ်စေ၊ ကွယ်လွန်သောကြောင့်ဖြစ်စေ၊ ထာဝစဉ်မစွမ်းဆောင်နိုင် သောကြောင့်ဖြစ်စေ၊ တစ်စုံတစ်ခုသော အကြောင်းကြောင့်ဖြစ်စေ ဒုတိယ သမ္မတ ရာထူးနေရာ လစ်လပ်လျှင် ပြည်ထောင်စုလွှတ်တော် အစည်းအဝေး ကျင်းပချိန်ဖြစ်ပါက ယင်းဒုတိယသမ္မတကို ရွေးချယ်တင်မြှောက် ပေးခဲ့သော လွှတ်တော် ကိုယ်စားလှယ်များအစုအဖွဲ့က ခုနစ်ရက်အတွင်း ဒုတိယ သမ္မတတစ်ဦး ရွေးချယ်တင်မြှောက်ပေးရေးအတွက် နိုင်ငံတော်သမ္မတက ပြည်ထောင်စုလွှတ်တော် အကြီးအမှူးထံ ဆောလျင်စွာ အကြောင်းကြားရမည်၊

(g) When the Pyidaungsu Hluttaw is not in session, the Head of the Pyidaungsu Hluttaw shall summon the Pyidaungsu Hluttaw within 21 days from the day of receipt of the intimation from the President and proceed with the election of a Vice-President by the group of Hluttaw representatives concerned in accord with the prescribed procedure.

(ဆ) ပြည်ထောင်စုလွှတ်တော်အစည်းအဝေး ကျင်းပချိန်မဟုတ်လျှင် ပြည်ထောင်စုလွှတ်တော်အကြီးအမှူးသည် နိုင်ငံတော်သမ္မတ၏ အကြောင်းကြားစာရရှိသည့်နေ့မှစ၍ ၂၁ ရက်အတွင်း ပြည်ထောင်စုလွှတ်တော်အစည်းအဝေးကို ခေါ်ယူပြီး သက်ဆိုင်ရာလွှတ်တော်ကိုယ်စားလှယ်များအစုအဖွဲ့က ဒုတိယသမ္မတတစ်ဦးကို ရွေးချယ်တင်မြှောက်ပေးရေးအတွက် သတ်မှတ်ထားသည့်နည်းလမ်းအတိုင်း ဆောင်ရွက်ရမည်။

# Chapter IV
# Legislature
# The Pyidaungsu Hluttaw

**Formation of the Pyidaungsu Hluttaw**

74. The Pyidaungsu Hluttaw comprises of the following two Hluttaws :

(a) in accord with the provisions of Section 109, the Pyithu Hluttaw formed with Hluttaw representatives elected on the basis of township as well as population and Hluttaw representatives being the Defence Services Personnel nominated by the Commander-in-Chief of the Defence Services;

(b) in accord with the provisions of Section 141, the Amyotha Hluttaw formed with Hluttaw representatives elected in equal numbers from Regions and States and Hluttaw representatives being the Defence Services Personnel nominated by the Commander-in-Chief of the Defence Services.

**The Head and the Deputy Heads of the respective Hluttaws**

75. On the day of commencement of the first Hluttaw session for each term of the Hluttaw concerned, the person who is to conduct and supervise the Hluttaw session held for the taking of affirmation of office by Hluttaw representatives and for electing the Hluttaw Speaker and Deputy Speaker shall be called the Chairperson, the Head and the Deputy Head of the Pyidaungsu Hluttaw shall be called the Speaker and the Deputy Speaker, the Head and the Deputy Head of the Pyithu Hluttaw, the Amyotha Hluttaw, the Region Hluttaw or the State Hluttaw shall be called the Speaker and the Deputy Speaker.

# အခန်း (၄)
# ဥပဒေပြုရေး

## ပြည်ထောင်စုလွှတ်တော်

### ပြည်ထောင်စုလွှတ်တော် ဖွဲ့စည်းခြင်း

၇၄။ ပြည်ထောင်စုလွှတ်တော်တွင် အောက်ပါ လွှတ်တော်နှစ်ရပ်ပါဝင်သည် -

(က) ပုဒ်မ ၁၀၉ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ မြို့နယ်ကို အခြေခံ၍လည်းကောင်း၊ လူဦးရေကို အခြေခံ၍လည်းကောင်း ရွေးကောက်တင်မြှောက်သည့် လွှတ်တော်ကိုယ်စားလှယ်များနှင့် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က အမည်စာရင်းတင်သွင်းသော တပ်မတော်သား လွှတ်တော်ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းသည့် ပြည်သူ့လွှတ်တော်၊

(ခ) ပုဒ်မ ၁၄၁ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ တိုင်းဒေသကြီးများနှင့် ပြည်နယ်များမှဦးရေတူညီစွာ ရွေးကောက်တင်မြှောက်သည့် လွှတ်တော်ကိုယ်စားလှယ်များနှင့် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က အမည်စာရင်း တင်သွင်းသော တပ်မတော်သား လွှတ်တော်ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းသည့် အမျိုးသားလွှတ်တော်။

### လွှတ်တော်အသီးသီး၏ အကြီးအမှူးနှင့် ဒုတိယအကြီးအမှူးများ

၇၅။ လွှတ်တော်အသီးသီး၏ အကြီးအမှူး၊ ဒုတိယအကြီးအမှူးများနှင့် ပတ်သက်ပြီး သက်ဆိုင်ရာ လွှတ်တော်သက်တမ်းတစ်ခုစီအတွက် လွှတ်တော်ပထမအစည်းအဝေး စတင်ကျင်းပသည့်နေ့တွင် လွှတ်တော်ကိုယ်စားလှယ်များ ကတိသစ္စာပြုနိုင်ရန်နှင့် လွှတ်တော်ဥက္ကဋ္ဌ၊ ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ပေးရန် ကျင်းပသော လွှတ်တော်အစည်းအဝေးကို ကြီးမှူးကြီးကြပ်ပေးရမည့် အကြီးအမှူးအား သဘာပတိဟုလည်းကောင်း၊ ပြည်ထောင်စုလွှတ်တော်အကြီးအမှူးနှင့် ဒုတိယအကြီးအမှူးကို နာယကနှင့် ဒုတိယနာယကဟုလည်းကောင်း၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော်၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် အကြီးအမှူးနှင့် ဒုတိယအကြီးအမှူးကို ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌဟုလည်းကောင်း ခေါ်ဝေါ်သုံးစွဲရမည်။

**Performance of duties by the Speaker and the Deputy Speaker of the Pyidaungsu Hluttaw**

76. (a) The Speaker and the Deputy Speaker of the Amyotha Hluttaw shall also serve as the Speaker and the Deputy Speaker of the Pyidaungsu Hluttaw from the day of term of the Pyithu Hluttaw commences up to the end of 30 months and the Speaker and the Deputy Speaker of the Pyithu Hluttaw shall also serve as the Speaker and the Deputy Speaker of the Pyidaungsu Hluttaw for the remaining term.

(b) When the Speaker of the Pyidaungsu Hluttaw is unable to perform the duties of the Speaker, the Deputy Speaker shall temporarily perform the duties of the Speaker.

**Functions of the Speaker of the Pyidaungsu Hluttaw**

77. The Speaker of the Pyidaungsu Hluttaw shall :

(a) supervise the Pyidaungsu Hluttaw sessions;

(b) invite the President, if he is intimated of the President's desire to address the Pyidaungsu Hluttaw;

(c) have the right to invite organizations or persons representing any of the Union level organizations formed under the Constitution to attend the Pyidaungsu Hluttaw session and give clarifications on matters relating to ongoing discussions, if necessary;

(d) perform other duties and powers prescribed by the Constitution or any law.

**Convening the Sessions of the Pyidaungsu Hluttaw**

78. The first regular session of the Pyidaungsu Hluttaw shall be held within 15 days from the first day of the commencement of the first session of the Pyithu Hluttaw. The Speaker of the Pyidaungsu Hluttaw shall convene the Pyidaungsu Hluttaw.

## ပြည်ထောင်စုလွှတ်တော် နာယကနှင့် ဒုတိယနာယကများ၏ တာဝန်ထမ်းဆောင်ခြင်း

၇၆။ (က) ပြည်သူ့လွှတ်တော် သက်တမ်းတစ်ခု စတင်သည့် နေ့ရက်မှ လပေါင်း ၃၀ ပြည့်မြောက်သည့် နေ့ရက်အထိ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့သည် ပြည်ထောင်စုလွှတ်တော်နာယကနှင့် ဒုတိယနာယက တာဝန်ကိုပါ ထမ်းဆောင်ရမည်။ ကျန်သက်တမ်းကာလအတွက် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့သည် ပြည်ထောင်စုလွှတ်တော်နာယကနှင့် ဒုတိယနာယက တာဝန်ကိုပါ ထမ်းဆောင်ရမည်၊

(ခ) ပြည်ထောင်စုလွှတ်တော်နာယကသည် နာယကတာဝန်ကို ထမ်းဆောင်နိုင်စွမ်းမရှိသည့်အခါ ဒုတိယနာယကသည် နာယကတာဝန်ကို ယာယီထမ်းဆောင်ရမည်။

## ပြည်ထောင်စုလွှတ်တော်နာယက၏ လုပ်ငန်းတာဝန်

၇၇။ ပြည်ထောင်စုလွှတ်တော်နာယကသည် -

(က) ပြည်ထောင်စုလွှတ်တော် အစည်းအဝေးများကို ကြီးကြပ်ကွပ်ကဲရမည်၊

(ခ) ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့ တက်ရောက်၍ မိန့်ခွန်းပြောကြားလိုကြောင်း နိုင်ငံတော်သမ္မတက အကြောင်းကြားလျှင် နိုင်ငံတော်သမ္မတအား ဖိတ်ကြားရမည်၊

(ဂ) ပြည်ထောင်စုလွှတ်တော် အစည်းအဝေး၌ ဆွေးနွေးဆောင်ရွက်ဆဲ အကြောင်းအရာ တစ်ရပ်ရပ်နှင့်စပ်လျဉ်း၍ လိုအပ်လျှင် ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းများ သို့မဟုတ် ပုဂ္ဂိုလ်များကို ပြည်ထောင်စုလွှတ်တော်သို့ တက်ရောက်ရှင်းလင်း တင်ပြစေရန် ဖိတ်ကြားခွင့်ရှိသည်၊

(ဃ) ဖွဲ့စည်းပုံအခြေခံဥပဒေအရသော်လည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရသော်လည်းကောင်း သတ်မှတ်ထားသည့် အခြားတာဝန်နှင့် လုပ်ပိုင်ခွင့်များကို ဆောင်ရွက်ရမည်။

## ပြည်ထောင်စုလွှတ်တော် အစည်းအဝေး ကျင်းပခြင်း

၇၈။ ပြည်ထောင်စုလွှတ်တော်၏ ပထမအကြိမ် ပုံမှန်အစည်းအဝေးကို ပြည်သူ့လွှတ်တော်၏ ပထမအစည်းအဝေး စတင်သည့်နေ့မှ ၁၅ ရက်အတွင်းကျင်းပရမည်။ ပြည်ထောင်စုလွှတ်တော်အစည်းအဝေးများကို ပြည်ထောင်စုလွှတ်တော် နာယကက ခေါ်ယူကျင်းပရမည်။

79. The Speaker of the Pyidaungsu Hluttaw shall convene the Pyidaungsu Hluttaw regular session at least once a year. The maximum interval between the two regular sessions shall not exceed twelve months.

80. The following functions shall be carried out at the Pyidaungsu Hluttaw session :

(a) recording the address delivered by the President;

(b) reading and recording the message sent by the President and other messages permitted by the Speaker;

(c) submitting, discussing and resolving on a Bill;

(d) discussing and resolving on the remarks of the President concerning a Bill approved by the Pyidaungsu Hluttaw;

(e) discussing and resolving on matters to be undertaken by the Pyidaungsu Hluttaw in accord with the provisions of the Constitution;

(f) discussing, resolving and recording the reports submitted to the Pyidaungsu Hluttaw;

(g) submitting proposals, discussing and resolving;

(h) raising questions and replying;

(i) undertaking matters approved by the Speaker of the Pyidaungsu Hluttaw.

81. Matters that require resolutions, consents and approvals of the Pyidaungsu Hluttaw shall be implemented as follows :

(a) if the Pyidaungsu Hluttaw is in session, the matter shall be discussed and resolved at that session;

(b) if the Pyidaungsu Hluttaw is not in session, the matter shall be discussed and resolved at the nearest Pyidaungsu Hluttaw session;

၇၉။ ပြည်ထောင်စုလွှတ်တော် ပုံမှန်အစည်းအဝေးကို ပြည်ထောင်စုလွှတ်တော် နာယကက တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် ခေါ်ယူကျင်းပရမည်။ ပုံမှန်အစည်းအဝေး တစ်ကြိမ်နှင့် တစ်ကြိမ်အကြား အရှည်ကြာဆုံး ကာလသည် ၁၂ လထက်မပိုစေရ။

၈၀။ ပြည်ထောင်စုလွှတ်တော်အစည်းအဝေး၌ အောက်ပါကိစ္စရပ်များကိုဆောင်ရွက်သည် -

(က) နိုင်ငံတော်သမ္မတ ပြောကြားသည့် မိန့်ခွန်းကို မှတ်တမ်းတင်ခြင်း၊
(ခ) နိုင်ငံတော်သမ္မတကပေးပို့သော သဝဏ်လွှာနှင့် နာယကက ခွင့်ပြုသော အခြားသဝဏ်လွှာများကို ဖတ်ကြားခြင်း၊ မှတ်တမ်းတင်ခြင်း၊
(ဂ) ဥပဒေကြမ်း တင်သွင်းခြင်း၊ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊
(ဃ) ပြည်ထောင်စုလွှတ်တော်က အတည်ပြုထားသည့် ဥပဒေကြမ်း တစ်ရပ်ရပ်နှင့် စပ်လျဉ်း၍ နိုင်ငံတော်သမ္မတ၏ သဘောထားမှတ်ချက်များကို ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊
(င) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များအရ ပြည်ထောင်စုလွှတ်တော်က ဆောင်ရွက်ရမည့် ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊
(စ) ပြည်ထောင်စုလွှတ်တော်သို့ တင်သွင်းသည့်အစီရင်ခံစာများကို ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊ မှတ်တမ်းတင်ခြင်း၊
(ဆ) အဆိုတင်သွင်းခြင်း၊ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊
(ဇ) မေးခွန်းမေးမြန်းခြင်း၊ ဖြေကြားခြင်း၊
(ဈ) ပြည်ထောင်စုလွှတ်တော် နာယကက ခွင့်ပြုသည့်ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ဆောင်ရွက်ခြင်း။

၈၁။ ပြည်ထောင်စုလွှတ်တော်၏ အဆုံးအဖြတ် ရယူမည့်ကိစ္စရပ်များ၊ သဘောတူညီချက် ရယူမည့်ကိစ္စရပ်များ၊ အတည်ပြုချက်ရယူမည့် ကိစ္စရပ်များကို အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) ပြည်ထောင်စုလွှတ်တော် အစည်းအဝေး ကျင်းပဆဲကာလဖြစ်လျှင် ယင်းအစည်းအဝေး၌ ဆွေးနွေးဆုံးဖြတ်ရမည်၊
(ခ) ပြည်ထောင်စုလွှတ်တော် အစည်းအဝေး ကျင်းပဆဲကာလ မဟုတ်လျှင် အနီးကပ်ဆုံး ပြည်ထောင်စုလွှတ်တော် အစည်းအဝေး၌ ဆွေးနွေးဆုံးဖြတ်ရမည်၊

(c) a special session or an emergency session shall be convened to discuss and resolve matters which need urgent action in the interest of the public.

82. The Speaker of the Pyidaungsu Hluttaw may convene a special session or an emergency session, if necessary.

83. The Speaker of the Pyidaungsu Hluttaw shall convene a special session or an emergency session as soon as possible when the President informs him to do so.

84. The Speaker of the Pyidaungsu Hluttaw shall convene a special session as soon as possible, if at least one-fourth of the total number of the representatives so require.

85. (a) The first day session of the Pyidaungsu Hluttaw shall be valid if more than half of the total number, who have the right to attend the session, are present. The session, if invalid, shall be adjourned.

(b) The sessions that are adjourned due to invalidity in accord with the Sub-Section (a) as well as the valid sessions that are extented shall be valid if at least one-third of the Hluttaw representatives are present.

86. (a) A matter that shall be resolved in the Pyidaungsu Hluttaw, save as otherwise provided by the Constitution, shall be determined by a majority of votes

(ဂ) အများပြည်သူအကျိုးငှာ အလျင်အမြန်ဆောင်ရွက်ရမည့် ကိစ္စရပ်များကို အထူးအစည်းအဝေး သို့မဟုတ် အရေးပေါ်အစည်းအဝေး ခေါ်ယူ ကျင်းပ၍ ဆွေးနွေးဆုံးဖြတ်ရမည်။

၈၂။ ပြည်ထောင်စုလွှတ်တော် အထူးအစည်းအဝေးကိုဖြစ်စေ၊ အရေးပေါ်အစည်းအဝေးကိုဖြစ်စေ ကျင်းပရန်လိုအပ်လျှင် ပြည်ထောင်စုလွှတ်တော် နာယကက ခေါ်ယူကျင်းပနိုင်သည်။

၈၃။ ပြည်ထောင်စုလွှတ်တော် အစည်းအဝေးကို ခေါ်ယူကျင်းပပေးရန် နိုင်ငံတော် သမ္မတက အကြောင်းကြားလျှင် ပြည်ထောင်စုလွှတ်တော်နာယကသည် ပြည်ထောင်စု လွှတ်တော် အထူးအစည်းအဝေးကိုဖြစ်စေ၊ အရေးပေါ်အစည်းအဝေးကိုဖြစ်စေ အမြန်ဆုံး ခေါ်ယူကျင်းပရမည်။

၈၄။ ပြည်ထောင်စုလွှတ်တော်အစည်းအဝေး ခေါ်ယူကျင်းပပေးရန် ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံး လေးပုံတစ်ပုံက တောင်းဆိုလျှင် ပြည်ထောင်စုလွှတ်တော်နာယကက အထူးအစည်းအဝေးကို အမြန်ဆုံး ခေါ်ယူကျင်းပရမည်။

၈၅။ (က) ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတစ်ရပ်၏ ပထမနေ့တွင် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့ တက်ရောက်ခွင့်ရှိသည့် လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေ၏ ထက်ဝက်ကျော်ဦးရေ တက်ရောက်လျှင် ယင်းအစည်းအဝေး အထမြောက်သည်။ အကယ်၍ အထမမြောက်ပါက အစည်းအဝေးကို ရွှေ့ဆိုင်းရမည်၊

(ခ) ပုဒ်မခွဲ (က) အရ အစည်းအဝေး အထမမြောက်သည့်အတွက် ရွှေ့ဆိုင်းကျင်းပရသော အစည်းအဝေးများနှင့် အစည်းအဝေး အထမြောက်ပြီးနောက် ဆက်လက် ကျင်းပသော အစည်းအဝေးများတွင် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့ တက်ရောက်ခွင့်ရှိသည့် လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံး သုံးပုံတစ်ပုံ တက်ရောက်လျှင် အစည်းအဝေးများ အထမြောက်သည်။

၈၆။ (က) ပြည်ထောင်စုလွှတ်တော်တွင် အဆုံးအဖြတ်ပြုရမည့် အကြောင်းအရာတစ်ရပ်နှင့်စပ်လျဉ်း၍ မဲခွဲဆုံးဖြတ်ရာ၌ ဖွဲ့စည်းပုံအခြေခံဥပဒေတွင် အခြားနည်းပြဋ္ဌာန်းထားခြင်းမရှိလျှင် အစည်းအဝေးသို့ တက်ရောက်၍ ဆန္ဒမဲပေးသည့်

of the representatives of the Pyidaungsu Hluttaw who are present and voting.

(b) The Speaker of the Pyidaungsu Hluttaw or the Deputy Speaker acting as such shall not vote in the first instance, but shall have and exercise a casting vote in the case of an equality of votes.

87. If a representative of the Pyidaungsu Hluttaw is, without permission of the Speaker of the Pyidaungsu Hluttaw, absent from sessions of the Pyidaungsu Hluttaw for a period of at least 15 consecutive days, the Speaker shall inform the Hluttaw concerned to take action against the representative according to the prescribed procedures. In computing the said period of 15 days, no account shall be taken of any period during which the session is adjourned.

88. Although there are vacant seats, the Pyidaungsu Hluttaw shall have the right to carry out its functions. Moreover, the resolutions and proceedings of the Pyidaungsu Hluttaw shall not be annulled, notwithstanding the acts of some person who was not entitled to do so sat or voted or took part in the proceedings are later discovered.

89. The proceedings and the records of the Pyidaungsu Hluttaw shall be published. However, the proceedings and the records prohibited by any law or the resolution of the Pyidaungsu Hluttaw shall not be published.

90. Members of the organizations representing any of the Union level organizations formed under the Constitution while attending the Pyidaungsu Hluttaw with the permission of the Speaker have the right to explain, converse and discuss the Bills and other matters in connection with the respective organization.

ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ်များ၏ များရာဆန္ဒမဲဖြင့် ဆုံးဖြတ်ရမည်၊

(ခ) ပြည်ထောင်စုလွှတ်တော် အစည်းအဝေးများတွင် မဲခွဲဆုံးဖြတ်သည့် ကိစ္စများ၌ ပြည်ထောင်စုလွှတ်တော်နာယက သို့မဟုတ် နာယကတာဝန် ထမ်းဆောင်နေသည့် ဒုတိယနာယကသည် ဆန္ဒမဲမပေးရ။ ထောက်ခံဆန္ဒမဲနှင့် ကန့်ကွက်ဆန္ဒမဲ အရေအတွက်ချင်း တူညီနေသည့် ကိစ္စရပ်တွင်သာ အနိုင်မဲ ပေးရမည်။

၈၇။ ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ်တစ်ဦးသည် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတစ်ရပ်တွင် ပြည်ထောင်စုလွှတ်တော်နာယက၏ ခွင့်ပြုချက်မရဘဲ အစည်းအဝေးတက်ရောက်ရန် အနည်းဆုံး ရက်ပေါင်း ၁၅ ရက် တစ်ဆက်တည်းပျက်ကွက်လျှင် သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ အရေးယူရန် ပြည်ထောင်စုလွှတ်တော် နာယကက သက်ဆိုင်ရာလွှတ်တော်သို့ အကြောင်းကြားရမည်။ ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတက်ရောက်ရန် ခွင့်မဲ့ပျက်ကွက်သည့် ရက်ပေါင်း ၁၅ ရက်ကို ရေတွက်ရာ၌ အစည်းအဝေးရွှေ့ဆိုင်းထားသည့်ကာလကို ထည့်သွင်းရေတွက်ခြင်း မပြုရ။

၈၈။ ပြည်ထောင်စုလွှတ်တော်သည် လွှတ်တော်ကိုယ်စားလှယ်နေရာအချို့ လစ်လပ်နေစေကာမူ ပြည်ထောင်စုလွှတ်တော်လုပ်ငန်းများကို ဆောင်ရွက်ခွင့်ရှိသည်။ ထို့အပြင် အခွင့်အရေးမရှိသူတစ်ဦးက ပြည်ထောင်စုလွှတ်တော်အစည်းအဝေးသို့ တက်ရောက်ခြင်း၊ ဆန္ဒမဲပေးခြင်း သို့မဟုတ် လွှတ်တော်လုပ်ငန်းတစ်ရပ်ရပ်တွင် ပါဝင်ဆောင်ရွက်ခဲ့ခြင်းကို နောင်အခါတွင်မှ စစ်ဆေးတွေ့ရှိစေကာမူ ပြည်ထောင်စုလွှတ်တော်၏ ဆုံးဖြတ်ဆောင်ရွက်ချက်များသည် ပျက်ပြယ်ခြင်း မရှိစေရ။

၈၉။ ပြည်ထောင်စုလွှတ်တော်၏ ဆောင်ရွက်ချက်များနှင့် မှတ်တမ်းများကို အများပြည်သူသိရှိနိုင်ရန် ထုတ်ပြန်ရမည်။ သို့ရာတွင် ဥပဒေတစ်ရပ်ရပ်အရဖြစ်စေ၊ ပြည်ထောင်စုလွှတ်တော်၏ ဆုံးဖြတ်ချက်အရဖြစ်စေ တားမြစ်ထားသည့် ဆောင်ရွက်ချက်များနှင့် မှတ်တမ်းများကို ထုတ်ပြန်ခြင်းမပြုရ။

၉၀။ ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်း တစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များသည် နာယက၏ ခွင့်ပြုချက်ဖြင့် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့ တက်ရောက်သည့်အခါ မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သော ဥပဒေကြမ်းများ သို့မဟုတ် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ရှင်းလင်းပြောဆို ဆွေးနွေးခွင့်ရှိသည်။

91. The Union level organizations formed under the Constitution may submit the general situation in connection with the respective organization, which should be submitted to the Pyidaungsu Hluttaw with the permission of the Speaker.

92. (a) Subject to the provisions of the Constitution and the provisions of the law relating to the Pyidaungsu Hluttaw, the representatives of the Pyidaungsu Hluttaw shall have freedom of speech and voting at the Pyidaungsu Hluttaw and the Pyidaungsu Hluttaw Joint Committee. Concerning the submitting, discussing and performing at the Pyidaungsu Hluttaw and the Joint Committee, no action shall be taken against, a representative of the Pyidaungsu Hluttaw, except under its law.

(b) Subject to the provisions of the Constitution and the provisions of the law relating to the Pyidaungsu Hluttaw, members of the organizations or persons representing any of the Union level organizations formed under the Constitution who are invited to attend the Pyidaungsu Hluttaw session have the freedom of speech. No action shall be taken against such members or persons for their submission and speeches in Pyidaungsu Hluttaw by other law except under its law.

(c) If the persons mentioned in Sub-Sections (a) and (b) committed assault in exercising the said privileges, they shall be liable to punishment under the regulations, by-laws, procedures of the Pyidaungsu Hluttaw or the existing law.

၉၁။ ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းများသည် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့ တင်ပြသင့်သော မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သည့် အခြေအနေအရပ်ရပ်ကို နာယက၏ ခွင့်ပြုချက်ဖြင့် တင်ပြနိုင်သည်။

၉၂။ (က) ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ်များသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း၊ ပြည်ထောင်စုလွှတ်တော်ဆိုင်ရာ ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း မဆန့်ကျင်လျှင် ပြည်ထောင်စုလွှတ်တော်နှင့် ပြည်ထောင်စုလွှတ်တော် ပူးပေါင်းကော်မတီတို့တွင် လွတ်လပ်စွာ ပြောဆိုခွင့်နှင့် ဆန္ဒမဲပေးပိုင်ခွင့်ရှိသည်။ ထိုသို့ ပြည်ထောင်စုလွှတ်တော်နှင့် ပြည်ထောင်စုလွှတ်တော် ပူးပေါင်းကော်မတီတို့တွင် တင်ပြဆွေးနွေးခြင်း၊ ဆောင်ရွက်ခြင်းတို့နှင့်စပ်လျဉ်း၍ ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ် တစ်ဦးအား ပြည်ထောင်စုလွှတ်တော်ဆိုင်ရာ ဥပဒေမှအပ အခြားဥပဒေအရ အရေးယူခြင်းမပြုရ၊

(ခ) ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့တက်ရောက်ရန် ဖိတ်ကြားခြင်း ခံရသော ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်သော်လည်းကောင်း၊ ပြည်ထောင်စုလွှတ်တော်ဆိုင်ရာ ဥပဒေပါပြဋ္ဌာန်းချက်များနှင့်သော်လည်းကောင်း မဆန့်ကျင်လျှင် ပြည်ထောင်စုလွှတ်တော်တွင် လွတ်လပ်စွာ ပြောဆိုခွင့်ရှိသည်။ ပြည်ထောင်စုလွှတ်တော်တွင် တင်ပြပြောဆိုမှုများနှင့် စပ်လျဉ်း၍ ယင်းအဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များအား ပြည်ထောင်စုလွှတ်တော်ဆိုင်ရာဥပဒေမှအပ အခြားဥပဒေအရ အရေးယူခြင်းမပြုရ၊

(ဂ) ပုဒ်မခွဲ (က) နှင့် (ခ) တွင် ပါရှိသော ပုဂ္ဂိုလ်များသည် အထက်ပါ အခွင့်အရေးများကို ကျင့်သုံးကြရာတွင် ကိုယ်ထိလက်ရောက်ကျူးလွန်မှုများ ရှိခဲ့ပါက ယင်းတို့သည် ပြည်ထောင်စုလွှတ်တော်၏ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများအရ လည်းကောင်း၊ တည်ဆဲဥပဒေများအရ လည်းကောင်း အရေးယူခြင်းခံရမည်။

93. If there is a need to arrest a Pyidaungsu Hluttaw representative attending the Pyidaungsu Hluttaw session or a person attending the Pyidaungsu Hluttaw session with the permission or invitation of the Speaker of the Pyidaungsu Hluttaw, credible evidence shall be submitted to the Speaker of the Pyidaungsu Hluttaw. He shall not be arrested without the prior permission of the Speaker of the Pyidaungsu Hluttaw.

94. No action shall be instituted relating to the reports, documents, and Hluttaw records published by the Pyidaungsu Hluttaw or under its authority.

**Legislation**

95. (a) If a Bill initiated in the Pyithu Hluttaw or the Amyotha Hluttaw is approved by both Hluttaws, it shall be deemed that the Bill is approved by the Pyidaungsu Hluttaw.

(b) If there is a disagreement between the Pyithu Hluttaw and the Amyotha Hluttaw concerning a Bill, the Bill shall be discussed and resolved in the Pyidaungsu Hluttaw.

96. The Pyidaungsu Hluttaw shall have the right to enact laws for the entire or any part of the Union related to matters prescribed in Schedule One of the Union Legislative List.

97. (a) When the Pyidaungsu Hluttaw enacts a law, it may :

(i) authorize to issue rules, regulations and by-laws concerning that law to any Union level organization formed under the Constitution;

(ii) authorize to issue notifications, orders, directives and procedures to the respective organization or authority.

၉၃။ ပြည်ထောင်စုလွှတ်တော် အစည်းအဝေး တက်ရောက်နေသော ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ်တစ်ဦးကိုဖြစ်စေ၊ ပြည်ထောင်စုလွှတ်တော်နာယက၏ ခွင့်ပြုချက် သို့မဟုတ် ဖိတ်ကြားချက်အရ ယင်းအစည်းအဝေးသို့ တက်ရောက်နေသော ပုဂ္ဂိုလ်တစ်ဦးကိုဖြစ်စေ ဖမ်းဆီးရန်လိုအပ်ပါက ခိုင်လုံသောအထောက်အထားကို ပြည်ထောင်စုလွှတ်တော်နာယကထံ တင်ပြရမည်။ ပြည်ထောင်စုလွှတ်တော်နာယက၏ ကြိုတင်ခွင့်ပြုချက် မရရှိဘဲ ဖမ်းဆီးခြင်းမပြုရ။

၉၄။ ပြည်ထောင်စုလွှတ်တော်ကသော်လည်းကောင်း၊ ယင်းလွှတ်တော်၏ အခွင့်အာဏာအရသော်လည်းကောင်း ဖြန့်ချိထုတ်ဝေသည့် အစီရင်ခံစာများ၊ စာရွက်စာတမ်းများ၊ လွှတ်တော်မှတ်တမ်းများနှင့် စပ်လျဉ်း၍ တရားစွဲဆိုပိုင်ခွင့် မရှိစေရ။

**ဥပဒေပြုခြင်း**

၉၅။ (က) ပြည်သူ့လွှတ်တော်တွင်ဖြစ်စေ၊ အမျိုးသားလွှတ်တော်တွင်ဖြစ်စေ စတင်တင်သွင်းသည့် ဥပဒေကြမ်းကို လွှတ်တော်နှစ်ရပ်လုံးက အတည်ပြုလျှင် ယင်းဥပဒေကြမ်းကို ပြည်ထောင်စုလွှတ်တော်က အတည်ပြုသည်ဟု မှတ်ယူရမည်၊

(ခ) ဥပဒေကြမ်းတစ်ရပ်နှင့်စပ်လျဉ်း၍ ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တို့ သဘောကွဲလွဲပါက ပြည်ထောင်စုလွှတ်တော်တွင် ဆွေးနွေးဆုံးဖြတ်ရမည်။

၉၆။ ပြည်ထောင်စုလွှတ်တော်သည် ဇယား ၁ တွင် ဖော်ပြထားသော ပြည်ထောင်စုဥပဒေပြုစာရင်းပါ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ပြည်ထောင်စုတစ်ဝန်းလုံးအတွက်သော်လည်းကောင်း၊ ပြည်ထောင်စု၏တစ်စိတ်တစ်ဒေသ အတွက်သော်လည်းကောင်း အာဏာသက်ရောက်စေရန် ဥပဒေပြုခွင့်ရှိသည်။

၉၇။ (က) ပြည်ထောင်စုလွှတ်တော်သည် ဥပဒေတစ်ရပ်ပြဋ္ဌာန်းသည့်အခါ -

(၁) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်း တစ်ရပ်ရပ်အား ယင်းဥပဒေနှင့် သက်ဆိုင်သည့် နည်းဥပဒေ၊ စည်းမျဉ်းနှင့်စည်းကမ်းများ ထုတ်ပြန်ခွင့်ကို အပ်နှင်းနိုင်သည်၊

(၂) သက်ဆိုင်ရာအဖွဲ့အစည်း သို့မဟုတ် အာဏာပိုင်အား ယင်းဥပဒေနှင့် သက်ဆိုင်သည့် အမိန့်ကြော်ငြာစာ၊ အမိန့်၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများ ထုတ်ပြန်ခွင့်ကို အပ်နှင်းနိုင်သည်။

(b) The rules, regulations, notifications, orders, directives, and procedures issued under the power conferred by any law shall be in conformity with the provisions of the Constitution and the relevant law.

(c) If both the Pyithu Hluttaw and the Amyotha Hluttaw resolve to annul or amend any rule, regulation or by-law, it shall be deemed that the rule, regulation, or by-law is annulled or amended by the Pyidaungsu Hluttaw.

(d) If there is a disagreement to annul or amend any rule, regulation or by-law between the Pyithu Hluttaw and the Amyotha Hluttaw, it shall be discussed and resolved at the Pyidaungsu Hluttaw.

(e) If a resolution is passed to annul or amend any rule, regulation or by-law under Sub-Section (c) or (d), the resolution shall be without prejudice to the validity of any action previously taken under the relevant rule, regulation or by-law.

**Legislation relating to Other Matters**

98. The legislative power is vested in the Pyidaungsu Hluttaw relating to other matters not enumerated in the legislative list of the Union, Region or State and Self-Administered Division Leading Body or Self-Administered Zone Leading Body.

**Legislation relating to Union Territories**

99. The Pyidaungsu Hluttaw shall enact the required laws if the need arises to do so for the Union territories relating to matters for which legislative powers are vested to the

( ခ ) ဥပဒေတစ်ရပ်က အပ်နှင်းသည့် လုပ်ပိုင်ခွင့်အရပြုလုပ်သော နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ အမိန့်ကြော်ငြာစာ၊ အမိန့်၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် လည်းကောင်း၊ သက်ဆိုင်ရာဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း ညီညွတ်မှုရှိရမည်၊

( ဂ ) ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်နှစ်ရပ်လုံးက နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်ကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် ဆုံးဖြတ်ပါက ယင်းနည်းဥပဒေ၊ စည်းမျဉ်းသို့မဟုတ် စည်းကမ်းကို ပြည်ထောင်စုလွှတ်တော်က ပယ်ဖျက်သည် သို့မဟုတ် ပြင်ဆင်စေသည်ဟု မှတ်ယူရမည်၊

(ဃ) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်း တစ်ရပ်ရပ်ကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တို့ သဘောကွဲလွဲပါက ပြည်ထောင်စုလွှတ်တော်တွင် ဆွေးနွေးဆုံးဖြတ်ရမည်၊

( င ) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်း တစ်ရပ်ရပ်ကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် ပုဒ်မခွဲ ( ဂ ) သို့မဟုတ် (ဃ) အရ ဆုံးဖြတ်ပါက ထိုသို့ ပယ်ဖျက်ခြင်း သို့မဟုတ် ပြင်ဆင်စေခြင်း မပြုမီ ယင်းနည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းအရ ဆောင်ရွက်ခဲ့ပြီးသော အမှုကိစ္စများကို ထိခိုက်ခြင်း မရှိစေရ။

## အခြားကိစ္စရပ်များနှင့် စပ်လျဉ်း၍ ဥပဒေပြုခြင်း

၉၈။ ပြည်ထောင်စု၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ ဥပဒေပြုစာရင်းများတွင် ဖော်ပြမထားသော အခြားကိစ္စရပ်များနှင့်စပ်လျဉ်းသည့် ဥပဒေပြုပိုင်ခွင့်အာဏာကို ပြည်ထောင်စုလွှတ်တော်သို့ အပ်နှင်းသည်။

## ပြည်ထောင်စုနယ်မြေများအတွက် ဥပဒေပြုခြင်း

၉၉။ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုဖြစ်စေ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ကိုဖြစ်စေ ဥပဒေပြုခွင့်

Region Hluttaw or the State Hluttaw, or Self-Administered Division Leading Body or Self-Administered Zone Leading Body.

**Submission of Bill**

100. (a) The Union level organizations formed under the Constitution shall have the right to submit the Bills relating to matters they administered among the matters included in the Union Legislative List to the Pyidaungsu Hluttaw in accord with the prescribed procedures.

(b) Bills relating to national plans, annual budgets and taxation, which are to be submitted exclusively by the Union Government shall be discussed and resolved at the Pyidaungsu Hluttaw in accord with the prescribed procedures.

101. The Bills submitted to the Pyidaungsu Hluttaw by the Union level organizations formed under the Constitution, except the Bills that are prescribed in the Constitution to be discussed and resolved exclusively at the Pyidaungsu Hluttaw, are entitled to initiate and discuss at either the Pyithu Hluttaw or the Amyotha Hluttaw in accord with the prescribed procedures.

102. The Bills, which are to be discussed and resolved exclusively at the Pyidaungsu Hluttaw need to be vetted before being discussed at the Pyidaungsu Hluttaw, those Bills shall be vetted jointly by the Pyithu Hluttaw Bill Committee and the Amyotha Hluttaw Bill Committee, and the findings and remarks of the Joint Committee together with the Bill may be submitted to the Pyidaungsu Hluttaw session in accord with the prescribed procedures.

**Submission of the Union Budget Bill**

103. (a) The President or the person assigned by him, on behalf of the Union Government, shall submit the Union Budget Bill to the Pyidaungsu Hluttaw.

အပ်နှင်းထားသော ကိစ္စများနှင့် စပ်လျဉ်း၍ ပြည်ထောင်စုနယ်မြေများအတွက် ဥပဒေ ပြဋ္ဌာန်းပေးရန် လိုအပ်ပါက ပြည်ထောင်စုလွှတ်တော်က လိုအပ်သောဥပဒေကို ပြဋ္ဌာန်း ပေးရမည်။

## ဥပဒေကြမ်းတင်သွင်းခြင်း

၁၀၀။ (က) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်း များသည် ပြည်ထောင်စုဥပဒေပြုစာရင်းတွင် ပါရှိသောကိစ္စရပ်များအနက် မိမိတို့ စီမံခန့်ခွဲသည့် ကိစ္စရပ်များနှင့် စပ်လျဉ်းသည့် ဥပဒေ ကြမ်းများကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပြည်ထောင်စု လွှတ်တော်သို့ တင်သွင်းခွင့်ရှိသည်၊

(ခ) ပြည်ထောင်စုအစိုးရအဖွဲ့ကသာ တင်သွင်းခွင့်ရှိသော နိုင်ငံတော်၏ အမျိုးသား စီမံကိန်း၊ နှစ်စဉ်အရအသုံးခန့်မှန်းခြေငွေစာရင်းနှင့် အခွန် အကောက်ဆိုင်ရာ ဥပဒေကြမ်းများကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပြည်ထောင်စု လွှတ်တော်၌ ဆွေးနွေးဆုံးဖြတ်ရမည်။

၁၀၁။ ပြည်ထောင်စုလွှတ်တော်၌သာ ဆွေးနွေးဆုံးဖြတ်ရမည်ဟု ဖွဲ့စည်းပုံအခြေခံဥပဒေ၌ သတ်မှတ်သော ဥပဒေကြမ်းများမှအပ ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စု အဆင့် အဖွဲ့အစည်းများက ပြည်ထောင်စုလွှတ်တော်သို့ တင်သွင်းသော ဥပဒေကြမ်းများကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပြည်သူ့လွှတ်တော်တွင်ဖြစ်စေ၊ အမျိုးသား လွှတ်တော်တွင်ဖြစ်စေ စတင်ဆွေးနွေးဆောင်ရွက်ခွင့်ရှိသည်။

၁၀၂။ ပြည်ထောင်စုလွှတ်တော်၌သာ ဆွေးနွေးဆုံးဖြတ်ရမည့် ဥပဒေကြမ်းများနှင့် စပ်လျဉ်း၍ ပြည်ထောင်စုလွှတ်တော် အစည်းအဝေး၌ ဆွေးနွေးခြင်းမပြုမီ အသေးစိတ် လေ့လာစိစစ်ရန် လိုအပ်ပါက ပြည်သူ့လွှတ်တော် ဥပဒေကြမ်းကော်မတီနှင့် အမျိုးသားလွှတ်တော် ဥပဒေကြမ်း ကော်မတီတို့အား ပူးပေါင်းလေ့လာစိစစ်စေခြင်း၊ ယင်းပူးပေါင်းကော်မတီ၏ လေ့လာတွေ့ရှိချက် နှင့် သဘောထားမှတ်ချက်များကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ဥပဒေကြမ်း နှင့်အတူ ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့ တင်ပြဆောင်ရွက်စေခြင်းတို့ကို ပြုနိုင် သည်။

## ပြည်ထောင်စု၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ဥပဒေကြမ်းတင်သွင်းခြင်း

၁၀၃။ (က) ပြည်ထောင်စုအစိုးရအဖွဲ့ကိုယ်စား နိုင်ငံတော်သမ္မတ သို့မဟုတ် ယင်းက တာဝန်ပေးအပ်သည့် ပုဂ္ဂိုလ်သည် ပြည်ထောင်စု၏ ဘဏ္ဍာငွေအရအသုံး ဆိုင်ရာ ဥပဒေကြမ်းကို ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်၊

(b) The following matters included in the Union Budget Bill shall be discussed at the Pyidaungsu Hluttaw but not refused or curtailed :

(i) salary and allowance of Heads and Members of the Union level organizations formed under the Constitution and expenditures of those organizations;

(ii) debts for which the Union is liable and expenses relating to the debts, and other expenses relating to the loans taken out by the Union;

(iii) expenditures required to satisfy judgment, order, decree of any Court or Tribunal;

(iv) other expenditures which are to be charged by any existing law or any international treaty.

(c) Approval, refusal and curtailing of other expenditures except the expenditures specified in Sub-Section (b) shall be passed by the majority consent of the Pyidaungsu Hluttaw.

(d) The Union Government shall perform as necessary in accord with the Union Budget Law enacted by the Pyidaungsu Hluttaw.

(e) If in respect of the relevant financial year a need has arisen to authorize the estimated receipts and authorized expenditures in the Union Budget Law enacted by the Pyidaungsu Hluttaw and in addition to estimate receipts and to authorize expenditures, the Supplementary Appropriation law shall be enacted in the above manner.

(f) The Union Government shall perform as necessary in accord with the Supplementary Appropriation Law enacted by the Pyidaungsu Hluttaw.

(ခ) ပြည်ထောင်စု၏ ဘဏ္ဍာငွေအရအသုံးဆိုင်ရာ ဥပဒေကြမ်းတွင်ပါရှိသော -

(၁) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းထားသော ပြည်ထောင်စုအဆင့် အဖွဲ့အစည်းများ၏ အကြီးအမှူးများနှင့် အဖွဲ့အစည်းဝင်များ၏ လစာ၊ စရိတ်နှင့် ယင်းအဖွဲ့အစည်းများ၏ အသုံးစရိတ်များ၊

(၂) ပြည်ထောင်စုက ပေးဆပ်ရန် တာဝန်ရှိသော ကြွေးမြီများ၊ ယင်းကြွေးမြီ များနှင့် ဆက်နွှယ်သော ကုန်ကျစရိတ်များ၊ ပြည်ထောင်စုက ချေးယူငွေ များနှင့် ဆက်နွှယ်သော အခြားကုန်ကျစရိတ်များ၊

(၃) တရားရုံး သို့မဟုတ် ခုံရုံး တစ်ရုံးရုံး၏ စီရင်ချက်၊ အမိန့်၊ ဒီကရီအရ ပေးဆောင်ရန်ရှိသော အသုံးစရိတ်များ၊

(၄) တည်ဆဲဥပဒေ တစ်ရပ်ရပ်အရဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ စာချုပ် တစ်ခုခုအရ ဖြစ်စေကျခံရမည့် အခြားအသုံးစရိတ်များနှင့် စပ်လျဉ်း၍ ပြည်ထောင်စုလွှတ်တော်တွင် ဆွေးနွေးပိုင်ခွင့်ရှိသည်။ သို့သော် ငြင်းပယ်ခြင်း၊ လျှော့၍ခွင့်ပြုခြင်း မပြုရ။

(ဂ) ပုဒ်မခွဲ (ခ) ပါ အသုံးစရိတ်များမှအပ အခြားအသုံးစရိတ်များ အတွက်ကိုမူ ပြည်ထောင်စုလွှတ်တော်က သဘောတူ အတည်ပြုခြင်း၊ ငြင်းပယ်ခြင်း၊ လျှော့၍ ခွင့်ပြုခြင်းတို့ကို အများဆန္ဒနှင့်အညီ ဆောင်ရွက်ရမည်၊

(ဃ) ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့် ပြည်ထောင်စု၏ ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ဥပဒေပါအတိုင်း ပြည်ထောင်စုအစိုးရအဖွဲ့က လိုအပ်သလို ဆောင်ရွက်ရမည်၊

(င) ပြည်ထောင်စုလွှတ်တော်က သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ်အတွက် ပြဋ္ဌာန်း ထားသည့် ပြည်ထောင်စု၏ ဘဏ္ဍာငွေအရအသုံးဆိုင်ရာ ဥပဒေပါ လျာထားသောရငွေများနှင့် ခွင့်ပြုထားသော သုံးငွေများအပြင် နောက်ထပ် ရငွေများ လျာထားရန်နှင့် သုံးငွေများ ခွင့်ပြုရန် လိုအပ်သည့်အခါ နောက်ထပ် ဘဏ္ဍာငွေ ခွဲဝေသုံးစွဲရေးဥပဒေကို အထက်ပါ နည်းလမ်းများအတိုင်း ပြဋ္ဌာန်းဆောင်ရွက်ရမည်၊

(စ) ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့် နောက်ထပ်ဘဏ္ဍာငွေ ခွဲဝေ သုံးစွဲရေးဥပဒေပါအတိုင်း ပြည်ထောင်စုအစိုးရအဖွဲ့က လိုအပ်သလို ဆောင်ရွက်ရမည်။

**Ordinance**

104. When the President after promulgating an Ordinance submits it to the Pyidaungsu Hluttaw for approval, the Pyidaungsu Hluttaw shall :

(a) resolve to approve the Ordinance or not;

(b) if it is approved determine the period, the Ordinance shall continue to be in operation;

(c) if it is disapproved, cease to operate from the day of its disapproval.

**Promulgation as Law**

105. (a) The President shall sign the Bills approved or the Bills deemed to be approved by the Pyidaungsu Hluttaw, within 14 days after the day of receipt, and shall promulgate it as Law.

(b) The President, within the prescribed period, may send the Bill back to the Pyidaungsu Hluttaw together with his comments.

(c) If the President does not send the Bill back to the Pyidaungsu Hluttaw together with his signature and comments within the prescribed period, or if the President does not sign to promulgate, on the day after the completion of that period, the Bill shall become a law as if he had signed it.

106. (a) If the President sends the Bill back to the Pyidaungsu Hluttaw together with his comments within the prescribed period, the Pyidaungsu Hluttaw, after discussion of the President's comments, may accept his comment

**ဥပဒေကဲ့သို့အာဏာတည်သောအမိန့်**

၁၀၄။ ပြည်ထောင်စုလွှတ်တော်သည် နိုင်ငံတော်သမ္မတက ဥပဒေကဲ့သို့ အာဏာတည်သော အမိန့်တစ်ရပ်ကို ထုတ်ပြန်ပြီး ယင်းအမိန့်ကို အတည်ပြုပေးရန် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြသည့်အခါ -

(က) ဥပဒေကဲ့သို့ အာဏာတည်သော အမိန့်ကို အတည်ပြု၊ မပြု ဆုံးဖြတ်ရမည်၊

(ခ) အတည်ပြုရန် ဆုံးဖြတ်ပါက ယင်းအမိန့် ဆက်လက်အာဏာတည်ရမည့် အချိန်ကာလကို သတ်မှတ်ပေးရမည်၊

(ဂ) အတည်ပြုချက်မရရှိလျှင် ဥပဒေကဲ့သို့ အာဏာတည်သောအမိန့်သည် အတည်မပြုသည့်နေ့မှစ၍ အာဏာတည်ခြင်းမှ ရပ်စဲရမည်။

**ဥပဒေအဖြစ် ထုတ်ပြန်ကြေညာခြင်း**

၁၀၅။ (က) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်မှ ပေးပို့လာသည့် ပြည်ထောင်စုလွှတ်တော်က အတည်ပြုသော သို့မဟုတ် ပြည်ထောင်စုလွှတ်တော်က အတည်ပြုသည်ဟု မှတ်ယူရမည်ဖြစ်သော ဥပဒေကြမ်းများကို လက်ခံရရှိသည့်နေ့၏ နောက်တစ်နေ့မှ ၁၄ ရက်အတွင်း လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရမည်၊

(ခ) နိုင်ငံတော်သမ္မတသည် ဥပဒေကြမ်းတစ်ရပ်ကို လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရန် သတ်မှတ်ထားသည့် ကာလအတွင်း မိမိ၏သဘောထား မှတ်ချက်နှင့်အတူ ဥပဒေကြမ်းကို ပြည်ထောင်စုလွှတ်တော်သို့ ပြန်လည်ပေးပို့နိုင်သည်၊

(ဂ) နိုင်ငံတော်သမ္မတက လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရန် သတ်မှတ်ထားသည့် ကာလအတွင်း ဥပဒေကြမ်းကို နိုင်ငံတော်သမ္မတက မိမိ၏ သဘောထားမှတ်ချက်ဖြင့် ပြန်လည်ပေးပို့ခြင်း မပြုလျှင်သော်လည်းကောင်း၊ ဥပဒေကြမ်းကို လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာခြင်း မပြုလျှင်သော်လည်းကောင်း၊ သတ်မှတ်ကာလ ပြည့်မြောက်သည့် နေ့ရက်တွင် ဥပဒေကြမ်းသည် နိုင်ငံတော်သမ္မတ၏ လက်မှတ်ရေးထိုးချက်ကို ရရှိပြီးသကဲ့သို့ ဥပဒေဖြစ်လာရမည်။

၁၀၆။ (က) နိုင်ငံတော်သမ္မတထံ ပေးပို့ထားသော ဥပဒေကြမ်းကို နိုင်ငံတော်သမ္မတက မိမိ၏ သဘောထားမှတ်ချက်များနှင့်အတူ သတ်မှတ်ကာလအတွင်း ပြည်ထောင်စုလွှတ်တော်သို့ ပြန်လည်ပေးပို့လျှင် ပြည်ထောင်စုလွှတ်တော်

and resolve to amend the Bill or may resolve to approve the Bill as it is without accepting the President's comment.

(b) When the Bill which is amended in accord with the President's comment or the Bill which is approved as it is without accepting the President's comment is sent back to him by the resolution of the Pyidaungsu Hluttaw, the President shall sign the Bill and promulgate it as law within seven days after receiving the Bill back.

(c) If the Bill sent back by the Pyidaungsu Hluttaw is not signed by the President within the prescribed period, it shall become law as if he had signed it on the last day of the prescribed period.

107. The laws signed by the President or the laws deemed to have been signed by him shall be promulgated by publication in the official gazette. The Law shall come into operation on the day of such promulgation unless the contrary intention is expressed.

108. The Pyidaungsu Hluttaw :

(a) shall give the resolution on matters relating to ratifying, annulling and revoking from international, regional or bilateral treaties, agreements submitted by the President;

(b) may confer the authority on the President to conclude, annul and revoke any kind of international, regional or bilateral treaties or agreements without the approval of the Pyidaungsu Hluttaw.

သည် နိုင်ငံတော်သမ္မတ၏ သဘောထားမှတ်ချက်များကို ဆွေးနွေးသုံးသပ်ပြီးနောက် နိုင်ငံတော်သမ္မတ၏ သဘောထားမှတ်ချက်ကို လက်ခံ၍ ဥပဒေကြမ်းကို ပြင်ဆင်ရန် ဆုံးဖြတ်နိုင်သည် သို့မဟုတ် နိုင်ငံတော်သမ္မတ၏ သဘောထားမှတ်ချက်ကို လက်မခံဘဲ ဥပဒေကြမ်းကို မူလအတိုင်း အတည်ပြုရန် ဆုံးဖြတ်နိုင်သည်၊

(ခ) နိုင်ငံတော်သမ္မတ၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော ဥပဒေကြမ်း သို့မဟုတ် နိုင်ငံတော်သမ္မတ၏ သဘောထားမှတ်ချက်ကို လက်မခံဘဲ မူလအတိုင်း အတည်ပြုသော ဥပဒေကြမ်းအား ပြည်ထောင်စုလွှတ်တော်၏ ဆုံးဖြတ်ချက်ဖြင့် ပြန်လည်ပေးပို့လာသည့်အခါ နိုင်ငံတော်သမ္မတသည် ဥပဒေကြမ်း ပြန်လည်ရရှိသည့်နေ့၏ နောက်တစ်နေ့မှ ခုနစ်ရက်အတွင်း လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရမည်၊

(ဂ) ပြည်ထောင်စုလွှတ်တော်က ပြန်လည်ပေးပို့သော ဥပဒေကြမ်းကို သတ်မှတ်ကာလအတွင်း နိုင်ငံတော်သမ္မတက လက်မှတ်ရေးထိုးခြင်း မပြုလျှင် သတ်မှတ်ကာလ ပြည့်မြောက်သည့် နေ့ရက်တွင် ဥပဒေကြမ်းသည် နိုင်ငံတော်သမ္မတ၏ လက်မှတ်ရေးထိုးချက်ကို ရရှိပြီးသကဲ့သို့ ဥပဒေဖြစ်လာရမည်။

၁၀၇။ နိုင်ငံတော်သမ္မတက လက်မှတ်ရေးထိုးပြီးသော ဥပဒေများ သို့မဟုတ် နိုင်ငံတော်သမ္မတ၏ လက်မှတ်ရေးထိုးချက် ရရှိပြီးသကဲ့သို့ မှတ်ယူရမည်ဖြစ်သော ဥပဒေများကို နိုင်ငံတော်ပြန်တမ်းတွင် ထုတ်ပြန်ကြေညာရမည်။ ထိုဥပဒေတွင် သီးခြားဖော်ပြချက် မပါလျှင် ထုတ်ပြန်ကြေညာသည့်နေ့မှစ၍ အာဏာတည်ရမည်။

၁၀၈။ ပြည်ထောင်စုလွှတ်တော်သည် -

(က) နိုင်ငံတော်သမ္မတက တင်ပြသည့် အပြည်ပြည်ဆိုင်ရာ၊ ဒေသဆိုင်ရာ သို့မဟုတ် နိုင်ငံအချင်းချင်းဆိုင်ရာ စာချုပ်များ၊ သဘောတူညီချက်များကို အတည်ပြုဆောင်ရွက်ခြင်း၊ ပယ်ဖျက်ခြင်း၊ နုတ်ထွက်ခြင်းတို့နှင့် စပ်လျဉ်း၍ အဆုံးအဖြတ်ပေးရမည်၊

(ခ) အပြည်ပြည်ဆိုင်ရာ၊ ဒေသဆိုင်ရာ သို့မဟုတ် နိုင်ငံအချင်းချင်းဆိုင်ရာ စာချုပ်များ၊ သဘောတူညီချက်များအနက် မည်ကဲ့သို့သော စာချုပ် သို့မဟုတ် သဘောတူညီချက် အမျိုးအစားကို ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ရယူရန်မလိုဘဲ ချုပ်ဆိုခြင်း၊ ပယ်ဖျက်ခြင်း၊ နုတ်ထွက်ခြင်းတို့ကို ဆောင်ရွက်ရန် နိုင်ငံတော်သမ္မတအား လုပ်ပိုင်ခွင့် လွှဲအပ်နိုင်သည်။

## Pyithu Hluttaw

### Formation of the Pyithu Hluttaw

109. The Pyithu Hluttaw shall be formed with a maximum of 440 Hluttaw representatives as follows :

(a) not more than 330 Pyithu Hluttaw representatives elected prescribing electorate in accord with law on the basis of township as well as population or combining with an appropriate township which is contagious to the newly-formed township if it is more than 330 townships;

(b) not more than 110 Pyithu Hluttaw representatives who are the Defence Services personnel nominated by the Commander-in-Chief of the Defence Services in accord with the law.

### Election of the Pyithu Hluttaw Chairperson

110. (a) A Pyithu Hluttaw representative shall be elected as the Chairperson at the commencement of the first session of the Pyithu Hluttaw for its term.

(b) The Chairperson shall take an affirmation of office before the Pyithu Hluttaw;

(c) The Chairperson shall supervise the Pyithu Hluttaw session up to the completion of the election of the Speaker and the Deputy Speaker of the Pyithu Hluttaw.

### Election of the Speaker and the Deputy Speaker of the Pyithu Hluttaw

111. (a) (i) The Pyithu Hluttaw representatives shall elect a Speaker and a Deputy Speaker from among the Pyithu Hluttaw representatives.

# ပြည်သူ့လွှတ်တော်

## ပြည်သူ့လွှတ်တော်ဖွဲ့စည်းခြင်း

၁၀၉။ ပြည်သူ့လွှတ်တော်ကို လွှတ်တော်ကိုယ်စားလှယ်ဦးရေ အများဆုံး ၄၄၀ ဦးဖြင့် အောက်ပါအတိုင်း ဖွဲ့စည်းရမည် -

(က) မြို့နယ်ကို အခြေခံ၍လည်းကောင်း၊ လူဦးရေကို အခြေခံ၍လည်းကောင်း၊ မြို့နယ် ၃၃၀ ထက် ပိုမိုလာပါက အသစ်ဖွဲ့စည်းသည့် မြို့နယ်ကို တစ်ဆက်တစ်စပ်တည်းဖြစ်သော သင့်လျော်သည့် မြို့နယ်တစ်ခုခုနှင့် ပူးပေါင်း၍လည်းကောင်း ဥပဒေနှင့်အညီ မဲဆန္ဒနယ်သတ်မှတ်၍ ရွေးကောက်တင်မြှောက်သည့် ၃၃၀ ဦး ထက်မပိုသော ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များ၊

(ခ) တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်း တင်သွင်းသည့် ၁၁၀ ဦးထက်မပိုသော တပ်မတော်သား ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များ။

## ပြည်သူ့လွှတ်တော် သဘာပတိ တင်မြှောက်ခြင်း

၁၁၀။ (က) ပြည်သူ့လွှတ်တော် သက်တမ်းတစ်ရပ်၏ ပထမအကြိမ် ပြည်သူ့လွှတ်တော် အစည်းအဝေး စတင်ကျင်းပသည့်အခါ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် တစ်ဦးအား သဘာပတိအဖြစ် တင်မြှောက်ရမည်၊

(ခ) သဘာပတိသည် ပြည်သူ့လွှတ်တော် ရှေ့မှောက်တွင် ကတိသစ္စာပြုရမည်၊

(ဂ) သဘာပတိသည် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ပြီးသည်အထိ ပြည်သူ့လွှတ်တော်အစည်းအဝေးကို ကြီးကြပ်ကွပ်ကဲရမည်။

## ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ခြင်း

၁၁၁။ (က) (၁) ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များသည် ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌတစ်ဦးနှင့် ဒုတိယဥက္ကဋ္ဌတစ်ဦးကို ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များထဲမှ ရွေးကောက်တင်မြှောက်ရမည်၊

(ii) When the seat of the Speaker or the Deputy Speaker becomes vacant, the substitution shall be made at the nearest session of the Pyithu Hluttaw.

(iii) When the Speaker is unable to perform the duties of the Speaker, the Deputy Speaker shall temporarily perform the duties of the Speaker.

(b) The law relating to procedures to elect the Speaker and the Deputy Speaker of the Pyithu Hluttaw shall be enacted.

**Functions of the Speaker of the Pyithu Hluttaw**

112. The Speaker of the Pyithu Hluttaw shall :

(a) supervise the Pyithu Hluttaw sessions;

(b) invite the President, if he is intimated of the President's desire to address the Pyithu Hluttaw;

(c) have the right to invite members of the organization or persons representing any of the Union level organizations formed under the Constitution to attend the Pyithu Hluttaw and give clarifications on matters relating to ongoing discussions of the Pyithu Hluttaw session, if necessary;

(d) perform other duties and exercise powers prescribed by the Constitution or any law.

**Performance and termination of duties of the Speaker and the Deputy Speaker of the Pyithu Hluttaw**

113. (a) The Speaker and the Deputy Speaker of the Pyithu Hluttaw shall perform their duties until the first session of the next term of the Pyithu Hluttaw is held.

(၂) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ သို့မဟုတ် ဒုတိယဥက္ကဋ္ဌနေရာ လစ်လပ်လျှင် အနီးကပ်ဆုံးကျင်းပသော ပြည်သူ့လွှတ်တော် အစည်းအဝေးတွင် အစားထိုးရွေးကောက်တင်မြှောက်ရမည်၊

(၃) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌသည် ဥက္ကဋ္ဌတာဝန်ကို ထမ်းဆောင်နိုင်စွမ်း မရှိသည့်အခါ ဒုတိယဥက္ကဋ္ဌသည် ဥက္ကဋ္ဌတာဝန်ကို ယာယီ ထမ်းဆောင်ရမည်။

(ခ) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ရန် နည်းလမ်းများကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၏ လုပ်ငန်းတာဝန်

၁၁၂။ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌသည် -

(က) ပြည်သူ့လွှတ်တော် အစည်းအဝေးများကို ကြီးကြပ်ကွပ်ကဲရမည်၊

(ခ) ပြည်သူ့လွှတ်တော် အစည်းအဝေးသို့ တက်ရောက်၍ မိန့်ခွန်းပြောကြား လိုကြောင်း နိုင်ငံတော်သမ္မတက အကြောင်းကြားလျှင် နိုင်ငံတော်သမ္မတအား ဖိတ်ကြားရမည်၊

(ဂ) ပြည်သူ့လွှတ်တော် အစည်းအဝေး၌ ဆွေးနွေးဆောင်ရွက်ဆဲ အကြောင်း အရာတစ်ရပ်ရပ်နှင့် စပ်လျဉ်း၍ လိုအပ်လျှင် ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စား ပြုသော အဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များကို ပြည်သူ့လွှတ်တော် အစည်းအဝေးသို့ တက်ရောက် ရှင်းလင်းတင်ပြစေရန် ဖိတ်ကြားခွင့်ရှိသည်၊

(ဃ) ဖွဲ့စည်းပုံအခြေခံဥပဒေအရသော်လည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရသော် လည်းကောင်း သတ်မှတ်ထားသည့် အခြားတာဝန်နှင့် လုပ်ပိုင်ခွင့်များ ဆောင်ရွက်ရမည်။

## ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ တို့၏ တာဝန်ထမ်းဆောင်ခြင်းနှင့် ရပ်စဲခြင်း

၁၁၃။ (က) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့သည် နောက်တစ်ကြိမ် ပြည်သူ့ လွှတ်တော်သက်တမ်း ပထမအစည်းအဝေး စတင်မကျင်းပမီ အချိန်အထိ ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတာဝန်ကို ထမ်းဆောင်ရမည်၊

(b) If the Speaker or the Deputy Speaker resigns or has ceased to be a Pyithu Hluttaw representative, or has no right to continue to stand as a Pyithu Hluttaw representative, or is suspended from his position as the Speaker or the Deputy Speaker by the Pyithu Hluttaw, or has passed away, he shall have ceased from his position.

114. Duties, powers and rights of the Speaker and the Deputy Speaker of the Pyithu Hluttaw shall be prescribed by law.

**Formation of the Pyithu Hluttaw Committee, Commission and Bodies**

115. (a) The Pyithu Hluttaw shall form Bill Committee, Public Accounts Committee, Hluttaw Rights Committee, and Government's Guarantees, Pledges and Undertakings Vetting Committee with the Pyithu Hluttaw representatives.

(b) When the occasion arises to have studies made and submitted on defence and security matters or Military affairs, the Pyithu Hluttaw shall form the Defence and Security Committee with the Pyithu Hluttaw representatives who are the Defence Services Personnel, for a limited time. The Defence and Security Committee so formed may, if necessary, be included suitable Pyithu Hluttaw representatives who are not the Defence Services Personnel in accord with the volume of work.

(c) If there arises a need to study and submit other affairs, in addition to legislature, executive, national races affairs, economics, finance, social and foreign affairs, Hluttaw Committees may be formed with the Pyithu Hluttaw representatives for a limited time.

(d) The Pyithu Hluttaw shall determine the number of members, duties, powers, rights, and terms of Pyithu Hluttaw Committees.

(ခ) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ သို့မဟုတ် ဒုတိယဥက္ကဋ္ဌသည် နုတ်ထွက်လျှင်ဖြစ်စေ၊ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အဖြစ်မှ ရပ်စဲခြင်းခံရလျှင်ဖြစ်စေ၊ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အဖြစ် ဆက်လက်ရပ်တည်ပိုင်ခွင့် မရှိလျှင်ဖြစ်စေ၊ ဥက္ကဋ္ဌ သို့မဟုတ် ဒုတိယဥက္ကဋ္ဌတာဝန်မှ ပြည်သူ့လွှတ်တော်၏ ရပ်သိမ်းခြင်းကို ခံရလျှင်ဖြစ်စေ၊ ကွယ်လွန်လျှင်ဖြစ်စေ ဥက္ကဋ္ဌ သို့မဟုတ် ဒုတိယ ဥက္ကဋ္ဌအဖြစ်မှ ရပ်စဲပြီး ဖြစ်စေရမည်။

၁၁၄။ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏တာဝန်၊ လုပ်ပိုင်ခွင့်နှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## ပြည်သူ့လွှတ်တော်ကော်မတီ၊ ကော်မရှင်နှင့် အဖွဲ့များ ဖွဲ့စည်းခြင်း

၁၁၅။ (က) ပြည်သူ့လွှတ်တော်သည် ဥပဒေကြမ်းကော်မတီ၊ ပြည်သူ့ငွေစာရင်းကော်မတီ၊ လွှတ်တော်အခွင့်အရေးကော်မတီ၊ အစိုးရ၏ အာမခံချက်များ၊ ကတိများနှင့် တာဝန်ခံချက်များ စိစစ်ရေးကော်မတီတို့ကို ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းရမည်၊

(ခ) ကာကွယ်ရေးနှင့် လုံခြုံရေးဆိုင်ရာ ကိစ္စများကိုလည်းကောင်း၊ တပ်မတော်ဆိုင်ရာ ကိစ္စများကိုလည်းကောင်း လေ့လာတင်ပြစေရန် အကြောင်းပေါ်ပေါက်ပါက ပြည်သူ့လွှတ်တော်သည် ကာကွယ်ရေးနှင့် လုံခြုံရေးကော်မတီကို တပ်မတော်သား ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များဖြင့် ကာလသတ်မှတ်၍ ဖွဲ့စည်းရမည်။ ထိုသို့ဖွဲ့စည်းသည့် ကာကွယ်ရေးနှင့် လုံခြုံရေးကော်မတီသည် လုပ်ငန်းလိုအပ်ချက်အရ တပ်မတော်သား မဟုတ်သော သင့်လျော်သည့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များကိုလည်း ထည့်သွင်းဖွဲ့စည်းရန် လိုအပ်ပါက ဖွဲ့စည်းနိုင်သည်၊

(ဂ) ပြည်သူ့လွှတ်တော်သည် ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တိုင်းရင်းသားလူမျိုးများအရေး၊ စီးပွားရေး၊ ဘဏ္ဍာရေး၊ လူမှုရေး၊ နိုင်ငံခြားရေးတို့အပြင် အခြားရေးရာကိစ္စများကို လေ့လာတင်ပြစေရန် လိုအပ်ပါက လွှတ်တော် ကော်မတီများကို ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များဖြင့် ကာလသတ်မှတ်၍ ဖွဲ့စည်းနိုင်သည်၊

(ဃ) ပြည်သူ့လွှတ်တော်သည် ပြည်သူ့လွှတ်တော် ကော်မတီများ၏ အဖွဲ့ဝင်ဦးရေ၊ တာဝန်၊ လုပ်ပိုင်ခွင့်၊ ရပိုင်ခွင့်နှင့် သက်တမ်းတို့ကို သတ်မှတ်ပေးရမည်။

116. If there arises a certain matter to co-ordinate with the Amyotha Hluttaw, the Pyithu Hluttaw may elect and assign its representatives who will serve with the Joint Committee comprising an equal number of representatives from the Pyithu Hluttaw and the Amyotha Hluttaw to form that Committee. The term of the Joint Committee shall be until the time they have submitted the report to the Hluttaw concerned.

117. When both the Pyithu Hluttaw and the Amyotha Hluttaw have certain matters to study, apart from matters to be performed by the Committees as prescribed in Sub-Sections (a) and (b) of Section 115, the Speakers of these Hluttaws may co-ordinate among themselves and form a Joint Committee comprising an equal number of representatives from the Pyithu Hluttaw and the Amyotha Hluttaw. The Pyithu Hluttaw may elect and assign the Pyithu Hluttaw representatives included in that Committee. The term of the Joint Committee shall be until the time they have submitted the report to the Hluttaw concerned.

118. (a) If there arises a need to study the remaining matters other than those studied by the Pyithu Hluttaw Committees, the Pyithu Hluttaw may form Commissions and Bodies with the Pyithu Hluttaw representatives or including suitable citizens.

(b) In forming the above Commissions and Bodies, the Pyithu Hluttaw shall determine the number of members, duties, powers, rights, and the terms of the said Commissions and Bodies.

**Term of the Pyithu Hluttaw**

119. The term of the Pyithu Hluttaw is five years from the day of its first session.

၁၁၆။ ပြည်သူ့လွှတ်တော်သည် အမျိုးသားလွှတ်တော်နှင့် ညှိနှိုင်းရန် ကိစ္စပေါ်ပေါက်လျှင် ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တို့မှ ကိုယ်စားလှယ်ဦးရေ တူညီစွာ ပါဝင်သော ပူးပေါင်းကော်မတီတစ်ရပ်ကို ဖွဲ့စည်းဆောင်ရွက်နိုင်ရေးအတွက် ယင်းကော်မတီတွင် ပါဝင်မည့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များကို ရွေးကောက်တင်မြှောက် တာဝန်ပေးအပ်နိုင်သည်။ ပူးပေါင်းကော်မတီ၏ သက်တမ်းသည် သက်ဆိုင်ရာလွှတ်တော်သို့ အစီရင်ခံစာတင်သွင်းပြီးသည့်အချိန်အထိ ဖြစ်သည်။

၁၁၇။ ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တို့သည် ပုဒ်မ ၁၁၅ ပုဒ်မခွဲ (က) နှင့် (ခ) ပါ ကော်မတီများက ဆောင်ရွက်ရမည့်ကိစ္စများမှအပ အကြောင်းကိစ္စတစ်ရပ်ရပ်ကို လွှတ်တော်နှစ်ရပ်လုံးက လေ့လာရန်ရှိပါက ယင်းလွှတ်တော်များ၏ ဥက္ကဋ္ဌများသည် အချင်းချင်း ညှိနှိုင်း၍ ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တို့မှ ကိုယ်စားလှယ်ဦးရေ တူညီစွာ ပါဝင်သော ပူးပေါင်းကော်မတီတစ်ရပ်ကို ဖွဲ့စည်းဆောင်ရွက်နိုင်သည်။ ပြည်သူ့လွှတ်တော်သည် ထိုကော်မတီတွင်ပါဝင်မည့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များကို ရွေးကောက်တင်မြှောက် တာဝန်ပေးအပ်နိုင်သည်။ ယင်းပူးပေါင်းကော်မတီ၏ သက်တမ်းသည် သက်ဆိုင်ရာလွှတ်တော်သို့ အစီရင်ခံစာ တင်သွင်းပြီးသည့် အချိန်အထိဖြစ်သည်။

၁၁၈။ (က) ပြည်သူ့လွှတ်တော်သည် ပြည်သူ့လွှတ်တော်ကော်မတီများက လေ့လာသော အကြောင်းကိစ္စများမှအပ ကျန်အကြောင်းကိစ္စများကို လေ့လာရန် လိုအပ်ပါက ကော်မရှင်နှင့် အဖွဲ့များကို ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များဖြင့်လည်းကောင်း၊ သင့်လျော်သည့် နိုင်ငံသားများ ထည့်သွင်း၍လည်းကောင်း ဖွဲ့စည်းနိုင်သည်၊

(ခ) ပြည်သူ့လွှတ်တော်သည် အထက်ပါကော်မရှင်နှင့် အဖွဲ့များကို ဖွဲ့စည်းသည့်အခါ ယင်းကော်မရှင် သို့မဟုတ် အဖွဲ့များ၏ အဖွဲ့ဝင်ဦးရေ၊ တာဝန်၊ လုပ်ပိုင်ခွင့်၊ ရပိုင်ခွင့်နှင့်သက်တမ်းကိုပါ သတ်မှတ်ပေးရမည်။

## ပြည်သူ့လွှတ်တော်၏ သက်တမ်း

၁၁၉။ ပြည်သူ့လွှတ်တော်၏သက်တမ်းသည် ယင်းလွှတ်တော်၏ ပထမအကြိမ် အစည်းအဝေး စတင်ကျင်းပသည့် နေ့ရက်မှစ၍ ငါးနှစ် ဖြစ်သည်။

**Qualification of the Pyithu Hluttaw representatives**

120. Persons who possess the following qualifications shall be entitled to be elected as the Pyithu Hluttaw representatives :

(a) person who has attained the age of 25 years;

(b) citizen who was born of both parents who are citizens;

(c) person who has resided in the Union of Myanmar for at least ten consecutive years up to the time of his election as Pyithu Hluttaw representative;

Proviso: The official period of stay in a foreign country with the permission of the Union shall be counted as a residing period in the Union,

(d) person who possesses qualifications prescribed by the Election Law.

**Disqualification for the Pyithu Hluttaw Representatives**

121. The following persons shall not be entitled to be elected as the Pyithu Hluttaw representatives :

(a) a person serving prison term, having been convicted by the Court concerned for having committed an offence;

(b) a person who has no right to be elected a Pyithu Hluttaw representative due to having committed an offence relating to disqualification for the Pyithu Hluttaw representative and being convicted for such offence, unless the period specified by the authority for him has not expired, before or after the Constitution comes into operation;

(c) person who is of unsound mind as adjudged by the relevant law;

(d) person who is an undischarged insolvent as being declared by the relevant court;

(e) person who owes allegiance to a foreign government, or subject to a foreign government or a citizen of a foreign country;

## ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များ၏ အရည်အချင်း

၁၂၀။ အောက်ပါအရည်အချင်းများနှင့် ပြည့်စုံသူသည် ပြည်သူ့လွှတ်တော်သို့ လွှတ်တော်ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်ရှိသည် -

(က) အသက် ၂၅ နှစ်ပြည့်ပြီးသူ၊

(ခ) နိုင်ငံသားမိဘနှစ်ပါးမှ မွေးဖွားသော နိုင်ငံသားဖြစ်သူ၊

(ဂ) ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခံရသည့် အချိန်နှင့် တစ်ဆက်တည်း ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အနည်းဆုံး ၁၀ နှစ် အခြေချနေထိုင်ခဲ့သူ၊

ခြွင်းချက်။ နိုင်ငံတော်၏ ခွင့်ပြုချက်ဖြင့် နိုင်ငံခြားသို့ တရားဝင်သွားရောက်သည့်ကာလများကိုလည်း နိုင်ငံတော်တွင် အခြေချနေထိုင်ခဲ့သည့်ကာလအဖြစ် ထည့်သွင်းရေတွက်ရမည်။

(ဃ) ရွေးကောက်တင်မြှောက်ခြင်းဆိုင်ရာ ဥပဒေတွင် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသူ။

## ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့် မရှိခြင်း

၁၂၁။ အောက်ပါပုဂ္ဂိုလ်များသည် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေရ -

(က) ပြစ်မှုတစ်ခုခုကို ကျူးလွန်သဖြင့် သက်ဆိုင်ရာတရားရုံး၏ ပြစ်မှုထင်ရှား စီရင်ခြင်းခံရ၍ ထောင်ဒဏ်ကျခံနေရသူ၊

(ခ) ဖွဲ့စည်းပုံအခြေခံဥပဒေအာဏာ မတည်မီကဖြစ်စေ၊ အာဏာတည်ပြီးမှ ဖြစ်စေ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အရည်အချင်း ပျက်ယွင်းစေသည့် ပြစ်မှုဖြင့် ပြစ်ဒဏ်ချမှတ်ခံရခြင်းအတွက် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက် ခံပိုင်ခွင့်မရှိကြောင်း သက်ဆိုင်ရာက သတ်မှတ်သည့် ကာလ ကုန်ဆုံးခြင်း မရှိသေးသူ၊

(ဂ) စိတ်ပေါ့သွပ်သည်ဟု သက်ဆိုင်ရာဥပဒေက ပြဋ္ဌာန်းထားသည့်အတိုင်း သတ်မှတ်ခြင်းခံရသူ၊

(ဃ) လူမွဲအဖြစ် သက်ဆိုင်ရာတရားရုံး၏ ကြေညာခံထားရခြင်းမှ လွတ်မြောက်ခွင့် မရသေးသူ၊

(င) နိုင်ငံခြားအစိုးရ၏ ကျေးဇူးသစ္စာကို ခံယူစောင့်ရှောက်ရိုသေသူ သို့မဟုတ် နိုင်ငံခြားအစိုးရ၏လက်အောက်ခံဖြစ်သူ သို့မဟုတ် တိုင်းတစ်ပါး၏ နိုင်ငံသား ဖြစ်သူ၊

(f) person who is entitled to enjoy the rights and privileges of a subject of a foreign government or a citizen of a foreign country;

(g) person himself or is of a member of an organization who obtains and utilizes directly or indirectly the support of money, land, housing, building, vehicle, property, so forth, from government or religious organization or other organizations of a foreign country;

(h) person himself or is of a member of an organization who abets the act of inciting, giving speech, conversing or issuing declaration to vote or not to vote based on religion for political purpose;

(i) member of a religious order;

(j) Civil Services personnel;

Proviso: The expression shall not be applied to Civil Services personnel including the Defence Services personnel selected and appointed in the Hluttaws and organizations formed under the Constitution.

(k) person himself or is of a member of an organization who obtains and utilizes directly or indirectly the State-owned money, land, housing, building, vehicle, property, so forth;

Proviso: (i) The expression 'State-owned money' does not include pension, allowance, money or salary, allowances, money officially granted by the Union for services rendered for the benefit of the Union;

(ii) The expression 'State-owned land, housing, building, vehicles and property' does not include State-owned land, housing, building and apartments, other building and

(စ) နိုင်ငံခြားအစိုးရ၏ လက်အောက်ခံဖြစ်သူသော်လည်းကောင်း၊ တိုင်းတစ်ပါး၏ နိုင်ငံသားသော်လည်းကောင်း ခံစားရသော အခွင့်အရေးများ သို့မဟုတ် ကျေးဇူးခံစားခွင့်များကို ခံစားနိုင်ခွင့်ရှိသူ၊

(ဆ) နိုင်ငံခြားတိုင်းပြည်တစ်ခုခု၏ အစိုးရ သို့မဟုတ် ဘာသာရေးအဖွဲ့အစည်း သို့မဟုတ် အခြားအဖွဲ့အစည်းများမှ ငွေကြေး၊ မြေ၊ အိမ်၊ အဆောက်အအုံ၊ ယာဉ်၊ ပစ္စည်း စသည်တို့ကို တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်သောနည်းဖြင့် ဖြစ်စေ အထောက်အပံ့ရယူသုံးစွဲသူ သို့မဟုတ် ယင်းသို့ အထောက်အပံ့ ရယူသုံးစွဲသည့် အဖွဲ့အစည်းဝင်ဖြစ်သူ၊

(ဇ) နိုင်ငံရေးကိစ္စအတွက် ဘာသာရေးကို အကြောင်းပြု၍ ဆန္ဒမဲပေးရန် သော်လည်းကောင်း၊ ဆန္ဒမဲမပေးရန်သော်လည်းကောင်း ပြောဆိုခြင်း၊ ဟောပြောခြင်း၊ ကြေညာချက်ထုတ်ပြန်ခြင်းနှင့် ယင်းသို့ပြုလုပ်ရန် အားပေး လှုံ့ဆော်ခြင်းပြုသူ သို့မဟုတ် ယင်းသို့ပြုလုပ်သည့် အဖွဲ့အစည်းဝင်ဖြစ်သူ၊

(ဈ) သာသနာ့ဝန်ထမ်း၊

(ည) နိုင်ငံ့ဝန်ထမ်း၊

ခြွင်းချက်။ ယင်းစကားရပ်သည် -

ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသော လွှတ်တော်များနှင့် အဖွဲ့အစည်းများတွင် ရွေးချယ်ခန့်အပ်ခြင်းခံရသည့် တပ်မတော်သားများ အပါအဝင် နိုင်ငံ့ဝန်ထမ်းများနှင့် မသက်ဆိုင်စေရ။

(ဋ) နိုင်ငံတော်ပိုင်ငွေကြေး၊ မြေ၊ အိမ်၊ အဆောက်အအုံ၊ ယာဉ်၊ ပစ္စည်း စသည် တို့ကိုတိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်သောနည်းဖြင့်ဖြစ်စေ ရယူသုံးစွဲသူ သို့မဟုတ် ယင်းသို့ ရယူသုံးစွဲသည့် အဖွဲ့အစည်းဝင်ဖြစ်သူ၊

ခြွင်းချက်။ (၁) နိုင်ငံတော်ပိုင်ငွေကြေးဟူသော စကားရပ်တွင် အငြိမ်းစား လစာ၊ စရိတ်၊ ငွေကြေးသော်လည်းကောင်း၊ နိုင်ငံတော် အကျိုးအတွက် ဆောင်ရွက်သဖြင့် နိုင်ငံတော်က တရားဝင် ထောက်ပံ့ချီးမြှင့်ထားသော လစာ၊ စရိတ်၊ ငွေကြေးသော် လည်းကောင်း မပါဝင်၊

(၂) နိုင်ငံတော်ပိုင်မြေ၊ အိမ်၊ အဆောက်အအုံ၊ ယာဉ်၊ ပစ္စည်းဟူသောစကားရပ်တွင် ဥပဒေတစ်ရပ်ရပ်အရသော် လည်းကောင်း၊ တာဝန်အရသော်လည်းကောင်း နိုင်ငံတော်

apartments, State-owned aircraft, trains, vessels and motor vehicles and property, so forth, which have been permitted by the Union to be used under an existing law or as required by duty, or leased from the Union on payment.

(l) a person who has no right to be elected a Pyithu Hluttaw representative due to having committed a malpractice under relating to the Election Law or acting an omission relating to disqualification for a Pyithu Hluttaw representative being convicted under the Election Law, the period specified by the authority for him has not expired, before or after the Constitution comes into operation.

**Qualifications of the Pyithu Hluttaw representatives who are the Defence Services personnel**

122. The Defence Services personnel, nominated by the Commander-in-Chief of the Defence Services as Pyithu Hluttaw representatives who are the Defence Services personnel in accord with the law, shall possess the prescribed qualifications for the Pyithu Hluttaw representatives.

**Convening the Pyithu Hluttaw Session**

123. The first regular session of a term of the Pyithu Hluttaw shall be held within 90 days after the commencement of the general election.

124. (a) The first regular session of the Pyithu Hluttaw shall be held by the State Peace and Development Council after the Constitution comes into operation.

(b) The first regular sessions for the forthcoming terms of the Pyithu Hluttaw shall be held by the Speaker of the Pyithu Hluttaw who continues to perform his duties in accord with the provisions of the Constitution.

က သုံးစွဲခွင့်ပြုထားသော သို့မဟုတ် နိုင်ငံတော်ထံမှ အခကြေးငွေဖြင့် ငှားရမ်းသုံးစွဲသော နိုင်ငံတော်ပိုင် မြေ၊ အိမ်၊ အဆောက်အအုံနှင့် အခန်းများ၊ အခြားအဆောက်အအုံနှင့် အခန်းများ၊ နိုင်ငံတော်ပိုင် လေယာဉ်၊ ရထား၊ သင်္ဘော၊ မော်တော်ယာဉ်၊ ပစ္စည်းစသည်များ မပါဝင်။

(ဠ) ဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာမတည်မီကဖြစ်စေ၊ အာဏာတည်ပြီးမှဖြစ်စေ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အရည်အချင်း ပျက်ယွင်းစေသည့် ရွေးကောက်ပွဲဆိုင်ရာ တရားမဲ့ပြုကျင့်မှု ကျူးလွန်ခြင်းကြောင့် သို့မဟုတ် ရွေးကောက်ပွဲဆိုင်ရာ ဥပဒေနှင့်အညီ ဆောင်ရွက်ရန် ပျက်ကွက်ခြင်းကြောင့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက် ခံပိုင်ခွင့် မရှိကြောင်း သက်ဆိုင်ရာက သတ်မှတ်ထားသည့်ကာလ ကုန်ဆုံးခြင်း မရှိသေးသူ။

## တပ်မတော်သား ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များ၏ အရည်အချင်း

၁၂၂။ တပ်မတော်သား ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များအဖြစ် တပ်မတော် ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်း တင်သွင်းသော တပ်မတော်သားများသည် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံရမည်။

## ပြည်သူ့လွှတ်တော်အစည်းအဝေးကျင်းပခြင်း

၁၂၃။ ပြည်သူ့လွှတ်တော်၏ သက်တမ်းတစ်ရပ် စတင်သော ပထမအကြိမ် ပုံမှန်အစည်းအဝေးကို အထွေထွေရွေးကောက်ပွဲ စတင်ကျင်းပသည့်နေ့ရက်မှ ရက်ပေါင်း ၉၀ အတွင်း ကျင်းပရမည်။

၁၂၄။ (က) ဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာတည်ပြီးနောက် ပထမအကြိမ်ပြည်သူ့လွှတ်တော် ပုံမှန်အစည်းအဝေးကို နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီက ခေါ်ယူကျင်းပရမည်၊

(ခ) ပြည်သူ့လွှတ်တော်၏ နောင်သက်တမ်းများအတွက် ပထမအကြိမ် ပုံမှန်အစည်းအဝေးများကို ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ တာဝန်ဆက်လက် ထမ်းဆောင်လျက်ရှိသော ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌက ခေါ်ယူကျင်းပရမည်။

125. (a) The representatives of the Pyithu Hluttaw shall take an affirmation of office as mentioned in Schedule Four before the Chairperson of the Pyithu Hluttaw at the first regular session of the Pyithu Hluttaw.

(b) The representatives of the Pyithu Hluttaw who have not taken an affirmation of office shall do so before the Speaker of the Hluttaw at the session of the Pyithu Hluttaw at which they first attend.

126. The Speaker of the Pyithu Hluttaw shall convene the regular session at least once a year. The maximum interval between regular sessions shall not exceed 12 months.

127. The following functions shall be carried out at the Pyithu Hluttaw session :

(a) recording the address delivered by the President;

(b) reading and recording the message sent by the President and other messages permitted by the Speaker;

(c) submitting, discussing and resolving on a Bill;

(d) discussing and resolving on the matters to be undertaken by the Pyithu Hluttaw in accord with the provisions of the Constitution;

(e) discussing, resolving and recording the reports submitted to the Pyithu Hluttaw;

(f) submitting proposals, discussing and resolving;

(g) raising questions and replying;

(h) performing matters approved by the Speaker of the Pyithu Hluttaw.

128. (a) The first day session of the Pyithu Hluttaw shall be valid if more than half of the total number of the Hluttaw representatives, who have the right to attend the session, are present. The session, if invalid, shall be adjourned.

၁၂၅။ (က) ပထမအကြိမ်ကျင်းပသော ပြည်သူ့လွှတ်တော် ပုံမှန်အစည်းအဝေးတွင် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များသည် ပြည်သူ့လွှတ်တော် သဘာပတိ ရှေ့မှောက်၌ ဇယား ၄ တွင် ဖော်ပြထားသည့်အတိုင်း ကတိသစ္စာပြုရမည်၊

(ခ) ကတိသစ္စာမပြုရသေးသော ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များသည် စတင်တက်ရောက်သော ပြည်သူ့လွှတ်တော် အစည်းအဝေးတွင် လွှတ်တော် ဥက္ကဋ္ဌ ရှေ့မှောက်၌ ကတိသစ္စာပြုရမည်။

၁၂၆။ ပြည်သူ့လွှတ်တော်ပုံမှန်အစည်းအဝေးကို ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌက တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် ခေါ်ယူကျင်းပရမည်။ ပုံမှန်အစည်းအဝေးတစ်ကြိမ်နှင့် တစ်ကြိမ်အကြား အရှည်ကြာဆုံးကာလသည် ၁၂ လ ထက် မပိုစေရ။

၁၂၇။ ပြည်သူ့လွှတ်တော် အစည်းအဝေး၌ အောက်ပါကိစ္စရပ်များကို ဆောင်ရွက်သည် -

(က) နိုင်ငံတော်သမ္မတ ပြောကြားသည့်မိန့်ခွန်းကို မှတ်တမ်းတင်ခြင်း၊

(ခ) နိုင်ငံတော်သမ္မတက ပေးပို့သောသဝဏ်လွှာနှင့် ဥက္ကဋ္ဌက ခွင့်ပြုသော အခြား သဝဏ်လွှာများကို ဖတ်ကြားခြင်း၊ မှတ်တမ်းတင်ခြင်း၊

(ဂ) ဥပဒေကြမ်းတင်သွင်းခြင်း၊ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊

(ဃ) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များအရ ပြည်သူ့လွှတ်တော်က ဆောင်ရွက်ရမည့် ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊

(င) ပြည်သူ့လွှတ်တော်သို့ တင်သွင်းသည့် အစီရင်ခံစာများကို ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊ မှတ်တမ်းတင်ခြင်း၊

(စ) အဆိုတင်သွင်းခြင်း၊ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊

(ဆ) မေးခွန်းမေးမြန်းခြင်း၊ ဖြေကြားခြင်း၊

(ဇ) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌက ခွင့်ပြုသည့် ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ဆောင်ရွက်ခြင်း။

၁၂၈။ (က) ပြည်သူ့လွှတ်တော် အစည်းအဝေးတစ်ရပ်၏ ပထမနေ့တွင် ပြည်သူ့လွှတ်တော် အစည်းအဝေးသို့ တက်ရောက်ခွင့်ရှိသည့် လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေ၏ ထက်ဝက်ကျော်ဦးရေ တက်ရောက်လျှင် ယင်းအစည်း အဝေး အထမြောက်သည်။ အကယ်၍ အထမမြောက်ပါက အစည်းအဝေးကို ရွှေ့ဆိုင်းကျင်းပရမည်၊

(b) The sessions that are adjourned due to invalidity in accord with the Sub-Section (a) as well as the valid sessions that are extended will be valid if at least one-third of the Hluttaw representatives are present.

129. (a) A matter that shall be resolved in the Pyithu Hluttaw, save as otherwise provided by the Constitution, shall be determined by a majority of votes of the Pyithu Hluttaw representatives who are present and voting.

(b) The Speaker of the Pyithu Hluttaw or the Deputy Speaker discharging duties as the Speaker at the Pyithu Hluttaw shall not vote in the first instance in the sessions of the Pyithu Hluttaw, but shall have and exercise a casting vote in the matter of an equality of votes.

130. (a) If a Pyithu Hluttaw representative is, without permission of the Pyithu Hluttaw, absent from a Pyithu Hluttaw session for a period of at least 15 consecutive days, the Pyithu Hluttaw may declare his seat vacant. In computing the said period of 15 days, no account shall be taken of any period during which the session is adjourned.

(b) If the Speaker of the Pyidaungsu Hluttaw informed the Pyithu Hluttaw that a Pyithu Hluttaw representative is absent from a Pyidaungsu Hluttaw session for a period of 15 consecutive days without permission, the Pyithu Hluttaw shall take action against the said representative in accord with the prescribed procedures.

(ခ) ပုဒ်မခွဲ (က) အရ အစည်းအဝေး အထမမြောက်သည့်အတွက် ရွှေ့ဆိုင်း ကျင်းပသော အစည်းအဝေးများနှင့် အစည်းအဝေး အထမြောက်ပြီးနောက် ဆက်လက်ကျင်းပသော အစည်းအဝေးများတွင် ပြည်သူ့လွှတ်တော် အစည်း အဝေးသို့ တက်ရောက်ခွင့်ရှိသည့် လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်း ဦးရေအနက် အနည်းဆုံးသုံးပုံတစ်ပုံ တက်ရောက်လျှင် ယင်းအစည်းအဝေး များ အထမြောက်သည်။

၁၂၉။ (က) ပြည်သူ့လွှတ်တော်တွင် အဆုံးအဖြတ်ပြုရမည့် အကြောင်းအရာ တစ်ရပ်နှင့် စပ်လျဉ်း၍ မဲခွဲဆုံးဖြတ်ရာ၌ ဖွဲ့စည်းပုံအခြေခံဥပဒေတွင် အခြားနည်း ပြဋ္ဌာန်းထားခြင်း မရှိလျှင် အစည်းအဝေးသို့ တက်ရောက်၍ ဆန္ဒမဲပေးသည့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များ၏ များရာဆန္ဒမဲဖြင့် ဆုံးဖြတ်ရမည်၊

(ခ) ပြည်သူ့လွှတ်တော် အစည်းအဝေးများတွင် မဲခွဲဆုံးဖြတ်သည့် ကိစ္စများ၌ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ သို့မဟုတ် ဥက္ကဋ္ဌတာဝန် ထမ်းဆောင်နေသည့် ဒုတိယဥက္ကဋ္ဌသည် ဆန္ဒမဲမပေးရ။ ထောက်ခံဆန္ဒမဲနှင့် ကန့်ကွက်ဆန္ဒမဲ အရေအတွက်ချင်း တူညီနေသည့်ကိစ္စရပ်တွင်သာ အနိုင်မဲပေးရမည်။

၁၃၀။ (က) ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်တစ်ဦးသည် ပြည်သူ့လွှတ်တော် အစည်း အဝေးတစ်ရပ်တွင် ပြည်သူ့လွှတ်တော်၏ ခွင့်ပြုချက်မရဘဲ အစည်းအဝေး တက်ရောက်ရန် အနည်းဆုံး ရက်ပေါင်း ၁၅ ရက် တစ်ဆက်တည်း ပျက်ကွက် လျှင် သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ထိုပြည်သူ့လွှတ်တော် ကိုယ်စားလှယ်၏နေရာ လစ်လပ်သည်ဟု ပြည်သူ့လွှတ်တော်က ကြေညာ နိုင်သည်။ ပြည်သူ့လွှတ်တော် အစည်းအဝေး တက်ရောက်ရန် ခွင့်မဲ့ပျက်ကွက် သည့် ရက်ပေါင်း ၁၅ ရက်ကို ရေတွက်ရာ၌ အစည်းအဝေး ရွှေ့ဆိုင်းထားသည့် ကာလကို ထည့်သွင်းရေတွက်ခြင်း မပြုရ၊

(ခ) ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့ တက်ရောက်ရမည့် ပြည်သူ့ လွှတ်တော် ကိုယ်စားလှယ်တစ်ဦးသည် ပြည်ထောင်စုလွှတ်တော် အစည်း အဝေးတစ်ရပ်တွင် လွှတ်တော်၏ ခွင့်ပြုချက်မရဘဲ အစည်းအဝေး တက်ရောက်ရန် ရက်ပေါင်း ၁၅ ရက် တစ်ဆက်တည်းပျက်ကွက်ကြောင်း ပြည်ထောင်စုလွှတ်တော်နာယကထံမှ အကြောင်းကြားချက် ရရှိလျှင် ပြည်သူ့ လွှတ်တော်က ယင်းလွှတ်တော် ကိုယ်စားလှယ်အား သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ အရေးယူရမည်။

131. Although there are vacant seats, the Pyithu Hluttaw shall have the right to carry out its functions. Moreover, the resolutions and proceedings of the Pyithu Hluttaw shall not be annulled, notwithstanding the acts of some person who was not entitled to do so sat or voted or took part in the proceedings are later discovered.

132. The proceedings and the records of the Pyithu Hluttaw shall be published. However, the proceedings and the records prohibited by any law or the resolution of the Pyithu Hluttaw shall not be published.

133. (a) Subject to the provisions of the Constitution and the law relating to the Pyithu Hluttaw, the Pyithu Hluttaw representatives shall have freedom of speech and voting at the Pyithu Hluttaw and the Pyithu Hluttaw Committee. Concerning the discussing, submitting and performing at the Pyithu Hluttaw and the Pyithu Hluttaw Committees, no action shall be taken against a Pyithu Hluttaw representative except under its law.

(b) Subject to the provisions of the Constitution and the provisions of the law relating to the Pyithu Hluttaw, members of the organizations or persons representing any of the Union level organizations formed under the Constitution who are permitted or invited to attend the session of the Pyithu Hluttaw or any committee of the Pyithu Hluttaw have the freedom of speech at the Pyithu Hluttaw and the Pyithu Hluttaw Committees. No action shall be taken against such members or persons for their submissions and speeches in the Pyithu Hluttaw and the Pyithu Hluttaw Committees by other law except under its law.

၁၃၁။ ပြည်သူ့လွှတ်တော်သည် လွှတ်တော်ကိုယ်စားလှယ်နေရာအချို့ လစ်လပ်နေစေကာမူ ပြည်သူ့လွှတ်တော်လုပ်ငန်းများကို ဆောင်ရွက်ခွင့်ရှိသည်။ ထို့အပြင် အခွင့်အရေး မရှိသူ တစ်ဦးက ပြည်သူ့လွှတ်တော်အစည်းအဝေးသို့ တက်ရောက်ခြင်း၊ ဆန္ဒမဲပေးခြင်း သို့မဟုတ် လွှတ်တော်လုပ်ငန်း တစ်ရပ်ရပ်တွင် ပါဝင်ဆောင်ရွက်ခဲ့ခြင်းကို နောင်အခါတွင်မှ စစ်ဆေး တွေ့ရှိစေကာမူ ပြည်သူ့လွှတ်တော်၏ ဆုံးဖြတ်ဆောင်ရွက်ချက်များသည် ပျက်ပြယ်ခြင်း မရှိစေရ။

၁၃၂။ ပြည်သူ့လွှတ်တော်၏ ဆောင်ရွက်ချက်များနှင့် မှတ်တမ်းများကို အများပြည်သူ သိရှိနိုင်ရန် ထုတ်ပြန်ရမည်။ သို့ရာတွင် ဥပဒေတစ်ရပ်ရပ်အရဖြစ်စေ၊ ပြည်သူ့လွှတ်တော်၏ ဆုံးဖြတ်ချက်အရဖြစ်စေ၊ တားမြစ်ထားသည့် ဆောင်ရွက်ချက်များနှင့် မှတ်တမ်းများကို ထုတ်ပြန်ခြင်းမပြုရ။

၁၃၃။ (က) ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း၊ ပြည်သူ့လွှတ်တော်ဆိုင်ရာ ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း မဆန့်ကျင်လျှင် ပြည်သူ့လွှတ်တော်နှင့် ပြည်သူ့လွှတ်တော်ကော်မတီတို့တွင် လွတ်လပ်စွာပြောဆိုခွင့်နှင့် ဆန္ဒမဲ ပေးခွင့် ရှိသည်။ ထိုသို့ ပြည်သူ့လွှတ်တော်နှင့် ပြည်သူ့လွှတ်တော်ကော်မတီများတွင် တင်ပြဆွေးနွေးခြင်း၊ ဆောင်ရွက်ခြင်းတို့နှင့် စပ်လျဉ်း၍ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်တစ်ဦးအား ပြည်သူ့လွှတ်တော်ဆိုင်ရာ ဥပဒေမှအပ အခြား ဥပဒေအရ အရေးယူခြင်းမပြုရ၊

(ခ) ပြည်သူ့လွှတ်တော် အစည်းအဝေးသို့ဖြစ်စေ၊ ပြည်သူ့လွှတ်တော် ကော်မတီ တစ်ရပ်ရပ်၏ အစည်းအဝေးသို့ဖြစ်စေ တက်ရောက်ရန် ခွင့်ပြုခြင်း သို့မဟုတ် ဖိတ်ကြားခြင်းခံရသော ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စု အဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်သော် လည်းကောင်း၊ ပြည်သူ့လွှတ်တော်ဆိုင်ရာ ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်သော် လည်းကောင်း မဆန့်ကျင်လျှင် ပြည်သူ့လွှတ်တော် သို့မဟုတ် ပြည်သူ့ လွှတ်တော်ကော်မတီများတွင် လွတ်လပ်စွာ ပြောဆိုခွင့်ရှိသည်။ ပြည်သူ့ လွှတ်တော် သို့မဟုတ် ပြည်သူ့လွှတ်တော်ကော်မတီများတွင် တင်ပြ ပြောဆိုမှုများနှင့် စပ်လျဉ်း၍ ယင်းအဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များ အား ပြည်သူ့လွှတ်တော်ဆိုင်ရာ ဥပဒေမှအပ အခြားဥပဒေအရ အရေးယူခြင်း မပြုရ၊

(c) If the persons mentioned in Sub-Sections (a) and (b) committed assault in exercising the said privileges, they shall be liable to punishment under the regulations, by-laws, procedures of the Pyithu Hluttaw or the existing laws.

134. (a) If there is a need to arrest a Pyithu Hluttaw representative attending the session or a person attending the Pyithu Hluttaw session with the permission or invitation of the Speaker of the Pyithu Hluttaw, the credible evidence shall be submitted to the Speaker of the Pyithu Hluttaw. He shall not be arrested without the prior permission of the Speaker of the Pyithu Hluttaw.

(b) If there is a need to arrest a member of a Committee or Commission or the Body of the Pyithu Hluttaw attending session of any Committee or session of Commission or the Body formed by the Pyithu Hluttaw, the credible evidence shall be submitted to the Speaker of the Pyithu Hluttaw through the Head of the Committee or Commission or Body concerned. He shall not be arrested without the prior permission of the Speaker of the Pyithu Hluttaw.

(c) If a Pyithu Hluttaw representative is arrested, the Pyithu Hluttaw or the Pyithu Hluttaw Committee or the Commission or the Body formed by the Pyithu Hluttaw is not in session, the credible evidence in support of such arrest shall as soon as possible be submitted to the Speaker of the Pyithu Hluttaw.

135. No action shall be instituted relating to the reports, documents, and Hluttaw records published by the Pyithu Hluttaw or under its authority.

(ဂ) ပုဒ်မခွဲ (က) နှင့် (ခ) တွင် ပါရှိသော ပုဂ္ဂိုလ်များသည် အထက်ပါ အခွင့်အရေးများကို ကျင့်သုံးကြရာတွင် ကိုယ်ထိလက်ရောက်ကျူးလွန်မှုများရှိခဲ့ပါက ယင်းတို့သည် ပြည်သူ့လွှတ်တော်၏ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများအရလည်းကောင်း၊ တည်ဆဲဥပဒေများအရလည်းကောင်း အရေးယူခြင်းခံရမည်။

၁၃၄။ (က) ပြည်သူ့လွှတ်တော်အစည်းအဝေး တက်ရောက်နေသော ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်တစ်ဦးကိုဖြစ်စေ၊ လွှတ်တော်ဥက္ကဋ္ဌ၏ ခွင့်ပြုချက် သို့မဟုတ် ဖိတ်ကြားချက်အရ ယင်းအစည်းအဝေးသို့ တက်ရောက်နေသော ပုဂ္ဂိုလ်တစ်ဦးကို ဖြစ်စေ ဖမ်းဆီးရန်လိုအပ်ပါက ခိုင်လုံသောအထောက်အထားကို ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌထံ တင်ပြရမည်။ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ ဖမ်းဆီးခြင်းမပြုရ၊

(ခ) ပြည်သူ့လွှတ်တော် ကော်မတီတစ်ရပ်ရပ်၏ အစည်းအဝေးတွင်သော်လည်းကောင်း၊ ပြည်သူ့လွှတ်တော်က ဖွဲ့စည်းသော ကော်မရှင် သို့မဟုတ် အဖွဲ့တစ်ခုခု၏ အစည်းအဝေးတွင်သော်လည်းကောင်း အစည်းအဝေး တက်ရောက်နေသည့် ယင်းကော်မတီ၊ ကော်မရှင် သို့မဟုတ် အဖွဲ့၏ အဖွဲ့ဝင်တစ်ဦးအား ဖမ်းဆီးရန်လိုအပ်ပါက ခိုင်လုံသောအထောက်အထားကို သက်ဆိုင်ရာကော်မတီ၊ ကော်မရှင် သို့မဟုတ် အဖွဲ့၏ အကြီးအမှူးမှတစ်ဆင့် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌထံ တင်ပြရမည်။ ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌ၏ ကြိုတင်ခွင့်ပြုချက် မရရှိဘဲ ဖမ်းဆီးခြင်းမပြုရ၊

(ဂ) ပြည်သူ့လွှတ်တော် သို့မဟုတ် ပြည်သူ့လွှတ်တော်ကော်မတီ သို့မဟုတ် ပြည်သူ့လွှတ်တော်က ဖွဲ့စည်းသောကော်မရှင်နှင့် အဖွဲ့အစည်းအဝေး ကျင်းပချိန်မဟုတ်လျှင် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်တစ်ဦးအား ဖမ်းဆီးပါက ထိုသို့ ဖမ်းဆီးခြင်းနှင့် စပ်လျဉ်းသည့် ခိုင်လုံသောအထောက်အထားကို ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌထံ ဆောလျင်စွာ တင်ပြရမည်။

၁၃၅။ ပြည်သူ့လွှတ်တော်ကသော်လည်းကောင်း၊ ယင်းလွှတ်တော်၏ အခွင့်အာဏာအရသော်လည်းကောင်း ဖြန့်ချိထုတ်ဝေသည့် အစီရင်ခံစာများ၊ စာရွက်စာတမ်းများ၊ လွှတ်တော်မှတ်တမ်းများနှင့်စပ်လျဉ်း၍ တရားစွဲဆိုပိုင်ခွင့် မရှိစေရ။

**Submission of Bill**

136. Bills relating to other matters , except the matters prescribed in the Constitution that the Bill shall be submitted and passed exclusively by the Pyidaungsu Hluttaw stated in the Schedule One of Union Legislative List, shall be initiated in the Pyithu Hluttaw in accord with the prescribed procedures.

137. (a) After issuing any rule, regulation or by-law in accord with the law enacted by the Pyidaungsu Hluttaw, the Body concerned shall distribute and submit the said rule, regulation or by-law to its representatives at the nearest regular session of the Pyithu Hluttaw with the permitted arrangement of the Speaker of the Hluttaw.

(b) If it is found that a rule, regulation or by-law is in conformity with the provisions of relevant law, Hluttaw representatives may move to annul or amend the rule, regulation or by-law to the Pyithu Hluttaw within 90 days from the day that rule, regulation or by-law is submitted and distributed.

(c) If there is a disagreement between the Pyithu Hluttaw and the Amyotha Hluttaw to annul or amend any rule, regulation or by-law, it shall be submitted to the Pyidaungsu Hluttaw.

138. (a) If Bills submitted by any Union level organization formed under the Constitution are sent in accord with the prescribed procedures of the Pyidaungsu Hluttaw, it shall be deemed that such Bills are initiated in the Pyithu Hluttaw, and shall be discussed and resolved in the Pyithu Hluttaw.

(b) Bills relating to other matters , except the matters prescribed in the Constitution that the Bill shall be submitted and passed exclusively by the

**ဥပဒေကြမ်းတင်သွင်းခြင်း**

၁၃၆။ ဇယား ၁ ပါ ပြည်ထောင်စုဥပဒေပြုစာရင်းတွင် ဖော်ပြသော ကိစ္စရပ်များအနက် ပြည်ထောင်စုလွှတ်တော်တွင်သာ ဥပဒေကြမ်း တင်သွင်းဆုံးဖြတ်ရမည်ဟု ဖွဲ့စည်းပုံအခြေခံ ဥပဒေ၌ ပြဋ္ဌာန်းထားသည့် ကိစ္စရပ်များမှအပ ကျန်ကိစ္စရပ်များကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပြည်သူ့လွှတ်တော်တွင် ဥပဒေကြမ်း စတင်တင်သွင်းခွင့်ရှိသည်။

၁၃၇။ (က) ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့် ဥပဒေအရပြုသည့် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်ကို ထုတ်ပြန်ပြီးသည့်အခါ သက်ဆိုင်ရာအဖွဲ့အစည်းသည် မိမိထုတ်ပြန်သည့် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းကို အနီးကပ်ဆုံး ကျင်းပသော ပြည်သူ့လွှတ်တော် ပုံမှန် အစည်းအဝေးကာလတွင် လွှတ်တော်ဥက္ကဋ္ဌက ခွင့်ပြုသည့် အစီအစဉ်ဖြင့် လွှတ်တော်ကိုယ်စားလှယ်များထံ ဖြန့်ဝေတင်ပြရမည်၊

(ခ) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်သည် သက်ဆိုင်ရာ ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် ညီညွတ်မှုမရှိကြောင်း တွေ့ရှိပါက ယင်း နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်း ဖြန့်ဝေတင်ပြသော နေ့ရက်မှ ရက်ပေါင်း ၉၀ အတွင်း လွှတ်တော်ကိုယ်စားလှယ်များက ပြည်သူ့ လွှတ်တော်တွင် အဆိုတင်သွင်းနိုင်သည်၊

(ဂ) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်ကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် ဆုံးဖြတ်ရာတွင် ပြည်သူ့လွှတ်တော်နှင့် အမျိုးသား လွှတ်တော်တို့ သဘောကွဲလွဲပါက ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်။

၁၃၈။ (က) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်း တစ်ရပ်ရပ်က တင်သွင်းသော ဥပဒေကြမ်းများကို ပြည်ထောင်စုလွှတ်တော် က သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပေးပို့လာလျှင် ပြည်သူ့ လွှတ်တော်တွင် စတင်တင်သွင်းသော ဥပဒေကြမ်းဟု မှတ်ယူ၍ ပြည်သူ့ လွှတ်တော်၌ ဆွေးနွေးဆုံးဖြတ်ရမည်၊

(ခ) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များသည် ပြည်ထောင်စုဥပဒေပြုစာရင်းတွင် ပါရှိသောကိစ္စရပ်များအနက် ပြည်ထောင်စုလွှတ်တော်၌သာ ဥပဒေကြမ်း

Pyidaungsu Hluttaw stated in the Union Legislative List, shall be initiated in the Pyithu Hluttaw in accord with the law. Such Bills shall be discussed and resolved by the Pyithu Hluttaw under the prescribed procedures.

(c) The Bills passed by the Pyithu Hluttaw shall be sent to the Amyotha Hluttaw to continue to discuss and resolve.

139. (a) After receiving a Bill sent by the Amyotha Hluttaw, the Pyithu Hluttaw may resolve to agree or disagree, or agree with amendments in accord with the resolution of the Amyotha Hluttaw. The Bill shall be sent back to the Amyotha Hluttaw together with the resolution of the Pyithu Hluttaw.

(b) When the Pyithu Hluttaw recieves the Bill with amendments from the Amyotha Hluttaw it shall, if it accepts the Bill with amendments of the Amyotha Hluttaw, send to the Speaker of the Pyidaungsu Hluttaw.

(c) If there is a disagreement between the Pyithu Hluttaw and the Amyotha Hluttaw relating to the Bill sent to the Amyotha Hluttaw, the Pyithu Hluttaw shall take the resolution of the Pyidaungsu Hluttaw.

140. Members of the organization representing any Union level Body formed under the Constitution are entitled :

(a) to explain, converse and discuss Bills or matters relating to their Bodies when they are attending the Pyithu Hluttaw session with the permission of the Speaker of the Pyithu Hluttaw;

(b) to explain, converse and discuss Bills or matters relating to their Bodies when they are attending sessions of the Committees, Commissions and Bodies of the Pyithu Hluttaw with the permission of the Head of the Committee, Commission or Body concerned.

တင်သွင်းဆုံးဖြတ်ရမည်ဟု ဖွဲ့စည်းပုံအခြေခံဥပဒေ၌ သတ်မှတ်ပြဋ္ဌာန်းထားသည့် ကိစ္စရပ်များမှအပ ကျန်ကိစ္စရပ်များနှင့် စပ်လျဉ်းသော ဥပဒေကြမ်းများကို ဥပဒေနှင့်အညီ ပြည်သူ့လွှတ်တော်သို့ စတင်တင်သွင်းခွင့်ရှိသည်။ ယင်းဥပဒေကြမ်းများကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပြည်သူ့လွှတ်တော်၌ ဆွေးနွေးဆုံးဖြတ်ရမည်၊

(ဂ) ပြည်သူ့လွှတ်တော်က အတည်ပြုသည့် ဥပဒေကြမ်းများကို ဆက်လက်ဆွေးနွေးဆုံးဖြတ်နိုင်ရန် အမျိုးသားလွှတ်တော်သို့ ပေးပို့ရမည်။

၁၃၉။ (က) ပြည်သူ့လွှတ်တော်သည် အမျိုးသားလွှတ်တော်က ပေးပို့သော ဥပဒေကြမ်းတစ်ရပ်ကို လက်ခံရရှိသည့်အခါ အမျိုးသားလွှတ်တော်က ဆုံးဖြတ်သည့်အတိုင်း သဘောတူကြောင်း သို့မဟုတ် သဘောမတူကြောင်း သို့မဟုတ် ပြင်ဆင်ချက်များဖြင့် သဘောတူကြောင်း ဆုံးဖြတ်နိုင်သည်။ ထိုဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်၏ ဆုံးဖြတ်ချက်နှင့်အတူ အမျိုးသားလွှတ်တော်သို့ ပြန်လည်ပေးပို့ရမည်၊

(ခ) ပြည်သူ့လွှတ်တော်က ပေးပို့ခဲ့သည့်ဥပဒေကြမ်းကို အမျိုးသားလွှတ်တော်က ပြင်ဆင်ချက်များဖြင့် ပြန်လည်ပေးပို့လာလျှင် ပြည်သူ့လွှတ်တော်သည် အမျိုးသားလွှတ်တော်၏ ပြင်ဆင်ချက်ကို လက်ခံပါက ယင်းဥပဒေကြမ်းကို ပြည်ထောင်စုလွှတ်တော်နာယကထံ ပေးပို့ရမည်၊

(ဂ) ပြည်သူ့လွှတ်တော်သည် အမျိုးသားလွှတ်တော်သို့ ပေးပို့ခဲ့သော ဥပဒေကြမ်းတစ်ရပ်နှင့်စပ်လျဉ်း၍ အမျိုးသားလွှတ်တော်နှင့် သဘောကွဲလွဲလျှင် ပြည်ထောင်စုလွှတ်တော်၏ အဆုံးအဖြတ် ရယူရမည်။

၁၄၀။ ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များသည် -

(က) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၏ ခွင့်ပြုချက်ဖြင့် ပြည်သူ့လွှတ်တော် အစည်းအဝေးသို့ တက်ရောက်သည့်အခါ မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သော ဥပဒေကြမ်းများ သို့မဟုတ် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ရှင်းလင်းပြောဆိုဆွေးနွေးခွင့် ရှိသည်၊

(ခ) ပြည်သူ့လွှတ်တော်ကော်မတီများ၊ ကော်မရှင်များနှင့် အဖွဲ့များ၏ အစည်းအဝေးများသို့ ယင်းကော်မတီ၊ ကော်မရှင် သို့မဟုတ် အဖွဲ့အကြီးအမှူး၏ ခွင့်ပြုချက်ဖြင့် တက်ရောက်သည့်အခါ မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သော ဥပဒေကြမ်းများ သို့မဟုတ် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ရှင်းလင်းပြောဆိုဆွေးနွေးခွင့်ရှိသည်။

## Amyotha Hluttaw

### Formation of the Amyotha Hluttaw

141. The Amyotha Hluttaw shall be formed with a maximum of 224 Hluttaw representatives as follows :

(a) 168 Amyotha Hluttaw representatives elected in an equal number of 12 representatives from each Region or State inclusive of relevant Union territories and including one representative from each Self-Administered Division or Self-Administered Zone;

(b) 56 Amyotha Hluttaw representatives who are the Defence Services personnel nominated by the Commander-in-Chief of the Defence Services in accord with the law, four representatives from each Region or State inclusive of relevant Union territories;

(c) in forming the Amyotha Hluttaw as mentioned in Sub-Sections (a) and (b), the relevant Union Territory means the Union Territories, prescribed under the Constitution, or prescribed by law of the Pyidaungsu Hluttaw, which are inclusive in State or Division, Region or State for the purpose of electing the Amyotha Hluttaw representative.

### Election of Chairperson of the Amyotha Hluttaw

142. Election of Chairperson of the Amyotha Hluttaw shall be carried out subject to the provisions relating to the election of Chairperson of the Pyithu Hluttaw under Section 110.

၇၂
# အမျိုးသားလွှတ်တော်

## အမျိုးသားလွှတ်တော် ဖွဲ့စည်းခြင်း

၁၄၁။ အမျိုးသားလွှတ်တော်ကို လွှတ်တော်ကိုယ်စားလှယ်ဦးရေ အများဆုံး ၂၂၄ ဦးဖြင့် အောက်ပါအတိုင်း ဖွဲ့စည်းရမည် -

(က) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ တစ်ခုစီမှ ကိုယ်စားလှယ်တစ်ဦးစီ ပါဝင်စေပြီး သက်ဆိုင်ရာ ပြည်ထောင်စုနယ်မြေများ အပါအဝင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တစ်ခုစီအတွက် ကိုယ်စားလှယ် ၁၂ ဦးကျစီ တူညီစွာဖြင့် ရွေးကောက်တင်မြှောက်သည့် အမျိုးသား လွှတ်တော် ကိုယ်စားလှယ် ၁၆၈ ဦး၊

(ခ) သက်ဆိုင်ရာ ပြည်ထောင်စုနယ်မြေများ အပါအဝင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တစ်ခုစီအတွက် ကိုယ်စားလှယ်လေးဦးကျစီဖြင့် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်း တင်သွင်းသည့် တပ်မတော်သား အမျိုးသားလွှတ်တော်ကိုယ်စားလှယ် ၅၆ ဦး၊

(ဂ) ပုဒ်မခွဲ (က) နှင့် (ခ) တွင် ဖော်ပြထားသည့်အတိုင်း ဖွဲ့စည်းရာတွင် သက်ဆိုင်ရာ ပြည်ထောင်စုနယ်မြေဆိုသည်မှာ ဖွဲ့စည်းပုံအခြေခံဥပဒေအရ သတ်မှတ်ထားသည့် ပြည်ထောင်စုနယ်မြေများသည် လည်းကောင်း၊ ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်း၍ သတ်မှတ်သော ပြည်ထောင်စု နယ်မြေများသည်လည်းကောင်း အမျိုးသားလွှတ်တော် ကိုယ်စားလှယ် ရွေးကောက်တင်မြှောက်ရန် ကိစ္စအလို့ငှာ အဆိုပါနယ်မြေပါဝင်ခဲ့သည့် ပြည်နယ် သို့မဟုတ် တိုင်းတွင်ဖြစ်စေ၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တွင် ဖြစ်စေ ပါဝင်ခြင်းကိုဆိုသည်။

## အမျိုးသားလွှတ်တော် သဘာပတိ တင်မြှောက်ခြင်း

၁၄၂။ အမျိုးသားလွှတ်တော် သဘာပတိတင်မြှောက်ခြင်းကို ပုဒ်မ ၁၁၀ ပါ ပြည်သူ့လွှတ်တော် သဘာပတိတင်မြှောက်ခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်း ဆောင်ရွက်ရမည်။

**Election of the Speaker and the Deputy Speaker of the Amyotha Hluttaw**

143. Election of the Speaker and the Deputy Speaker of the Amyotha Hluttaw shall be carried out subject to the provisions relating to the election of the Speaker and the Deputy Speaker of the Pyithu Hluttaw under Section 111.

**Duties of the Speaker of the Amyotha Hluttaw**

144. The duties of the Speaker of the Amyotha Hluttaw shall be subject to the provisions relating to the duties of the Speaker of the Pyithu Hluttaw under Section 112.

**Performance and termination of duties of the Speaker and the Deputy Speaker of the Amyotha Hluttaw**

145. Performance and termination of duties of the Speaker and the Deputy Speaker of the Amyotha Hluttaw shall be subject to the provisions relating to the performance and termination of duties of the Speaker and the Deputy Speaker of the Pyithu Hluttaw under Section 113.

146. Duties, powers and rights of the Speaker and the Deputy Speaker of the Amyotha Hluttaw shall be prescribed by law.

**Formation of the Amyotha Hluttaw Committees, Commissions and Bodies**

147. (a) The Amyotha Hluttaw shall form Bill Committee, Public Accounts Committee, Hluttaw Rights Committee, and Government's Guarantees, Pledges and Undertakings Vetting Committee with the Amyotha Hluttaw representatives.

(b) When the occasion arises to have studies made and submitted on defence and security matters or Military affairs, the Amyotha Hluttaw shall form the Defence and Security Committee with the Amyotha Hluttaw representatives who are the Defence Services personnel, for a limited

**အမျိုးသားလွှတ်တော် ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ခြင်း**

၁၄၃။ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ခြင်းကို ပုဒ်မ ၁၁၁ ပါ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်း ဆောင်ရွက်ရမည်။

**အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ၏ လုပ်ငန်းတာဝန်**

၁၄၄။ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ၏ လုပ်ငန်းတာဝန်သည် ပုဒ်မ ၁၁၂ ပါ ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌ၏ လုပ်ငန်းတာဝန်ဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်းဖြစ်သည်။

**အမျိုးသားလွှတ်တော် ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန်ထမ်းဆောင်ခြင်းနှင့် ရပ်စဲခြင်း**

၁၄၅။ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန်ထမ်းဆောင်ခြင်းနှင့် ရပ်စဲခြင်းတို့သည် ပုဒ်မ ၁၁၃ ပါ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန် ထမ်းဆောင်ခြင်း၊ ရပ်စဲခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်းဖြစ်သည်။

၁၄၆။ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန်၊ လုပ်ပိုင်ခွင့်နှင့် ရပိုင်ခွင့် များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

**အမျိုးသားလွှတ်တော်ကော်မတီ၊ ကော်မရှင်နှင့် အဖွဲ့များ ဖွဲ့စည်းခြင်း**

၁၄၇။ (က) အမျိုးသားလွှတ်တော်သည် ဥပဒေကြမ်းကော်မတီ၊ ပြည်သူ့ငွေစာရင်း ကော်မတီ၊ လွှတ်တော်အခွင့်အရေးကော်မတီ၊ အစိုးရ၏အာမခံချက်များ၊ ကတိများနှင့် တာဝန်ခံချက်များ စိစစ်ရေးကော်မတီတို့ကို အမျိုးသား လွှတ်တော်ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းရမည်၊

(ခ) ကာကွယ်ရေးနှင့် လုံခြုံရေးဆိုင်ရာ ကိစ္စများကိုလည်းကောင်း၊ တပ်မတော် ဆိုင်ရာ ကိစ္စများကိုလည်းကောင်း လေ့လာတင်ပြစေရန် အကြောင်း ပေါ်ပေါက်ပါက အမျိုးသားလွှတ်တော်သည် ကာကွယ်ရေးနှင့် လုံခြုံရေး ကော်မတီကို တပ်မတော်သား အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များဖြင့် ကာလသတ်မှတ်၍ ဖွဲ့စည်းရမည်။ ထိုသို့ဖွဲ့စည်းသည့် ကာကွယ်ရေးနှင့် လုံခြုံရေးကော်မတီသည် လုပ်ငန်းလိုအပ်ချက်အရ တပ်မတော်သား မဟုတ်

time. The Defence and Security Committee so formed may, if necessary, be included suitable Amyotha Hluttaw representatives who are not the Defence Services personnel in accord with the volume of work.

(c) If there arises a need to study and submit on other affairs, in addition to legislature, executive, national races affairs, economics, finance, social and foreign affairs, the Hluttaw Committees may be formed with the Amyotha Hluttaw representatives for a limited time.

(d) The Amyotha Hluttaw shall determine the number of members, duties, powers, rights, and term of the Amyotha Hluttaw Committees.

148. If there arises a certain matter to co-ordinate with the Pyithu Hluttaw, the Amyotha Hluttaw may elect and assign its representatives who will serve with the Joint Committee comprising an equal number of representatives from the Amyotha Hluttaw and the Pyithu Hluttaw to form that Committee. The term of the Joint Committee shall be until the time they have submitted the report to the Hluttaw concerned.

149. When both the Amyotha Hluttaw and the Pyithu Hluttaw have certain matters to study, apart from matters to be performed by the Committees as prescribed in Sub-Sections (a) and (b) of Section 147, the Speakers of these Hluttaws may co-ordinate among themselves and form a Joint Committee comprising an equal number of representatives from the Amyotha Hluttaw and the Pyithu Hluttaw. The Amyotha Hluttaw may elect and assign the Amyotha Hluttaw representatives included in that Committee. The term of the Joint Committee shall be until the time they have submitted the report to the Hluttaw concerned.

150. Formation of the Amyotha Hluttaw Commissions and Bodies of the Amyotha Hluttaw shall be carried out subject to the provisions relating to the formation of Commission and Bodies of the Pyithu Hluttaw under Section 118.

သော သင့်လျော်သည့် အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များကိုလည်း ထည့်သွင်းဖွဲ့စည်းရန် လိုအပ်ပါက ဖွဲ့စည်းနိုင်သည်၊

(ဂ) အမျိုးသားလွှတ်တော်သည် ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တိုင်းရင်းသားလူမျိုးများအရေး၊ စီးပွားရေး၊ ဘဏ္ဍာရေး၊ လူမှုရေး၊ နိုင်ငံခြားရေးတို့အပြင် အခြားရေးရာ ကိစ္စများကို လေ့လာတင်ပြစေရန် လိုအပ်ပါက လွှတ်တော်ကော်မတီများကို အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များဖြင့် ကာလသတ်မှတ်၍ ဖွဲ့စည်းနိုင်သည်၊

(ဃ) အမျိုးသားလွှတ်တော်သည် အမျိုးသားလွှတ်တော်ကော်မတီများ၏ အဖွဲ့ဝင်ဦးရေ၊ တာဝန်၊ လုပ်ပိုင်ခွင့်၊ ရပိုင်ခွင့်နှင့် သက်တမ်းတို့ကို သတ်မှတ်ပေးရမည်။

၁၄၈။ အမျိုးသားလွှတ်တော်သည် ပြည်သူ့လွှတ်တော်နှင့် ညှိနှိုင်းရန်ကိစ္စ ပေါ်ပေါက်လာလျှင် အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်တို့မှ ကိုယ်စားလှယ်ဦးရေ တူညီစွာ ပါဝင်သော ပူးပေါင်းကော်မတီတစ်ရပ်ကို ဖွဲ့စည်းဆောင်ရွက်နိုင်ရေးအတွက် ယင်းကော်မတီတွင်ပါဝင်မည့် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များကို ရွေးကောက်တင်မြှောက် တာဝန်ပေးအပ်နိုင်သည်။ ပူးပေါင်းကော်မတီ၏ သက်တမ်းသည် သက်ဆိုင်ရာလွှတ်တော်သို့ အစီရင်ခံစာ တင်သွင်းပြီးသည့် အချိန်အထိဖြစ်သည်။

၁၄၉။ အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်တို့သည် ပုဒ်မ ၁၄၇ ပုဒ်မခွဲ (က) နှင့် (ခ) ပါ ကော်မတီများက ဆောင်ရွက်ရမည့် ကိစ္စများမှအပ အကြောင်းကိစ္စတစ်ရပ်ရပ်ကို လွှတ်တော်နှစ်ရပ်လုံးက လေ့လာရန်ရှိပါက ယင်းလွှတ်တော်များ၏ ဥက္ကဋ္ဌများသည် အချင်းချင်း ညှိနှိုင်း၍ အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်တို့မှ ကိုယ်စားလှယ်ဦးရေ တူညီစွာ ပါဝင်သော ပူးပေါင်းကော်မတီတစ်ရပ်ကို ဖွဲ့စည်းဆောင်ရွက်နိုင်သည်။ အမျိုးသား လွှတ်တော်သည် ထိုကော်မတီတွင်ပါဝင်မည့် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များကို ရွေးကောက်တင်မြှောက် တာဝန်ပေးအပ်နိုင်သည်။ ယင်းပူးပေါင်းကော်မတီ၏ သက်တမ်းသည် သက်ဆိုင်ရာလွှတ်တော်သို့ အစီရင်ခံစာတင်သွင်းပြီးသည့် အချိန်အထိဖြစ်သည်။

၁၅၀။ အမျိုးသားလွှတ်တော် ကော်မရှင်နှင့်အဖွဲ့များ ဖွဲ့စည်းခြင်းကို ပုဒ်မ ၁၁၈ ပါ ပြည်သူ့လွှတ်တော်ကော်မရှင်နှင့် အဖွဲ့များ ဖွဲ့စည်းခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်း ဆောင်ရွက်ရမည်။

**Term of the Amyotha Hluttaw**

151. The term of the Amyotha Hluttaw is the same as the term of the Pyithu Hluttaw. The term of the Amyotha Hluttaw expires on the day of the expiry of the Pyithu Hluttaw.

**Qualifications of the Amyotha Hluttaw representatives**

152. The Amyotha Hluttaw representatives shall be :

(a) persons who have attained the age of 30 years;

(b) persons who have qualifications, with the exception of the age limit, entitled to be elected as Pyithu Hluttaw representatives prescribed under Section 120;

(c) persons whose qualifications does not breach the provisions under Section 121 which disqualified a person from standing for election as the Pyithu Hluttaw representatives.

**Qualifications of the Amyotha Hluttaw representatives who are the Defence Services personnel**

153. The Defence Services personnel, nominated by the Commander-in-Chief of the Defence Services as the Amyotha Hluttaw representatives who are the Defence Services personnel in accord with the law, shall possess the prescribed qualifications for the Amyotha Hluttaw representatives.

**Convening of the Amyotha Hluttaw Session**

154. (a) The commencement of the term of the Amyotha Hluttaw is the day of the commencement of the term of the Pyithu Hluttaw.

(b) The first regular session of the Amyotha Hluttaw shall be held within seven days after the commencement of the term of that Hluttaw.

155. Convening the Amyotha Hluttaw session shall be carried out subject to the provisions relating to convening of the Pyithu Hluttaw sessions under Sections 124 to 135.

**အမျိုးသားလွှတ်တော်၏ သက်တမ်း**

၁၅၁။ အမျိုးသားလွှတ်တော်၏ သက်တမ်းသည် ပြည်သူ့လွှတ်တော်၏သက်တမ်းနှင့်အညီ ဖြစ်သည်။ ပြည်သူ့လွှတ်တော်၏သက်တမ်း ကုန်ဆုံးသောနေ့တွင် အမျိုးသားလွှတ်တော်၏ သက်တမ်းသည်လည်း ကုန်ဆုံးသည်။

**အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များ၏ အရည်အချင်း**

၁၅၂။ အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များသည် -

(က) အသက် ၃၀ နှစ် ပြည့်ပြီးသူများ ဖြစ်ရမည်၊

(ခ) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်ရှိသော အရည်အချင်းများနှင့် ပြည့်စုံရမည်၊

(ဂ) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့် မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း သက်ဆိုင်စေရမည်။

**တပ်မတော်သား အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များ၏ အရည်အချင်း**

၁၅၃။ တပ်မတော်သား အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များအဖြစ် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်းတင်သွင်းသည့် တပ်မတော်သားများသည် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံရမည်။

**အမျိုးသားလွှတ်တော် အစည်းအဝေး ကျင်းပခြင်း**

၁၅၄။ (က) အမျိုးသားလွှတ်တော်သက်တမ်း စတင်သည့်နေ့ရက်သည် ပြည်သူ့လွှတ်တော်သက်တမ်း စတင်သည့် နေ့ရက်ဖြစ်သည်၊

(ခ) အမျိုးသားလွှတ်တော်၏ ပထမအကြိမ် ပုံမှန်အစည်းအဝေးကို ယင်းလွှတ်တော်၏သက်တမ်း စတင်သည့်နေ့မှ ခုနစ်ရက်အတွင်း ကျင်းပရမည်။

၁၅၅။ အမျိုးသားလွှတ်တော် အစည်းအဝေးကျင်းပခြင်းကို ပုဒ်မ ၁၂၄ မှ ၁၃၅ ထိပါ ပြည်သူ့လွှတ်တော် အစည်းအဝေးကျင်းပခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်း ဆောင်ရွက်ရမည်။

**Submission of Bill**

156. Bills relating to other matters, except the matters prescribed in the Constitution that the Bill was submitted and passed exclusively by the Pyidaungsu Hluttaw stated in Union Legislative List, shall be initiated in the Amyotha Hluttaw in accord with the prescribed procedures.

157. (a) After issuing a rule, regulation or by-law in accord with the law enacted by the Pyidaungsu Hluttaw, the Body concerned shall distribute and submit the said rule, regulation or by-law to its representatives at the nearest regular session of the Amyotha Hluttaw with the permitted arrangement of the Speaker of the Hluttaw.

(b) If it is found that a rule, regulation or by-law is in conformity with the provisions of relevant law, Hluttaw representatives may move to annul or amend the rule, regulation or by-law to the Amyotha Hluttaw within 90 days from the day that rule, regulation or by-law is submitted and distributed.

(c) If there is a disagreement between the Amyotha Hluttaw and the Pyithu Hluttaw to annul or amend any rule, regulation or by-law, it shall be submitted to the Pyidaungsu Hluttaw.

158. (a) If Bills submitted by any Union level organization formed under the Constitution are sent in accord with prescribed procedures of the Pyidaungsu Hluttaw, it shall be deemed that such Bills are initiated in the Amyotha Hluttaw, and shall be discussed and resolved in the Amyotha Hluttaw.

(b) Bills relating to other matters, except the matters prescribed in the Constitution that the Bill was submitted and passed exclusively by the Pyidaungsu Hluttaw stated in the Union Legislative List shall be initiated in

**ဥပဒေကြမ်းတင်သွင်းခြင်း**

၁၅၆။ ပြည်ထောင်စုဥပဒေပြုစာရင်းတွင် ဖော်ပြသော ကိစ္စရပ်များအနက် ပြည်ထောင်စုလွှတ်တော်တွင်သာ ဥပဒေကြမ်းတင်သွင်း ဆုံးဖြတ်ရမည်ဟု ဖွဲ့စည်းပုံအခြေခံဥပဒေ၌ ပြဋ္ဌာန်းထားသည့် ကိစ္စရပ်များမှအပ ကျန်ကိစ္စရပ်များကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ အမျိုးသားလွှတ်တော်တွင် ဥပဒေကြမ်း စတင်တင်သွင်းခွင့်ရှိသည်။

၁၅၇။ (က) ပြည်ထောင်စုလွှတ်တော်ကပြဋ္ဌာန်းသည့် ဥပဒေအရပြုသည့် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်ကို ထုတ်ပြန်ပြီးသည့်အခါ သက်ဆိုင်ရာ အဖွဲ့အစည်းသည် မိမိထုတ်ပြန်သည့် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းကို အနီးကပ်ဆုံးကျင်းပသော အမျိုးသားလွှတ်တော် ပုံမှန်အစည်းအဝေးကာလတွင် လွှတ်တော်ဥက္ကဋ္ဌက ခွင့်ပြုသည့်အစီအစဉ်ဖြင့် လွှတ်တော်ကိုယ်စားလှယ်များထံ ဖြန့်ဝေတင်ပြရမည်၊

(ခ) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်သည် သက်ဆိုင်ရာ ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် ညီညွတ်မှုမရှိကြောင်း တွေ့ရှိပါက ယင်းနည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်း ဖြန့်ဝေ တင်ပြသော နေ့ရက်မှ ရက်ပေါင်း ၉၀ အတွင်း လွှတ်တော်ကိုယ်စားလှယ်များက အမျိုးသားလွှတ်တော်တွင် အဆိုတင်သွင်းနိုင်သည်၊

(ဂ) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်ကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် ဆုံးဖြတ်ရာတွင် အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်တို့ သဘောကွဲလွဲပါက ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်။

၁၅၈။ (က) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်က တင်သွင်းသော ဥပဒေကြမ်းများကို ပြည်ထောင်စုလွှတ်တော်က သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပေးပို့လာလျှင် အမျိုးသားလွှတ်တော်တွင် စတင်တင်သွင်းသော ဥပဒေကြမ်းဟု မှတ်ယူ၍ အမျိုးသားလွှတ်တော်၌ ဆွေးနွေးဆုံးဖြတ်ရမည်၊

(ခ) အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များသည် ပြည်ထောင်စုဥပဒေပြုစာရင်းတွင် ပါရှိသော ကိစ္စရပ်များအနက် ပြည်ထောင်စုလွှတ်တော်၌သာ ဥပဒေကြမ်း တင်သွင်းဆုံးဖြတ်ရမည်ဟု ဖွဲ့စည်းပုံအခြေခံဥပဒေ၌ သတ်မှတ်ပြဋ္ဌာန်းထားသည့် ကိစ္စရပ်များမှအပ ကျန်ကိစ္စရပ်များနှင့်စပ်လျဉ်းသော

the Amyotha Hluttaw in accord with the law. Such Bills shall be discussed and resolved by the Amyotha Hluttaw under the prescribed procedures.

(c) The Bills passed by the Amyotha Hluttaw shall be sent to the Pyithu Hluttaw to continue to discuss and to resolve.

159. (a) After receiving a Bill sent by the Pyithu Hluttaw, the Amyotha Hluttaw may resolve to agree or disagree, or agree with amendments in accord with the resolution of the Pyithu Hluttaw. The Bill shall be sent back to the Pyithu Hluttaw together with the resolution of the Amyotha Hluttaw.

(b) When the Amyotha Hluttaw recieves the Bill with amendments from the Pyithu Hluttaw it shall, if it accepts the Bill with amendments of the Pyithu Hluttaw, send to the Speaker of the Pyidaungsu Hluttaw.

(c) If there is a disagreement between the Amyotha Hluttaw and the Pyithu Hluttaw relating to the Bill sent to the Pyithu Hluttaw, the Amyotha Hluttaw shall obtain the resolution of the Pyidaungsu Hluttaw.

160. Members representing any Union level Body formed under the Constitution are entitled :

(a) to explain, converse and discuss Bills or matters relating to their Bodies when they are attending the Amyotha Hluttaw session with the permission of the Speaker of the Amyotha Hluttaw;

(b) to explain, converse and discuss Bills or matters relating to their Bodies when they are attending sessions of the Committees, Commissions and Bodies of the Amyotha Hluttaw with the permission of the Head of the Committee, Commission or Body concerned.

ဥပဒေကြမ်းများကို ဥပဒေနှင့်အညီ အမျိုးသားလွှတ်တော်သို့ စတင် တင်သွင်းခွင့်ရှိသည်။ ယင်းဥပဒေကြမ်းများကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ အမျိုးသားလွှတ်တော်၌ ဆွေးနွေးဆုံးဖြတ်ရမည်၊

(ဂ) အမျိုးသားလွှတ်တော်က အတည်ပြုသည့်ဥပဒေကြမ်းများကို ဆက်လက်ဆွေးနွေးဆုံးဖြတ်နိုင်ရန် ပြည်သူ့လွှတ်တော်သို့ ပေးပို့ရမည်။

၁၅၉။ (က) အမျိုးသားလွှတ်တော်သည် ပြည်သူ့လွှတ်တော်က ပေးပို့သော ဥပဒေကြမ်းတစ်ရပ်ကို လက်ခံရရှိသည့်အခါ ပြည်သူ့လွှတ်တော်က ဆုံးဖြတ်သည့်အတိုင်း သဘောတူကြောင်း သို့မဟုတ် သဘောမတူကြောင်း သို့မဟုတ် ပြင်ဆင်ချက်များဖြင့် သဘောတူကြောင်း ဆုံးဖြတ်နိုင်သည်။ ထိုဥပဒေကြမ်းကို အမျိုးသားလွှတ်တော်၏ ဆုံးဖြတ်ချက်နှင့်အတူ ပြည်သူ့လွှတ်တော်သို့ ပြန်လည်ပေးပို့ရမည်၊

(ခ) အမျိုးသားလွှတ်တော်က ပေးပို့ခဲ့သည့်ဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်က ပြင်ဆင်ချက်များဖြင့် ပြန်လည်ပေးပို့လာလျှင် အမျိုးသားလွှတ်တော်သည် ပြည်သူ့လွှတ်တော်၏ ပြင်ဆင်ချက်ကို လက်ခံပါက ယင်းဥပဒေကြမ်းကို ပြည်ထောင်စုလွှတ်တော် နာယကထံ ပေးပို့ရမည်၊

(ဂ) အမျိုးသားလွှတ်တော်သည် ပြည်သူ့လွှတ်တော်သို့ ပေးပို့ခဲ့သော ဥပဒေကြမ်းတစ်ရပ်နှင့်စပ်လျဉ်း၍ ပြည်သူ့လွှတ်တော်နှင့် သဘောကွဲလွဲလျှင် ပြည်ထောင်စုလွှတ်တော်၏ အဆုံးအဖြတ် ရယူရမည်။

၁၆၀။ ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်း တစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များသည် -

(က) အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ၏ ခွင့်ပြုချက်ဖြင့် အမျိုးသားလွှတ်တော် အစည်းအဝေးသို့ တက်ရောက်သည့်အခါ မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သော ဥပဒေကြမ်းများ သို့မဟုတ် ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ရှင်းလင်းပြောဆိုဆွေးနွေးခွင့်ရှိသည်၊

(ခ) အမျိုးသားလွှတ်တော် ကော်မတီများ၊ ကော်မရှင်များနှင့် အဖွဲ့များ၏ အစည်းအဝေးများသို့ ယင်းကော်မတီ၊ ကော်မရှင် သို့မဟုတ် အဖွဲ့အကြီးအမှူး၏ ခွင့်ပြုချက်ဖြင့် တက်ရောက်သည့်အခါ မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သော ဥပဒေကြမ်းများ သို့မဟုတ် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ရှင်းလင်းပြောဆိုဆွေးနွေးခွင့်ရှိသည်။

## Region Hluttaw or State Hluttaw

### Formation of the Region Hluttaw or the State Hluttaw

161. The Region or State Hluttaw shall be formed with the following persons :

(a) representatives of the Region or State Hluttaw, two of each are elected from each township in the Regions or the States;

(b) representatives of the Region Hluttaw, each is elected from each national race determined by the authorities concerned as having a population which constitutes 0.1 percent and above of the population of the Union, of the remaining national races other than those who have already obtained the respective Region or a Self-Administered Area in that Region;

(c) representatives of the State Hluttaw, each is elected from each national race determined by the authorities concerned as having a population which constitutes 0.1 percent and above of the population of the Union, of the remaining national races other than those who have already obtained respective State or a Self-Administered Area in that State;

(d) representatives of the Region or State Hluttaw who are the Defence Services personnel nominated by the Commander-in-Chief of the Defence Services in accord with the law for an equal number of one-third of the total number of Hluttaw representatives elected under Sub-Sections (a) and (b) or (a) and (c).

၅၈

## တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်

### တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် ဖွဲ့စည်းခြင်း

၁၆၁။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကို အောက်ပါအတိုင်းဖွဲ့စည်းရမည် -

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များတွင် မြို့နယ်တစ်မြို့နယ်လျှင် နှစ်ဦးကျစီ ရွေးကောက်တင်မြှောက်သည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များ၊

(ခ) တိုင်းဒေသကြီးများတွင် ထိုတိုင်းဒေသကြီး ရရှိပြီးသော သို့မဟုတ် ထိုတိုင်းဒေသကြီးအတွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စု ရရှိပြီးသော တိုင်းရင်းသားလူမျိုးများမှအပ ကျန်တိုင်းရင်းသားလူမျိုးများအနက် လျော်ကန်သင့်မြတ်သော လူဦးရေဖြစ်သည့် နိုင်ငံတော်ရှိ လူဦးရေစုစုပေါင်း၏ သုညဒသမတစ်ရာခိုင်နှုန်းနှင့် အထက်ရှိကြောင်း သက်ဆိုင်ရာက သတ်မှတ်သော တိုင်းရင်းသားလူမျိုးအသီးသီးက လူမျိုးတစ်မျိုးလျှင် တစ်ဦးကျစီ ရွေးကောက်တင်မြှောက်သည့် တိုင်းဒေသကြီးလွှတ်တော် ကိုယ်စားလှယ်များ၊

(ဂ) ပြည်နယ်များတွင် ထိုပြည်နယ်ရရှိပြီးသော သို့မဟုတ် ထိုပြည်နယ်အတွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုရရှိပြီးသော တိုင်းရင်းသားလူမျိုးများမှအပ ကျန်တိုင်းရင်းသားလူမျိုးများအနက် လျော်ကန်သင့်မြတ်သော လူဦးရေဖြစ်သည့် နိုင်ငံတော်ရှိ လူဦးရေ စုစုပေါင်း၏ သုညဒသမတစ်ရာခိုင်နှုန်းနှင့် အထက်ရှိကြောင်း သက်ဆိုင်ရာက သတ်မှတ်သော တိုင်းရင်းသားလူမျိုးအသီးသီးက လူမျိုးတစ်မျိုးလျှင် တစ်ဦးကျစီ ရွေးကောက်တင်မြှောက်သည့် ပြည်နယ် လွှတ်တော်ကိုယ်စားလှယ်များ၊

(ဃ) ပုဒ်မခွဲ (က) နှင့် (ခ) သို့မဟုတ် ပုဒ်မခွဲ (က) နှင့် (ဂ) တို့အရ ရွေးကောက် တင်မြှောက်သည့် လွှတ်တော်ကိုယ်စားလှယ်စုစုပေါင်း၏ သုံးပုံတစ်ပုံနှင့် ညီမျှသော တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်း တင်သွင်းသည့် တပ်မတော်သားတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်ကိုယ်စားလှယ်များ။

**Election of the Chairperson of the Region or State Hluttaw**

162. Election of Chairperson of the Region Hluttaw or the State Hluttaw shall be carried out subject to the provisions relating to the election of Chairperson of the Pyithu Hluttaw under Section 110.

**Election of the Speaker and the Deputy Speaker of the Region Hluttaw or the State Hluttaw**

163. Election of the Speaker and the Deputy Speaker of the Region Hluttaw or the State Hluttaw shall be carried out subject to the provisions relating to the election of the Speaker and the Deputy Speaker of the Pyithu Hluttaw under Section 111.

**Duties of the Speaker of the Region Hluttaw or the State Hluttaw**

164. The Speaker of the Region Hluttaw or the State Hluttaw shall :

(a) supervise the Region Hluttaw or the State Hluttaw sessions;

(b) invite the President, if he is informed of the President's desire to address the Region Hluttaw or the State Hluttaw;

(c) make necessary arrangement if the Chief Minister of the Region or State informs his desire to address;

(d) have the right to invite members of the organization or persons representing any Region or State level organization formed under the Constitution to attend the session of the Region Hluttaw or the State Hluttaw and give clarifications on matters relating to ongoing discussions, if necessary;

(e) perform other duties and powers prescribed by the Constitution or any law.

## တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် သဘာပတိတင်မြှောက်ခြင်း

၁၆၂။ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် သဘာပတိတင်မြှောက်ခြင်းကို ပုဒ်မ ၁၁၀ ပါ ပြည်သူ့လွှတ်တော် သဘာပတိတင်မြှောက်ခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်း ဆောင်ရွက်ရမည်။

## တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ် လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ခြင်း

၁၆၃။ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ခြင်းကို ပုဒ်မ ၁၁၁ ပါ ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ ရွေးကောက်တင်မြှောက်ခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်း ဆောင်ရွက်ရမည်။

## တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌ၏ လုပ်ငန်းတာဝန်

၁၆၄။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌသည် -

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးများကို ကြီးကြပ်ကွပ်ကဲရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးသို့တက်ရောက်၍ မိန့်ခွန်းပြောကြားလိုကြောင်း နိုင်ငံတော်သမ္မတက အကြောင်းကြားလျှင် နိုင်ငံတော်သမ္မတအား ဖိတ်ကြားရမည်၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က မိန့်ခွန်းပြောကြားလိုကြောင်း အကြောင်းကြားလျှင် လိုအပ်သလို စီစဉ်ဆောင်ရွက်ပေးရမည်၊

(ဃ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေး၌ ဆွေးနွေးဆောင်ရွက်ဆဲ အကြောင်းအရာ တစ်ရပ်ရပ်နှင့် စပ်လျဉ်း၍ လိုအပ်လျှင် ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တက်ရောက်ရှင်းလင်းတင်ပြစေရန် ဖိတ်ကြားခွင့်ရှိသည်၊

(င) ဖွဲ့စည်းပုံအခြေခံဥပဒေအရသော်လည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရသော်လည်းကောင်း သတ်မှတ်ထားသည့် အခြားတာဝန်နှင့် လုပ်ပိုင်ခွင့်များ ဆောင်ရွက်ရမည်။

**Performance and termination of duties of the Speaker and the Deputy Speaker of the Region Hluttaw or the State Hluttaw**

165. Performance and termination of duties of the Speaker and the Deputy Speaker of the Region Hluttaw or the State Hluttaw shall be subject to the provisions relating to the performance and termination of duties of the Speaker and the Deputy Speaker of the Pyithu Hluttaw in Section 113.

166. Duties, powers and rights of the Speaker and the Deputy Speaker of the Region Hluttaw or the State Hluttaw shall be prescribed by law.

**Formation of the Region Hluttaw or the State Hluttaw Committee and Bodies**

167. (a) The Region Hluttaw or the State Hluttaw may, if necessary, form Committee and Bodies with the Region or State Hluttaw representatives concerned to study and submit legislation, national races affairs vested by the Constitution.

(b) The Region Hluttaw or the State Hluttaw may form above Committees and Bodies including suitable citizens.

(c) The Region Hluttaw or the State Hluttaw shall prescribe the number of members, duties, powers, rights and terms of the Committees or Bodies in forming those Committees and Bodies.

**Term of the Region Hluttaw or the State Hluttaw**

168. The term of the Region or State Hluttaw is the same as the term of the Pyithu Hluttaw. The term of the Region or State Hluttaw expires on the day of the expiry of the Pyithu Hluttaw.

## တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန်ထမ်းဆောင်ခြင်းနှင့် ရပ်စဲခြင်း

၁၆၅။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန်ထမ်းဆောင်ခြင်းနှင့် ရပ်စဲခြင်းကို ပုဒ်မ ၁၁၃ ပါ ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန်ထမ်းဆောင်ခြင်းနှင့် ရပ်စဲခြင်းဆိုင်ရာ ပြဋ္ဌာန်းချက်များအတိုင်း ဆောင်ရွက်ရမည်။

၁၆၆။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့၏ တာဝန်၊ လုပ်ပိုင်ခွင့်နှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် ကော်မတီနှင့် အဖွဲ့များ ဖွဲ့စည်းခြင်း

၁၆၇။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် ဖွဲ့စည်းပုံအခြေခံ ဥပဒေအရ အပ်နှင်းထားသည့် ဥပဒေပြုရေး၊ တိုင်းရင်းသားလူမျိုးများ အရေးကို လေ့လာတင်ပြနိုင်စေရေးအတွက် လိုအပ်သည့်အခါ ကော်မတီနှင့် အဖွဲ့များကို သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းနိုင်သည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် အထက်ပါကော်မတီနှင့် အဖွဲ့များတွင် သင့်လျော်သည့် နိုင်ငံသားများကို ထည့်သွင်းဖွဲ့စည်းနိုင်သည်၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် ကော်မတီနှင့်အဖွဲ့များကို ဖွဲ့စည်းသည့်အခါ ယင်းကော်မတီ သို့မဟုတ် အဖွဲ့များ၏ အဖွဲ့ဝင်ဦးရေ၊ တာဝန်၊ လုပ်ပိုင်ခွင့်၊ ရပိုင်ခွင့်နှင့် သက်တမ်းကိုပါ သတ်မှတ်ပေးရမည်။

## တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သက်တမ်း

၁၆၈။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏သက်တမ်းသည် ပြည်သူ့လွှတ်တော်၏ သက်တမ်းနှင့်အညီဖြစ်သည်။ ပြည်သူ့လွှတ်တော်၏ သက်တမ်းကုန်ဆုံးသောနေ့တွင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏သက်တမ်းသည်လည်း ကုန်ဆုံးသည်။

**Qualifications of the Region Hluttaw or the State Hluttaw representatives**

169. The Region or State Hluttaw representatives shall :

(a) have qualifications entitled to be elected as the Pyithu Hluttaw representatives under Section 120;

(b) shall be subject to the provisions of Section 121 which provide the disqualifications to be elected as the Pyithu Hluttaw representatives.

**Qualifications of the Region or State Hluttaw representatives who are Defence Services personnel**

170. The Defence Services personnel**,** nominated by the Commander-in-Chief of the Defence Services as the Region or State Hluttaw representatives who are the Defence Services personnel in accord with the law, shall possess the prescribed qualifications for the Region or State Hluttaw representatives.

**Convening the Region or State Hluttaw Sessions**

171. (a) The commencement of the term of the Region or State Hluttaw is the day of the commencement of the term of the Pyithu Hluttaw.

(b) The first regular session of the Region or State Hluttaw shall be held within 15 days after the commencement of the term of the Hluttaw.

172. (a) The first regular session of the Region or State Hluttaw shall be convened by the State Peace and Development Council after the Constitution comes into operation.

(b) The first regular sessions for the forthcoming terms of the Region or State Hluttaw shall be held by the Speaker of the Region or State Hluttaw who

**တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များ၏ အရည်အချင်း**

၁၆၉။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များသည် -

(က) ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်ရှိသော အရည်အချင်းများနှင့် ပြည့်စုံရမည်၊

(ခ) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့် မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း သက်ဆိုင်စေရမည်။

**တပ်မတော်သား တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များ၏ အရည်အချင်း**

၁၇၀။ တပ်မတော်သား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များ အဖြစ် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်းတင်သွင်းသည့် တပ်မတော်သားများသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များ အတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံရမည်။

**တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးကျင်းပခြင်း**

၁၇၁။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သက်တမ်း စတင်သည့် နေ့ရက်သည် ပြည်သူ့လွှတ်တော်သက်တမ်းစတင်သည့် နေ့ရက်ဖြစ်သည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ ပထမအကြိမ် ပုံမှန် အစည်းအဝေးကို ယင်းလွှတ်တော်၏ သက်တမ်းစတင်သည့်နေ့မှ ၁၅ ရက် အတွင်း ကျင်းပရမည်။

၁၇၂။ (က) ဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာတည်ပြီးနောက် ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ပုံမှန်အစည်းအဝေးကို နိုင်ငံတော်အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ခေါ်ယူကျင်းပရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ နောင်သက်တမ်းများ အတွက် ပထမအကြိမ် ပုံမှန်အစည်းအဝေးများကို ဖွဲ့စည်းပုံအခြေခံဥပဒေပါ

continues to perform his duties in accord with the provisions of the Constitution.

173. (a) The representatives of the Region or State Hluttaw shall take an affirmation of office as mentioned in Schedule Four before the Chairperson of the Region or State Hluttaw at the first regular session of the Region or State Hluttaw.

(b) The representatives of the Region or State Hluttaw who have not taken an affirmation of office shall do so before the Speaker of the Hluttaw at the session of the Region or State Hluttaw at which they first attend.

174. The Speaker of the Region or State Hluttaw shall convene the regular session at least once a year. The maximum interval between regular sessions shall not exceed 12 months.

175. The following functions shall be carried out at the Region or State Hluttaw session:

(a) recording the addresses delivered by the President;

(b) reading and recording the message sent by President and other messages permitted by the Speaker;

(c) recording the address delivered by the Chief Minister of the Region or the State;

(d) submitting, discussing and resolving on a Bill;

(e) discussing and resolving on the matters to be undertaken by the Region or State Hluttaw in accord with the provisions of the Constitution;

ပြဋ္ဌာန်းချက်နှင့်အညီ တာဝန်ဆက်လက် ထမ်းဆောင်လျက်ရှိသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌက ခေါ်ယူကျင်းပရမည်။

၁၇၃။ (က) ပထမအကြိမ်ကျင်းပသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ပုံမှန်အစည်းအဝေးတွင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် သဘာပတိရှေ့မှောက်၌ ဇယား ၄ တွင် ဖော်ပြထားသည့်အတိုင်း ကတိသစ္စာ ပြုရမည်၊

(ခ) ကတိသစ္စာမပြုရသေးသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များသည် စတင်တက်ရောက်သော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးတွင် လွှတ်တော်ဥက္ကဋ္ဌရှေ့မှောက်၌ ကတိသစ္စာပြုရမည်။

၁၇၄။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ပုံမှန်အစည်းအဝေးကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌက တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ်ခေါ်ယူ ကျင်းပရမည်။ ပုံမှန်အစည်းအဝေး တစ်ကြိမ်နှင့်တစ်ကြိမ်အကြား အရှည်ကြာဆုံးကာလသည် ၁၂ လ ထက် မပိုစေရ။

၁၇၅။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေး၌ အောက်ပါကိစ္စရပ်များ ဆောင်ရွက်သည် -

(က) နိုင်ငံတော်သမ္မတပြောကြားသည့် မိန့်ခွန်းကို မှတ်တမ်းတင်ခြင်း၊

(ခ) နိုင်ငံတော်သမ္မတက ပေးပို့သော သဝဏ်လွှာနှင့် ဥက္ကဋ္ဌက ခွင့်ပြုသော အခြားသဝဏ်လွှာများကို ဖတ်ကြားခြင်း၊ မှတ်တမ်းတင်ခြင်း၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်ပြောကြားသည့် မိန့်ခွန်းကို မှတ်တမ်းတင်ခြင်း၊

(ဃ) ဥပဒေကြမ်းတင်သွင်းခြင်း၊ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊

(င) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များအရလည်းကောင်း၊ တည်ဆဲ ဥပဒေ တစ်ရပ်ရပ်ပါ ပြဋ္ဌာန်းချက်များအရလည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ဆောင်ရွက်ရမည့် ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊

(f) discussing, resolving and recording the reports submitted to the Region or State Hluttaw;

(g) submitting proposal, discussing and resolving;

(h) raising questions and replying;

(i) undertaking matters approved by the Speaker of the Region or State Hluttaw.

176. Matters that require resolution, agreement and approval of the Region or State Hluttaw shall be implemented as follows :

(a) if the Region or State Hluttaw is in session, the matter shall be resolved at that session;

(b) if the Region or State Hluttaw is not in session, the matter shall be resolved at the nearest Region or State Hluttaw session;

(c) a special session or an emergency session shall be convened to discuss and to resolve matters which need urgent action in the interest of the public.

177. The Speaker of the Region or State Hluttaw may convene a special session or an emergency session of the Region or State Hluttaw, if necessary.

178. The Speaker of the Region or State Hluttaw shall convene a special or an emergency session of the Region or State Hluttaw as soon as possible when the Chief Minister of the Region or State informs him to do so.

179. The Speaker of the Region or State Hluttaw shall convene a special session as soon as possible, if at least one-fourth of the total number of the Region or State Hluttaw representatives so require.

(စ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်သွင်းသည့် အစီရင်ခံစာများကို ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊ မှတ်တမ်းတင်ခြင်း၊

(ဆ) အဆိုတင်သွင်းခြင်း၊ ဆွေးနွေးခြင်း၊ ဆုံးဖြတ်ခြင်း၊

(ဇ) မေးခွန်းမေးမြန်းခြင်း၊ ဖြေကြားခြင်း၊

(ဈ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌက ခွင့်ပြုသည့်ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ဆောင်ရွက်ခြင်း။

၁၇၆။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ အဆုံးအဖြတ်ရယူမည့် ကိစ္စရပ်များ၊ သဘောတူညီချက်ရယူမည့် ကိစ္စရပ်များ၊ အတည်ပြုချက် ရယူမည့်ကိစ္စရပ်များကို အောက်ပါအတိုင်းဆောင်ရွက်ရမည် -

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးကျင်းပဆဲကာလဖြစ်လျှင် ယင်းအစည်းအဝေး၌ ဆွေးနွေးဆုံးဖြတ်ရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးကျင်းပဆဲကာလမဟုတ်လျှင် အနီးကပ်ဆုံး တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေး၌ ဆွေးနွေးဆုံးဖြတ်ရမည်၊

(ဂ) အများပြည်သူအကျိုးငှာ အလျင်အမြန်ဆောင်ရွက်ရမည့် ကိစ္စရပ်များကို အထူးအစည်းအဝေး သို့မဟုတ် အရေးပေါ်အစည်းအဝေး ခေါ်ယူကျင်းပ၍ ဆွေးနွေးဆုံးဖြတ်ရမည်။

၁၇၇။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အထူးအစည်းအဝေးကိုဖြစ်စေ၊ အရေးပေါ်အစည်းအဝေးကိုဖြစ်စေ ကျင်းပရန်လိုအပ်လျှင် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌက ခေါ်ယူကျင်းပနိုင်သည်။

၁၇၈။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေးကို ခေါ်ယူကျင်းပပေးရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က အကြောင်းကြားလျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌသည် လွှတ်တော်အထူးအစည်းအဝေးကိုဖြစ်စေ၊ အရေးပေါ်အစည်းအဝေးကိုဖြစ်စေ အမြန်ဆုံး ခေါ်ယူကျင်းပရမည်။

၁၇၉။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးကို ခေါ်ယူကျင်းပပေးရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံးလေးပုံတစ်ပုံက တောင်းဆိုလျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌက အထူးအစည်းအဝေးကို အမြန်ဆုံး ခေါ်ယူကျင်းပရမည်။

180. (a) The first day session of the Region or State Hluttaw shall be valid if more than half of the total number of Hluttaw representatives, who have the right to attend the Region or State Hluttaw session, are present. The session, if invalid, shall be adjourned.

(b) The sessions that are adjourned due to invalidity in accord with the Sub-Section (a) as well as the valid session that are extended will be valid if at least one-third of the Hluttaw representatives are present.

181. (a) A matter that shall be resolved in the Region or State Hluttaw, save as otherwise provided by the Constitution, shall be determined by a majority of votes of the Region or State Hluttaw representatives who are present and voting.

(b) The Speaker of the Region or State Hluttaw discharging duties as the Speaker at the Region or State Hluttaw shall not voted in the first instance in the sessions of the Region or State Hluttaw, but shall have and exercise a casting vote in the matter of an equality of votes.

182. If the Region or State Hluttaw representative is, without permission of the Region or State Hluttaw, absent from a Region or a State Hluttaw session for a period of at least 15 consecutive days, the Region or State Hluttaw may declare his seat vacant. In computing

၁၈၀။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးတစ်ရပ်၏ ပထမနေ့တွင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေး သို့ တက်ရောက်ခွင့်ရှိသည့် လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေ၏ ထက်ဝက်ကျော်ဦးရေ တက်ရောက်လျှင် ယင်းအစည်းအဝေး အထမြောက် သည်။ အကယ်၍ အထမမြောက်ပါက အစည်းအဝေးကို ရွှေ့ဆိုင်းကျင်းပ ရမည်၊

(ခ) ပုဒ်မခွဲ (က) အရ အစည်းအဝေးအထမမြောက်သည့်အတွက် ရွှေ့ဆိုင်း ကျင်းပသော အစည်းအဝေးများနှင့် အစည်းအဝေးအထမြောက်ပြီးနောက် ဆက်လက်ကျင်းပသော အစည်းအဝေးများတွင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးကို တက်ရောက်ခွင့်ရှိသည့် လွှတ်တော် ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံး သုံးပုံတစ်ပုံ တက်ရောက် လျှင် ယင်းအစည်းအဝေးများ အထမြောက်သည်။

၁၈၁။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်တွင် အဆုံးအဖြတ်ပြုရမည့် အကြောင်းအရာတစ်ရပ်နှင့် စပ်လျဉ်း၍ မဲခွဲဆုံးဖြတ်ရာ၌ ဖွဲ့စည်းပုံအခြေခံ ဥပဒေတွင် အခြားနည်းပြဋ္ဌာန်းထားခြင်းမရှိလျှင် အစည်းအဝေးသို့ တက် ရောက်၍ ဆန္ဒမဲပေးသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များ၏ များရာဆန္ဒမဲဖြင့် ဆုံးဖြတ်ရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးများတွင် မဲခွဲဆုံးဖြတ်သည့်ကိစ္စများ၌ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ဥက္ကဋ္ဌ သို့မဟုတ် ဥက္ကဋ္ဌတာဝန်ထမ်းဆောင်နေသည့် ဒုတိယဥက္ကဋ္ဌသည် ဆန္ဒမဲမပေးရ။ ထောက်ခံဆန္ဒမဲနှင့် ကန့်ကွက်ဆန္ဒမဲ အရေအတွက်ချင်း တူညီ နေသည့် ကိစ္စရပ်တွင်သာ အနိုင်မဲပေးရမည်။

၁၈၂။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်တစ်ဦးသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးတစ်ရပ်တွင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ ခွင့်ပြုချက်မရဘဲ အစည်းအဝေးတက်ရောက်ရန် အနည်းဆုံး ရက်ပေါင်း ၁၅ ရက် တစ်ဆက်တည်း ပျက်ကွက်လျှင် သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ထိုတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်၏ နေရာလစ်လပ်သည်ဟု တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ကြေညာနိုင်သည်။ တိုင်းဒေသကြီး သို့မဟုတ်

the said period of 15 days, it shall not be counted of any period during which the session is adjourned.

183. Although there are vacant seats, the Region or State Hluttaw shall have the right to carry out its functions. Moreover, the resolutions and proceedings of the Region or State Hluttaw shall not be annulled, notwithstanding the acts of some person who was not entitled to do so sat or voted or took part in the proceedings are later discovered.

184. The proceedings and the records of the Region or State Hluttaw shall be published. However, the proceedings and the records prohibited by any law or the resolution of the Region or State Hluttaw shall not be published.

185. (a) Subject to the provisions of the Constitution and the provisions of the law relating to the Region or State Hluttaw, the Region or State Hluttaw representatives shall have freedom of speech and voting at the Region or State Hluttaw and the Committee and Body formed by the Region or State Hluttaw. Concerning the discussing, submitting and performing at the Region or State Hluttaw and the Region or State Hluttaw Committees and Bodies, no action shall be taken against a Region or a State Hluttaw representative except under its laws.

ပြည်နယ်လွှတ်တော် အစည်းအဝေးတက်ရောက်ရန် ခွင့်မဲ့ပျက်ကွက်သည့် ရက်ပေါင်း ၁၅ ရက်ကို ရေတွက်ရာ၌ အစည်းအဝေး ရွှေ့ဆိုင်းထားသည့် ကာလကို ထည့်သွင်းရေတွက်ခြင်း မပြုရ။

၁၈၃။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် လွှတ်တော်ကိုယ်စားလှယ် နေရာအချို့ လစ်လပ်နေစေကာမူ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် လုပ်ငန်းများကို ဆောင်ရွက်ခွင့်ရှိသည်။ ထို့ပြင် အခွင့်အရေးမရှိသူတစ်ဦးက တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးသို့ တက်ရောက်ခဲ့ခြင်း၊ ဆန္ဒမဲပေးခဲ့ခြင်း သို့မဟုတ် လွှတ်တော်လုပ်ငန်းတစ်ရပ်ရပ်တွင် ပါဝင်ဆောင်ရွက်ခဲ့ခြင်းကို နောင်အခါတွင်မှ စစ်ဆေးတွေ့ရှိစေကာမူ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ ဆုံးဖြတ်ဆောင်ရွက်ချက်များသည် ပျက်ပြယ်ခြင်းမရှိစေရ။

၁၈၄။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ ဆောင်ရွက်ချက်များနှင့် မှတ်တမ်းများကို အများပြည်သူသိရှိနိုင်ရန် ထုတ်ပြန်ရမည်။ သို့ရာတွင် ဥပဒေတစ်ရပ်ရပ်အရဖြစ်စေ၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ ဆုံးဖြတ်ချက်အရဖြစ်စေ တားမြစ်ထားသည့် ဆောင်ရွက်ချက်များနှင့် မှတ်တမ်းများကို ထုတ်ပြန်ခြင်းမပြုရ။

၁၈၅။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဆိုင်ရာ ဥပဒေပါပြဋ္ဌာန်းချက်များနှင့် လည်းကောင်း မဆန့်ကျင်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် နှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ဖွဲ့စည်းသည့် ကော်မတီ နှင့် အဖွဲ့တို့တွင် လွတ်လပ်စွာပြောဆိုခွင့်နှင့် ဆန္ဒမဲပေးခွင့်ရှိသည်။ ထိုသို့ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၊ လွှတ်တော်ကော်မတီနှင့် အဖွဲ့များတွင် တင်ပြဆွေးနွေးခြင်း၊ ဆောင်ရွက်ခြင်းတို့နှင့်စပ်လျဉ်း၍ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်တစ်ဦးကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဆိုင်ရာဥပဒေမှအပ အခြား ဥပဒေအရ အရေးယူခြင်းမပြုရ၊

(b) Subject to the provisions of the Constitution and the provisions of the law relating to the Region or State Hluttaw, members of the organizations or persons representing any of the Region or State level organizations formed under the Constitution who are permitted or invited to attend the session of the Region or State Hluttaw or any Committee and Body of the Region or State Hluttaw have the freedom of speech at the Region or State Hluttaw or the Region or State Hluttaw Committees and Bodies. No action shall be taken against such members or persons for their submissions and speeches in the Region or State Hluttaw by other law except under its laws.

(c) If the persons mentioned in Sub-Sections (a) and (b) committed assault in exercising the said privileges, they shall be liable to punishment under the regulations, by-laws, procedures of the Region or State Hluttaw or the existing laws.

186. (a) If there is a need to arrest a Region or a State Hluttaw representative attending the Region or State Hluttaw session or a person attending the Region or State Hluttaw session with the permission or invitation of the Speaker of the Hluttaw, the credible evidence shall be submitted to the Speaker of the Region or State Hluttaw. He shall not be arrested without the prior permission of the Speaker of the Region or State Hluttaw.

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးသို့ တက်ရောက်ရန် ခွင့်ပြုခြင်း သို့မဟုတ် ဖိတ်ကြားခြင်းခံရသော ဖွဲ့စည်းပုံ အခြေခံဥပဒေအရ ဖွဲ့စည်းသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်သော်လည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဆိုင်ရာ ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်သော်လည်းကောင်း မဆန့်ကျင်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် သို့မဟုတ် လွှတ်တော်က ဖွဲ့စည်းသည့် ကော်မတီနှင့် အဖွဲ့များတွင် လွတ်လပ်စွာ ပြောဆိုခွင့်ရှိသည်။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် သို့မဟုတ် လွှတ်တော်ကဖွဲ့စည်းသည့် ကော်မတီနှင့် အဖွဲ့များတွင် တင်ပြပြောဆိုမှုများနှင့် စပ်လျဉ်း၍ ယင်းအဖွဲ့အစည်းဝင်များ သို့မဟုတ် ပုဂ္ဂိုလ်များအား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဆိုင်ရာ ဥပဒေမှအပ အခြားဥပဒေအရ အရေးယူခြင်း မပြုရ၊

(ဂ) ပုဒ်မခွဲ (က) နှင့် (ခ) တွင် ပါရှိသောပုဂ္ဂိုလ်များသည် အထက်ပါ အခွင့်အရေးများကို ကျင့်သုံးကြရာတွင် ကိုယ်ထိလက်ရောက် ကျူးလွန်မှုများ ရှိခဲ့ပါက ယင်းတို့သည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများအရလည်းကောင်း၊ တည်ဆဲဥပဒေများအရလည်းကောင်း အရေးယူခြင်းခံရမည်။

၁၈၆။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေး တက်ရောက်နေသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်တစ်ဦးကိုဖြစ်စေ၊ လွှတ်တော်ဥက္ကဋ္ဌ၏ ခွင့်ပြုချက် သို့မဟုတ် ဖိတ်ကြားချက်အရ ယင်းအစည်းအဝေးသို့ တက်ရောက်နေသော ပုဂ္ဂိုလ်တစ်ဦးကိုဖြစ်စေ၊ ဖမ်းဆီးရန်လိုအပ်ပါက ခိုင်လုံသောအထောက်အထားကို သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌထံ တင်ပြရမည်။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌ၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ ဖမ်းဆီးခြင်းမပြုရ၊

(b) If there is a need to arrest a member of a Committee or a Body of the Region or State Hluttaw attending session of any Committee or Body formed by the Region or State Hluttaw, the credible evidence shall be submitted to the Speaker of the Region or State Hluttaw through the Head of the Committee or Body concerned. He shall not be arrested without the prior permission of the Speaker of the Hluttaw.

(c) If a representative of the Region or State Hluttaw is arrested, session of the Region or State Hluttaw or session of any Committee or any Body formed by the Hluttaw is not in session, the credible evidence in support of such arrest shall as soon as possible be submitted to the Speaker of the Region or State Hluttaw.

187. No action shall be instituted relating to the reports, documents and Hluttaw records published by the Region or State Hluttaw or under its authority.

**Legislation**

188. The Region or State Hluttaw shall have the right to enact laws for the entire or any part of the Region or State related to matters prescribed in Schedule Two of the Region or State Hluttaw Legislative List.

189. (a) When the Region or State Hluttaw enacts a law, it may :

(i) authorize to issue rules, regulations and by-laws concerning that law to any Region or State level organization formed under the Constitution;

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ဖွဲ့စည်းသော ကော်မတီ သို့မဟုတ် အဖွဲ့တစ်ခုခု၏ အစည်းအဝေးတက်ရောက်နေသည့် ယင်းကော်မတီ သို့မဟုတ် အဖွဲ့၏ အဖွဲ့ဝင်တစ်ဦးအား ဖမ်းဆီးရန်လိုအပ်ပါက ခိုင်လုံသော အထောက်အထားကို သက်ဆိုင်ရာကော်မတီ သို့မဟုတ် အဖွဲ့၏ အကြီးအမှူးမှတစ်ဆင့် သက်ဆိုင်ရာလွှတ်တော်ဥက္ကဋ္ဌထံ တင်ပြရမည်။ ထိုလွှတ်တော်ဥက္ကဋ္ဌ၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ ဖမ်းဆီးခြင်း မပြုရ၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေး သို့မဟုတ် လွှတ်တော်က ဖွဲ့စည်းသည့်ကော်မတီ သို့မဟုတ် အဖွဲ့တစ်ခုခု၏ အစည်းအဝေး ကျင်းပချိန်မဟုတ်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်တစ်ဦးအား ဖမ်းဆီးပါက ထိုသို့ဖမ်းဆီးခြင်းနှင့်စပ်လျဉ်းသည့် ခိုင်လုံသော အထောက်အထားကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်ဥက္ကဋ္ဌထံ ဆောလျင်စွာတင်ပြရမည်။

၁၈၇။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကသော်လည်းကောင်း၊ ယင်း လွှတ်တော်၏ အခွင့်အာဏာအရသော်လည်းကောင်း၊ ဖြန့်ချိထုတ်ဝေသည့် အစီရင်ခံစာများ၊ စာရွက်စာတမ်းများ၊ လွှတ်တော်မှတ်တမ်းများနှင့်စပ်လျဉ်း၍ တရားစွဲဆိုပိုင်ခွင့် မရှိစေရ။

**ဥပဒေပြုခြင်း**

၁၈၈။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် ဇယား ၂ တွင် ဖော်ပြထားသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေပြုစာရင်းပါ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် တစ်ဝန်းလုံးအတွက်သော်လည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် တစ်စိတ်တစ်ဒေသအတွက်သော်လည်းကောင်း အာဏာ သက်ရောက်စေရန် ဥပဒေပြုခွင့်ရှိသည်။

၁၈၉။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် ဥပဒေတစ်ရပ် ပြဋ္ဌာန်းသည့်အခါ -

(၁) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်အား ယင်းဥပဒေနှင့် သက်ဆိုင်သည့် နည်းဥပဒေ၊ စည်းမျဉ်းနှင့် စည်းကမ်းများ ထုတ်ပြန်ခွင့်ကို အပ်နှင်းနိုင်သည်၊

(ii) authorize to issue notifications, orders, directives and procedures to the respective organization or authority.

(b) The rules, regulations, by-laws, notifications, orders, directives and procedures issued under the power conferred by any law shall be in conformity with the provisions of the Constitution and the relevant law.

(c) After issuing any rule, regulation or by-law in accord with the law enacted by the Region or State Hluttaw, the Body concerned shall distribute and submit the said rule, regulation or by-law to its representatives at the nearest regular session of the Region or State Hluttaw under the permitted arrangement of the Speaker of the Hluttaw.

(d) If it is found that a rule, regulation or by-law is in conformity with the provisions of relevant law, Hluttaw representatives may move to annul or amend the rule, regulation or by-law to the Region or State Hluttaw within 90 days from the day that rule, regulation or by-law is submitted and distributed.

(e) If the Region or State Hluttaw passes a resolution to annul or amend any rule, regulation or by-law, the resolution shall be without prejudice to the validity of any action previously taken under the relevant rules, regulations or by-laws.

(၂) သက်ဆိုင်ရာအဖွဲ့အစည်း သို့မဟုတ် အာဏာပိုင်အား ယင်း ဥပဒေနှင့် သက်ဆိုင်သည့် အမိန့်ကြော်ငြာစာ၊ အမိန့်၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများထုတ်ပြန်ခွင့်ကို အပ်နှင်းနိုင်သည်။

(ခ) ဥပဒေတစ်ရပ်က အပ်နှင်းသည့် လုပ်ပိုင်ခွင့်အရ ပြုလုပ်သောနည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ အမိန့်ကြော်ငြာစာ၊ အမိန့်၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် လည်းကောင်း၊ သက်ဆိုင်ရာဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း ညီညွတ်မှုရှိရမည်၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ပြဋ္ဌာန်းသည့်ဥပဒေအရပြုသည့် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်း တစ်ရပ်ရပ်ကို ထုတ်ပြန်ပြီးသည့်အခါ သက်ဆိုင်ရာ အဖွဲ့အစည်းသည် မိမိထုတ်ပြန်သည့် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းကို အနီးကပ်ဆုံးကျင်းပသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ပုံမှန်အစည်းအဝေးကာလတွင် လွှတ်တော်ဥက္ကဋ္ဌက ခွင့်ပြုသည့် အစီအစဉ်ဖြင့် လွှတ်တော်ကိုယ်စားလှယ်များထံ ဖြန့်ဝေတင်ပြရမည်၊

(ဃ) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်သည် သက်ဆိုင်ရာဥပဒေပါပြဋ္ဌာန်းချက်များနှင့် ညီညွတ်မှုမရှိကြောင်း တွေ့ရှိပါက ယင်းနည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းကိုပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်း ဖြန့်ဝေတင်ပြသောနေ့ရက်မှ ရက်ပေါင်း ၉၀ အတွင်း လွှတ်တော်ကိုယ်စားလှယ်များက တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်တွင် အဆိုတင်သွင်းနိုင်သည်၊

(င) နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းတစ်ရပ်ရပ်ကို ပယ်ဖျက်ရန် သို့မဟုတ် ပြင်ဆင်စေရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ဆုံးဖြတ်ပါက ထိုသို့ပယ်ဖျက်ခြင်း သို့မဟုတ် ပြင်ဆင်စေခြင်းမပြုမီ နည်းဥပဒေ၊ စည်းမျဉ်း သို့မဟုတ် စည်းကမ်းအရ ဆောင်ရွက်ခဲ့ပြီးသော အမှုကိစ္စများကို ထိခိုက်ခြင်းမရှိစေရ။

**Submission of Bill**

190. (a) The Region or State level organizations formed under the Constitution shall have the right to submit the Bills relating to matters they administered among the matters included in the Schedule Two of the Region or State Legislative List to the Region or State Hluttaw in accord with the prescribed procedures.

(b) Bills relating to regional plans, annual budgets and taxation of the Region or State, which are to be submitted exclusively by the Region or State government, shall be submitted to the Region or State Hluttaw in accord with the prescribed procedures.

191. Representatives of the Region or State Hluttaw shall submit the Bills relating to other matters, except the matters prescribed in the Constitution that the Bill was submitted exclusively by the Region or State Hluttaw stated in the Schedule Two of the Region or State Legislative List, to the Region or State Hluttaw in accord with the prescribed procedures.

192. (a) Members, who are representatives of the Region or State Hluttaw among members representing any Region or State level organization formed under the Constitution, are entitled to explain, converse, discuss and vote Bills or matters relating to their organizations at the Hluttaw sessions.

(b) Members, who are not representatives of the Region or State Hluttaw among members representing any Region or State level organization formed under the Constitution, when they are attending Hluttaw session with the

## ဥပဒေကြမ်းတင်သွင်းခြင်း

၁၉၀။ (က) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အဆင့် အဖွဲ့အစည်းများသည် ဇယား ၂ တွင် ဖော်ပြထားသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် ဥပဒေပြုစာရင်းပါ ကိစ္စရပ်များအနက် မိမိတို့စီမံခန့်ခွဲသည့် ကိစ္စရပ်များနှင့် စပ်လျဉ်းသော ဥပဒေကြမ်းများကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်သွင်းခွင့်ရှိသည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရအဖွဲ့ကသာ တင်သွင်းခွင့်ရှိသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဒေသန္တရစီမံကိန်း၊ နှစ်စဉ် အရအသုံး ခန့်မှန်းခြေငွေစာရင်းနှင့် အခွန်အကောက်ဆိုင်ရာ ဥပဒေကြမ်းများကို သတ်မှတ် ထားသည့် နည်းလမ်းများနှင့်အညီ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်သို့ တင်သွင်းရမည်။

၁၉၁။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များသည် ဇယား ၂ တွင် ဖော်ပြထားသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေပြုစာရင်းပါ ကိစ္စရပ်များ အနက် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ကသာ ဥပဒေကြမ်း တင်သွင်းရမည်ဟု ဖွဲ့စည်းပုံအခြေခံဥပဒေ၌ သတ်မှတ်ပြဋ္ဌာန်းထားသည့် ကိစ္စရပ်များမှအပ ကျန်ကိစ္စရပ်များနှင့် စပ်လျဉ်းသော ဥပဒေကြမ်းများကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်သွင်းခွင့်ရှိသည်။

၁၉၂။ (က) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များ အနက် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ် ဖြစ်သော အဖွဲ့အစည်းဝင်များသည် လွှတ်တော်အစည်းအဝေးများတွင် မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သော ဥပဒေကြမ်းများ သို့မဟုတ် ကိစ္စရပ် များနှင့်စပ်လျဉ်း၍ ရှင်းလင်းပြောဆို ဆွေးနွေးခွင့်နှင့် ဆန္ဒမဲပေးပိုင်ခွင့်ရှိသည်၊

(ခ) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အဆင့် အဖွဲ့အစည်းတစ်ရပ်ရပ်ကို ကိုယ်စားပြုသော အဖွဲ့အစည်းဝင်များ အနက် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်

permission of the Speaker of the Hluttaw, are entitled to explain, converse and discuss Bills or matters relating to their organizations.

**Submission of Region and State Budget Bill**

193. (a) The Region or State Annual Budget Bill to which only by the Region or State Government has the right to be submitted only to the Region or State Hluttaw in accord with the prescribed procedures.

(b) Relating to the Bill in Sub-Section (a), the Region or State Budget including finance received from the Union Fund of the Region or State under the Union Budget Law or the Supplementary Appropriation Law with the recommendation of the Chief Minister concerned shall be discussed, as may be necessary by the Region or State Hluttaw concerned and shall be carried out and approved, refused, curtailed with the majority consent. In doing so, the following matters may be discussed at the Region Hluttaw or the State Hluttaw, but not refused or curtailed :

(i) salary and allowance of Heads and members of the Region or State level organizations formed under the Constitution and expenditures of those organizations;

မဟုတ်သော အဖွဲ့အစည်းဝင်များသည် လွှတ်တော်ဥက္ကဋ္ဌ၏ ခွင့်ပြုချက်ဖြင့် လွှတ်တော်အစည်းအဝေးသို့ တက်ရောက်သည့်အခါ မိမိအဖွဲ့အစည်းနှင့် သက်ဆိုင်သော ဥပဒေကြမ်းများ သို့မဟုတ် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ရှင်းလင်းပြောဆို ဆွေးနွေးခွင့်ရှိသည်။

**တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ ဘဏ္ဍာငွေအရအသုံးဆိုင်ရာ ဥပဒေကြမ်း တင်သွင်းခြင်း**

၁၉၃။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ကသာ တင်သွင်းခွင့်ရှိသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၊ နှစ်စဉ် ဘဏ္ဍာငွေအရအသုံးဆိုင်ရာ ဥပဒေကြမ်းကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်သွင်းရမည်၊

(ခ) ပုဒ်မခွဲ(က)ပါ ဥပဒေကြမ်းနှင့် စပ်လျဉ်း၍ ပြည်ထောင်စု၏ ဘဏ္ဍာငွေ အရအသုံးဆိုင်ရာဥပဒေ သို့မဟုတ် နောက်ထပ် ဘဏ္ဍာငွေခွဲဝေသုံးစွဲရေး ဥပဒေအရ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အလိုက် ပြည်ထောင်စု ဘဏ္ဍာရန်ပုံငွေမှရရှိသည့် ဘဏ္ဍာငွေများ အပါအဝင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အရအသုံးခန့်မှန်းခြေငွေစာရင်းကို သက်ဆိုင်ရာဝန်ကြီးချုပ်၏ ထောက်ခံတင်ပြချက်အပေါ် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က လိုအပ်သလိုဆွေးနွေး၍ သဘောတူ အတည်ပြုခြင်း၊ ငြင်းပယ်ခြင်း၊ လျှော့၍ခွင့်ပြုခြင်းတို့ကို အများဆန္ဒနှင့်အညီ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ရာတွင် -

(၁) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းထားသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့် အဖွဲ့အစည်းများ၏ အကြီးအမှူးများနှင့် အဖွဲ့အစည်းဝင်များ၏ လစာ၊ စရိတ်နှင့် ယင်းအဖွဲ့အစည်းများ၏ အသုံးစရိတ်များ၊

(ii) salary and allowance of Heads and members of Leading Bodies of Self-Administered Area formed under the Constitution and expenditures of those bodies;

(iii) debts for which the Region or State is liable and expenses relating to the debts, other expenses relating to the loans taken out by the Region or State;

(iv) expenditures required to satisfy judgment, order or decree of any Court or Tribunal;

(v) other expenditures which are to be charged by any law enacted by the Region Hluttaw or the State Hluttaw.

194. The Region or State Hluttaw shall pass a resolution when the Region or State government submits the Region or State estimated budget in accord with the prescribed procedures.

**Promulgation of Law**

195. (a) The Chief Minister of the Region or State shall :

(i) sign and promulgate the Bills approved by the Region or State Hluttaw as law within seven days after the day of receipt in accord with the prescribed procedures;

(၂) ဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖွဲ့စည်းထားသော ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုဦးစီးအဖွဲ့ အကြီးအမှူးများနှင့် အဖွဲ့အစည်းဝင်များ၏လစာ၊ စရိတ်နှင့် ယင်းအဖွဲ့အစည်းများ၏ အသုံးစရိတ်များ၊

(၃) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က ပေးဆပ်ရန် တာဝန်ရှိသော ကြွေးမြီများ၊ ယင်းကြွေးမြီများနှင့် ဆက်နွှယ်သော ကုန်ကျစရိတ်များ၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ကချေးယူငွေများနှင့် ဆက်နွှယ်သောကုန်ကျစရိတ်များ၊

(၄) တရားရုံး သို့မဟုတ် ခုံရုံးတစ်ခုခု၏ စီရင်ချက်၊ အမိန့်၊ ဒီကရီအရ ပေးဆောင်ရန်ရှိသော အသုံးစရိတ်များ၊

(၅) တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်က ပြဋ္ဌာန်းသည့် ဥပဒေတစ်ရပ်ရပ်အရ ကျခံရမည့် အခြားအသုံးစရိတ်များနှင့် စပ်လျဉ်း၍ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်တွင် ဆွေးနွေးပိုင်ခွင့်ရှိသည်။ သို့သော် ငြင်းပယ်ခြင်း၊ လျှော့၍ခွင့်ပြုခြင်း မပြုရ။

၁၉၄။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရက တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ ရငွေသုံးငွေလျာထားချက်ကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ တင်သွင်းလာလျှင် အဆုံးအဖြတ်ပေးရမည်။

## ဥပဒေအဖြစ် ထုတ်ပြန်ကြေညာခြင်း

၁၉၅။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် -

(၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က အတည်ပြုသော ဥပဒေကြမ်းများကို လက်ခံရရှိသည့်နေ့၏ နောက်တစ်နေ့မှ ခုနစ်ရက်အတွင်း သတ်မှတ်ထားသော နည်းလမ်းများနှင့်အညီ လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရမည်၊

(ii) sign and promulgate the Bills approved by the Leading Body of Self-Administered Division or Self-Administered Zone as law within 14 days after the day of receipt.

(b) If the Chief Minister of the Region or State does not sign and promulgate the Bill as law within the prescribed period, on the day after the completion of that period, the Bill shall become a law as if he had signed it.

(c) The laws signed by the Chief Minister of the Region or State and laws which deemed to have been signed by him, shall be promulgated by the publication in the official gazette. The Law shall come into operation on the day of such promulgation unless the contrary intention is expressed.

**Self-Administered Division and Self-Administered Zone Leading Bodies**

196. The legislative power relating to the matters listed in the Schedule Three for respective Divisions or Zones are allotted to the Self-Administered Division or the Self-Administered Zone Leading Bodies.

(၂) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဦးစီးအဖွဲ့က အတည်ပြုသော ဥပဒေကြမ်းများကို လက်ခံရရှိသည့် နေ့၏ နောက်တစ်နေ့မှ ၁၄ ရက် အတွင်း လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရမည်။

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာရန် သတ်မှတ်ထားသည့် ကာလအတွင်း ဥပဒေကြမ်းကို ဝန်ကြီးချုပ်က လက်မှတ်ရေးထိုး၍ ဥပဒေအဖြစ် ထုတ်ပြန်ကြေညာခြင်းမပြုလျှင် သတ်မှတ်ကာလ ပြည့်မြောက်သည့်နေ့ရက်တွင် ဥပဒေကြမ်းသည် ဝန်ကြီးချုပ်၏ လက်မှတ်ရေးထိုးချက်ကို ရရှိပြီးသကဲ့သို့ ဥပဒေဖြစ်လာရမည်၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က လက်မှတ်ရေးထိုးပြီးသော ဥပဒေများနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်၏ လက်မှတ်ရေးထိုးချက်ကို ရရှိပြီးသကဲ့သို့ မှတ်ယူရမည်ဖြစ်သော ဥပဒေများကို နိုင်ငံတော်ပြန်တမ်းတွင် ထုတ်ပြန်ကြေညာရမည်။ ထိုဥပဒေတွင် သီးခြား ဖော်ပြချက်မပါလျှင် ထုတ်ပြန်ကြေညာသည့်နေ့မှစ၍ အာဏာတည်ရမည်။

**ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဦးစီးအဖွဲ့**

၁၉၆။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဦးစီးအဖွဲ့များအား မိမိတို့တိုင်း သို့မဟုတ် ဒေသအတွက် ဇယား ၃ တွင် ဖော်ပြထားသော ဥပဒေပြု စာရင်းပါ ကိစ္စရပ်များနှင့်စပ်လျဉ်းသည့် ဥပဒေပြုခွင့်အာဏာများကို ခွဲဝေအပ်နှင်းသည်။

**Duties, powers and rights of the representatives of the Pyithu Hluttaw, the Amyotha Hluttaw and the Region or State Hluttaw**

197. Duties, powers and rights of the representatives of the Pyithu Hluttaw, the Amyotha Hluttaw and the Region or State Hluttaw shall be prescribed by law.

**Effect of Laws**

198. The effect of laws enacted by different levels of the Hluttaw and the Leading Bodies of the Self-Administered Area is as follows :

(a) if any provision of the law enacted by the Pyidaungsu Hluttaw, the Region Hluttaw, the State Hluttaw, the Leading Bodies of the Self-Administered Division or the Self-Administered Zone or, any existing law is inconsistent with any provision of the Constitution, the Constitution shall prevail;

(b) if any provision of the law enacted by the Region Hluttaw or the State Hluttaw is inconsistent with any provision of the law enacted by the Pyidaungsu Hluttaw, the law enacted by the Pyidaungsu Hluttaw shall prevail;

(c) if any provision of the law enacted by the Leading Body of the Self-Administered Division or the Self-Administered Zone is inconsistent with

## ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော်နှင့် တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ် လွှတ်တော်ကိုယ်စားလှယ်တို့၏ တာဝန်၊ လုပ်ပိုင်ခွင့်နှင့် ရပိုင်ခွင့်များ

၁၉၇။ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော်နှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်ကိုယ်စားလှယ်တို့၏ တာဝန်၊ လုပ်ပိုင်ခွင့်နှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်း သတ်မှတ်ရမည်။

## ဥပဒေများ၏ အကျိုးသက်ရောက်မှု

၁၉၈။ လွှတ်တော်အဆင့်ဆင့်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုဦးစီးအဖွဲ့များက ပြဋ္ဌာန်းသည့် ဥပဒေများ၏ အကျိုးသက်ရောက်မှုမှာ အောက်ပါအတိုင်းဖြစ်သည် -

(က) ပြည်ထောင်စုလွှတ်တော်၊ တိုင်းဒေသကြီးလွှတ်တော်၊ ပြည်နယ်လွှတ်တော်၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဦးစီးအဖွဲ့က ပြဋ္ဌာန်းလိုက်သည့် ဥပဒေပါပြဋ္ဌာန်းချက်တစ်ရပ်ရပ်သည် လည်းကောင်း၊ တည်ဆဲဥပဒေတစ်ရပ်ရပ်သည်လည်းကောင်း ဖွဲ့စည်းပုံ အခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်နှင့် ဆန့်ကျင်နေလျှင် ဖွဲ့စည်းပုံ အခြေခံဥပဒေပါအတိုင်း လိုက်နာကျင့်သုံးရမည်၊

(ခ) တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်က ပြဋ္ဌာန်း လိုက်သည့် ဥပဒေပါပြဋ္ဌာန်းချက်တစ်ရပ်ရပ်သည် ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့် ဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်နှင့် ဆန့်ကျင်နေလျှင် ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့် ဥပဒေပါအတိုင်း လိုက်နာကျင့်သုံး ရမည်၊

(ဂ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဦးစီးအဖွဲ့က ပြဋ္ဌာန်းလိုက်သည့် ဥပဒေပါပြဋ္ဌာန်းချက်တစ်ရပ်ရပ်သည် ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့်ဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်နှင့်

any provision of the law enacted by the Pyidaungsu Hluttaw, the law enacted by the Pyidaungsu Hluttaw shall prevail;

(d) if any provision of the law enacted by the Leading Body of the Self-Administered Division or the Self-Administered Zone is inconsistent with any provision of the law enacted by the Region Hluttaw or the State Hluttaw concerned, the law enacted by the Region Hluttaw or the State Hluttaw concerned shall prevail.

ဆန့်ကျင်နေလျှင် ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့် ဥပဒေပါအတိုင်း လိုက်နာကျင့်သုံးရမည်၊

(ဃ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဦးစီးအဖွဲ့က ပြဋ္ဌာန်းလိုက်သည့် ဥပဒေပါပြဋ္ဌာန်းချက်တစ်ရပ်ရပ်သည် သက်ဆိုင်ရာ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်က ပြဋ္ဌာန်းသည့်ဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်နှင့် ဆန့်ကျင်နေလျှင် သက်ဆိုင်ရာ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်က ပြဋ္ဌာန်းသည့်ဥပဒေပါအတိုင်း လိုက်နာကျင့်သုံးရမည်။

## Chapter V

# Executive

# The Union Government

199. (a) The Executive Head of the Union is the President.

(b) (i) The executive power of the Union is distributed among the Union, Regions and States.

(ii) Self-Administered power is distributed among Self-Administered Areas as prescribed by the Constitution.

**Formation of the Union Government**

200. The Union Government shall comprise the following persons :

(a) The President;

(b) Vice-Presidents;

(c) Ministers of the Union;

(d) The Attorney General of the Union.

**Formation of the National Defence and Security Council**

201. The National Defence and Security Council led by the President, to enable it to discharge the duties assigned by the Constitution or any law, shall be formed with the following persons :

(a) The President;

(b) Vice-President;

(c) Vice-President;

(d) Speaker of the Pyithu Hluttaw;

(e) Speaker of the Amyotha Hluttaw;

(f) Commander-in-Chief of the Defence Services;

(g) Deputy Commander-in-Chief of the Defence Services;

# အခန်း (၅)
# အုပ်ချုပ်ရေး

## ပြည်ထောင်စုအစိုးရအဖွဲ့

၁၉၉။ (က) နိုင်ငံတော်အုပ်ချုပ်ရေးအကြီးအကဲသည် နိုင်ငံတော်သမ္မတဖြစ်သည်၊
(ခ) (၁) နိုင်ငံတော်၏ အုပ်ချုပ်ရေးအာဏာကို ပြည်ထောင်စု တိုင်းဒေသကြီးနှင့် ပြည်နယ်များအား ခွဲဝေအပ်နှင်းသည်၊
(၂) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုများအား ကိုယ်ပိုင်အုပ်ချုပ်ရေးအာဏာကို ဖွဲ့စည်းပုံအခြေခံဥပဒေအရ သတ်မှတ်ပေးသည့်အတိုင်း ခွဲဝေ အပ်နှင်းသည်။

**ပြည်ထောင်စုအစိုးရအဖွဲ့ ဖွဲ့စည်းခြင်း**

၂၀၀။ နိုင်ငံတော်တွင် ပြည်ထောင်စုအစိုးရအဖွဲ့ကို အောက်ဖော်ပြပါပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းသည် -
(က) နိုင်ငံတော်သမ္မတ၊
(ခ) ဒုတိယသမ္မတများ၊
(ဂ) ပြည်ထောင်စုဝန်ကြီးများ၊
(ဃ) ပြည်ထောင်စုရှေ့နေချုပ်။

**အမျိုးသားကာကွယ်ရေးနှင့်လုံခြုံရေးကောင်စီ ဖွဲ့စည်းခြင်း**

၂၀၁။ ဖွဲ့စည်းပုံအခြေခံဥပဒေအရသော်လည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရသော်လည်း ကောင်း ပေးအပ်လာသည့်တာဝန်များကိုထမ်းဆောင်နိုင်ရန် နိုင်ငံတော်သမ္မတ ဦးဆောင်သည့် အမျိုးသားကာကွယ်ရေးနှင့်လုံခြုံရေးကောင်စီကို အောက်ပါပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းသည် -
(က) နိုင်ငံတော်သမ္မတ၊
(ခ) ဒုတိယသမ္မတ၊
(ဂ) ဒုတိယသမ္မတ၊
(ဃ) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၊
(င) အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ၊
(စ) တပ်မတော်ကာကွယ်ရေးဦးစီးချုပ်၊
(ဆ) ဒုတိယတပ်မတော်ကာကွယ်ရေးဦးစီးချုပ်၊

(h) Minister for Defence;

(i) Minister for Foreign Affairs;

(j) Minister for Home Affairs;

(k) Minister for Border Affairs.

**Powers and Functions of the President**

202. The President, with the approval of the Pyidaungsu Hluttaw, may :

(a) designate the Ministries of the Union Government as necessary, and may make changes and additions to the ministries;

(b) designate the number of the Union Ministers as necessary, and may increase or decrease the number.

203. The President shall be responsible to the Pyidaungsu Hluttaw. The Vice-Presidents shall be responsible to the President and also to the Pyidaungsu Hluttaw through the President.

204. The President has :

(a) the power to grant a pardon;

(b) the power to grant amnesty in accord with the recommendation of the National Defence and Security Council.

205. The President may, in accord with the law, have :

(a) the power to confer honorary titles and awards; and

(b) the power to revoke conferred honorary titles and awards.

206. The President may establish or sever diplomatic relations with foreign countries with the approval of the Pyidaungsu Hluttaw. However, in situation which requires immediate action, the President may sever diplomatic relations with any foreign country after

(ဇ) ကာကွယ်ရေးဝန်ကြီးဌာနဝန်ကြီး၊
(ဈ) နိုင်ငံခြားရေးဝန်ကြီးဌာနဝန်ကြီး၊
(ည) ပြည်ထဲရေးဝန်ကြီးဌာနဝန်ကြီး၊
(ဋ) နယ်စပ်ရေးရာဝန်ကြီးဌာနဝန်ကြီး။

## နိုင်ငံတော်သမ္မတ၏ တာဝန် နှင့် လုပ်ပိုင်ခွင့်

၂၀၂။ နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်ဖြင့် -

(က) ပြည်ထောင်စုအစိုးရဝန်ကြီးဌာနများကို လိုအပ်သလို သတ်မှတ်နိုင်သည်။ ထို့ပြင် ဝန်ကြီးဌာနများကို ပြင်ဆင်သတ်မှတ်ခြင်း၊ ဖြည့်စွက်ခြင်း ပြုနိုင်သည်၊

(ခ) ပြည်ထောင်စုဝန်ကြီးဦးရေကို လိုအပ်သလို သတ်မှတ်နိုင်သည်။ ထို့ပြင် သတ်မှတ်ဦးရေကို တိုးခြင်း၊ လျှော့ခြင်း ပြုနိုင်သည်။

၂၀၃။ နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်အား တာဝန်ခံရမည်။ ဒုတိယသမ္မတများသည် နိုင်ငံတော်သမ္မတအားလည်းကောင်း၊ နိုင်ငံတော်သမ္မတမှတစ်ဆင့် ပြည်ထောင်စုလွှတ်တော်အားလည်းကောင်း တာဝန်ခံရမည်။

၂၀၄။ နိုင်ငံတော်သမ္မတသည် -

(က) ပြစ်ဒဏ်လွတ်ငြိမ်းခွင့် ပေးပိုင်ခွင့်ရှိသည်၊

(ခ) အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီ၏ ထောက်ခံချက်နှင့်အညီ လွတ်ငြိမ်းချမ်းသာခွင့် ပေးပိုင်ခွင့်ရှိသည်။

၂၀၅။ နိုင်ငံတော်သမ္မတသည် ဥပဒေနှင့်အညီ -

(က) ဂုဏ်ထူးဆောင်ဘွဲ့များ၊ ဂုဏ်ထူးဆောင်တံဆိပ်များ ချီးမြှင့်အပ်နှင်းခြင်းပြုနိုင်သည်၊

(ခ) ချီးမြှင့်အပ်နှင်းထားသည့် ဂုဏ်ထူးဆောင်ဘွဲ့များ၊ ဂုဏ်ထူးဆောင်တံဆိပ်များကို ပြန်လည်ရုပ်သိမ်းခြင်း ပြုနိုင်သည်။

၂၀၆။ နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်၏သဘောတူညီချက်ဖြင့် နိုင်ငံခြားတိုင်းပြည်များနှင့်သံတမန်ဆက်သွယ်ခြင်း၊ သံတမန်အဆက်အသွယ် ဖြတ်တောက်ခြင်း ပြုနိုင်သည်။ သို့ရာတွင် ချက်ချင်းအရေးယူဆောင်ရွက်ရန် လိုအပ်သည့်အခြေအနေမျိုး၌

coordination with the National Defence and Security Council. The President shall submit that action to the Pyidaungsu Hluttaw for its approval.

207. The President, in accord with the law, may :

(a) appoint and recall the diplomats of its country;

(b) agree on the appointment of foreign diplomats and send information on the recall of diplomats;

(c) accept the letters of accreditation presented by foreign diplomats.

208. The President, in accord with the law, may appoint and dismiss Heads of the Bodies of Civil Services.

209. The President, in accord with the law :

(a) shall enter into, ratify or annul international, regional or bilateral treaties which require the approval of the Pyidaungsu Hluttaw, or revoke from such treaties;

(b) may enter into, ratify or annul international, regional or bilateral treaties which do not require the approval of the Pyidaungsu Hluttaw, or revoke from such treaties.

210. The President shall have the right to occasionally deliver an address or send a message to the session of the Pyidaungsu Hluttaw or the Amyotha Hluttaw, or to the entire country relating to the policies and general situation of the Union.

နိုင်ငံတော်သမ္မတသည် အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီနှင့်ညှိနှိုင်းလျက် နိုင်ငံခြားတိုင်းပြည်တစ်ခုခုနှင့် သံတမန်အဆက်အသွယ် ဖြတ်တောက်နိုင်သည်။ နိုင်ငံတော်သမ္မတသည် မိမိ၏အရေးယူဆောင်ရွက်ချက်ကို ပြည်ထောင်စုလွှတ်တော်သို့ တင်ပြအတည်ပြုချက် ရယူရမည်။

၂၀၇။ နိုင်ငံတော်သမ္မတသည် ဥပဒေနှင့်အညီ -

(က) မိမိနိုင်ငံ၏သံတမန်များကို ခန့်အပ်ခြင်း၊ ပြန်လည်ခေါ်ယူခြင်း ပြုနိုင်သည်၊

(ခ) နိုင်ငံခြားသံတမန်များအား ခန့်အပ်ရန် သဘောတူညီချက်ပေးခြင်း၊ နိုင်ငံခြားသံတမန်များအား ပြန်လည်ခေါ်ယူရန် အကြောင်းကြားခြင်းပြုနိုင်သည်၊

(ဂ) နိုင်ငံခြားသံတမန်များ၏ ခန့်အပ်လွှာများကို လက်ခံခြင်းပြုသည်။

၂၀၈။ နိုင်ငံတော်သမ္မတသည် ဥပဒေနှင့်အညီ ဝန်ထမ်းအဖွဲ့အစည်း အကြီးအမှူးများကို ခန့်အပ်ခြင်း၊ ထုတ်ပယ်ခြင်း ပြုနိုင်သည်။

၂၀၉။ နိုင်ငံတော်သမ္မတသည်ဥပဒေနှင့်အညီ -

(က) ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ရှိသော အပြည်ပြည်ဆိုင်ရာ၊ ဒေသဆိုင်ရာ သို့မဟုတ် နိုင်ငံအချင်းချင်းဆိုင်ရာစာချုပ်များကို ချုပ်ဆိုခြင်း၊ အတည်ပြုဆောင်ရွက်ခြင်း၊ ပယ်ဖျက်ခြင်း၊ စာချုပ်များမှ နုတ်ထွက်ခြင်း ပြုရမည်၊

(ခ) ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ရယူရန်မလိုအပ်ဘဲ ဆောင်ရွက်ခွင့်ရှိသော အပြည်ပြည်ဆိုင်ရာ၊ ဒေသဆိုင်ရာ သို့မဟုတ် နိုင်ငံအချင်းချင်းဆိုင်ရာစာချုပ်များကို ချုပ်ဆိုခြင်း၊ အတည်ပြုဆောင်ရွက်ခြင်း၊ ပယ်ဖျက်ခြင်း၊ စာချုပ်များမှနုတ်ထွက်ခြင်း ပြုနိုင်သည်။

၂၁၀။ နိုင်ငံတော်သမ္မတသည် နိုင်ငံတော်၏မူဝါဒများနှင့် နိုင်ငံတော်၏အခြေအနေအရပ်ရပ်တို့ကို ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတွင်ဖြစ်စေ၊ ပြည်သူ့လွှတ်တော် သို့မဟုတ် အမျိုးသားလွှတ်တော် အစည်းအဝေးတွင်ဖြစ်စေ၊ နိုင်ငံတစ်ဝန်းလုံးသို့ဖြစ်စေ အခါအားလျော်စွာ မိန့်ခွန်းပြောကြားခွင့်၊ သဝဏ်လွှာပေးပို့ခွင့် ရှိသည်။

211. The President may intimate the Speaker of the Pyidaungsu Hluttaw to summon an emergency or special session of the Pyidaungsu Hluttaw, if necessary.

212. (a) Except Union budget matters, the President shall have the right to promulgate an ordinance for administrative matters that need immediate action during the interval between sessions of the Pyidaungsu Hluttaw.

(b) If the President has not revoked the ordinance promulgated under Sub-Section (a), he shall submit the ordinance for approval to the nearest session of the Pyidaungsu Hluttaw within 60 days after the promulgation of the ordinance. If the Pyidaungsu Hluttaw is not in session, the President shall, within 60 days after the promulgation of such ordinance, summon a special session of the Pyidaungsu Hluttaw for approval.

(c) The ordinance shall cease to have effect from the day on which it is not approved by the Pyidaungsu Hluttaw.

(d) The ordinance promulgated by the President, with the approval of the Pyidaungsu Hluttaw, will continue to be in operation for the required period.

(e) Notwithstanding that an ordinance has been already revoked within 60 days after its promulgation, it shall be submitted to the nearest session of the Pyidaungsu Hluttaw.

(f) If an ordinance contains the provision to which the Pyidaungsu Hluttaw has no right to make a resolution in accord with the Constitution, the said provision shall cease to have effect.

၂၁၁။ နိုင်ငံတော်သမ္မတသည် လိုအပ်လျှင် ပြည်ထောင်စုလွှတ်တော် အရေးပေါ် အစည်းအဝေးကိုဖြစ်စေ၊ အထူးအစည်းအဝေးကိုဖြစ်စေ ခေါ်ယူကျင်းပပေးရန် ပြည်ထောင်စုလွှတ်တော်နာယကအား အကြောင်းကြားနိုင်သည်။

၂၁၂။ (က) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးတစ်ခုနှင့်တစ်ခုအကြား နိုင်ငံတော်၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ကိစ္စရပ်များမှအပ ချက်ချင်းအရေးယူဆောင်ရွက်ရန် လိုအပ်သော အုပ်ချုပ်ရေးဆိုင်ရာကိစ္စရပ်များအတွက် ဥပဒေကဲ့သို့ အာဏာတည်သောအမိန့်ကို ထုတ်ပြန်ခွင့်ရှိသည်၊

(ခ) နိုင်ငံတော်သမ္မတသည် ပုဒ်မခွဲ (က) အရ ထုတ်ပြန်ခဲ့သည့် ဥပဒေကဲ့သို့ အာဏာတည်သောအမိန့်ကို ရုပ်သိမ်းခြင်းမရှိလျှင် ယင်းအမိန့် ထုတ်ပြန်သည့်နေ့ရက်မှ ရက်ပေါင်း ၆၀ အတွင်း ကျင်းပသောအနီးကပ်ဆုံး ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့တင်ပြ၍ အတည်ပြုချက်ရယူရမည်။ ရက်ပေါင်း ၆၀ အတွင်း ပြည်ထောင်စုလွှတ်တော် အစည်းအဝေးကျင်းပရန်မရှိလျှင် ပြည်ထောင်စုလွှတ်တော်အထူးအစည်းအဝေးကို ခေါ်ယူကျင်းပစေ၍ အတည်ပြုချက် ရယူရမည်၊

(ဂ) ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်မရရှိလျှင် ဥပဒေကဲ့သို့ အာဏာတည်သောအမိန့်သည် အတည်မပြုသည့်နေ့မှစ၍ အာဏာတည်ခြင်းမှ ရပ်စဲရမည်၊

(ဃ) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်ဖြင့် ထိုဥပဒေကဲ့သို့ အာဏာတည်သောအမိန့်ကို လိုအပ်သောကာလအပိုင်းအခြားအထိ ဆက်လက်အတည်ဖြစ်စေနိုင်သည်၊

(င) ဥပဒေကဲ့သို့ အာဏာတည်သောအမိန့် ထုတ်ပြန်ကြေညာသည့်နေ့မှစ၍ ရက်ပေါင်း ၆၀ အတွင်းရုပ်သိမ်းပြီး ဖြစ်စေကာမူ ထိုဥပဒေကဲ့သို့ အာဏာတည်သောအမိန့်ကို အနီးကပ်ဆုံးကျင်းပမည့် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးသို့တင်ပြရမည်၊

(စ) ဥပဒေကဲ့သို့ အာဏာတည်သောအမိန့်တွင် ဖွဲ့စည်းပုံအခြေခံဥပဒေအရ ပြည်ထောင်စုလွှတ်တော်က ဆုံးဖြတ်ပိုင်ခွင့်မရှိသော ပြဋ္ဌာန်းချက်ပါရှိလျှင် ယင်းပြဋ္ဌာန်းချက်သည် ပျက်ပြယ်ရမည်။

213. The President :

(a) shall have the right to take appropriate military action, in co-ordination with the National Defence and Security Council formed in accord with the Constitution, in case of aggression against the Union;

(b) shall submit the action so taken to the Pyidaungsu Hluttaw for approval if it is in session, or to summon an emergency session to submit that matter for approval if the Pyidaungsu Hluttaw is not in session;

(c) may declare war or make peace only with the assent of the Pyidaungsu Hluttaw.

214. The President shall take action in accord with the provisions of the Constitution and sign the laws passed and enacted by the Pyidaungsu Hluttaw. The said signed laws shall be promulgated in the Official Gazette.

215. The President shall not be answerable to either any Hluttaw or to any Court for the exercise of the powers and functions of his office or for any act done or purported to be done by him in the exercise of these powers and functions in accord with the Constitution or any law. However, the exemption does not deal with the provisions relating to impeachment of the President under the Constitution.

**The Executive Power of the Union Government**

216. Subject to the provisions of the Constitution, the executive power of the Union extends to administrative matters over which the Pyidaungsu Hluttaw has power to make laws.

၂၁၃။ နိုင်ငံတော်သမ္မတသည် -

(က) နိုင်ငံတော်အား ကျူးကျော်တိုက်ခိုက်ခြင်းခံရလျှင် ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ ဖွဲ့စည်းထားသော အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီနှင့် ညှိနှိုင်းလျက် စစ်ရေးအရလိုအပ်သလို ဆောင်ရွက်ပိုင်ခွင့်ရှိသည်၊

(ခ) မိမိ၏ဆောင်ရွက်ချက်ကို ပြည်ထောင်စုလွှတ်တော်အစည်းအဝေး ကျင်းပနေချိန်ဖြစ်လျှင် ယင်းအစည်းအဝေးသို့တင်ပြ၍ အတည်ပြုချက်ရယူရမည်။ ပြည်ထောင်စုလွှတ်တော်အစည်းအဝေး ကျင်းပနေချိန် မဟုတ်လျှင် ပြည်ထောင်စုလွှတ်တော် အရေးပေါ်အစည်းအဝေး ခေါ်ယူစေ၍ တင်ပြ အတည်ပြုချက် ရယူရမည်၊

(ဂ) ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်ဖြင့်သာ စစ်ကြေညာနိုင်သည်၊ စစ်ပြေငြိမ်းနိုင်သည်။

၂၁၄။ နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်က အတည်ပြုပြဋ္ဌာန်းသည့် ဥပဒေများကို ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ အရေးယူဆောင်ရွက်ပြီး လက်မှတ်ရေးထိုးရမည်။ ယင်းသို့ လက်မှတ်ရေးထိုးပြီးသောဥပဒေများကို နိုင်ငံတော်ပြန်တမ်းတွင် ထုတ်ပြန်ကြေညာရမည်။

၂၁၅။ နိုင်ငံတော်သမ္မတသည် ဖွဲ့စည်းပုံအခြေခံဥပဒေအရသော်လည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရသော်လည်းကောင်း မိမိအားအပ်နှင်းထားသည့် တာဝန်နှင့်လုပ်ပိုင်ခွင့်များကို ကျင့်သုံးဆောင်ရွက်မှု သို့တည်းမဟုတ် ကျင့်သုံးဆောင်ရွက်သည့်အနေဖြင့် ပြုခဲ့သောပြုလုပ်မှုအတွက် မည်သည့်လွှတ်တော်၊ မည်သည့်တရားရုံးတွင်မျှ ဖြေရှင်းရန် တာဝန်မရှိစေရ။ သို့ရာတွင် ဤကဲ့သို့တာဝန်မရှိစေခြင်းသည် နိုင်ငံတော်သမ္မတအား ဖွဲ့စည်းပုံအခြေခံဥပဒေပါ စွပ်စွဲပြစ်တင်ခြင်းနှင့် စပ်လျဉ်းသည့် ပြဋ္ဌာန်းချက်များနှင့် သက်ဆိုင်ခြင်းမရှိစေရ။

## ပြည်ထောင်စုအစိုးရ၏အုပ်ချုပ်မှုအခွင့်အာဏာ

၂၁၆။ ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်လျှင် ပြည်ထောင်စု၏ အုပ်ချုပ်မှုအာဏာသည် ပြည်ထောင်စုလွှတ်တော်က ဥပဒေပြုနိုင်သော အုပ်ချုပ်မှုဆိုင်ရာ ကိစ္စရပ်များသို့လည်း သက်ရောက်ပျံ့နှံ့သည်။

217. Subject to the provisions of the Constitution, the executive power of the Union shall be vested in the President. Nothing in this Section shall prevent the Pyidaungsu Hluttaw from conferring functions and powers upon any authoritative body or person, or be deemed to transfer to the President functions and powers vested in any administrative body or person concerned under the existing laws.

218. (a) All executive actions of the Union Government shall be taken as action in the name of the President.

(b) The President shall, except in matters conferred on him by the Constitution to perform in his own discretion, have the right to issue necessary rules on matters to be performed by the Union Government, on allocation of the said matters to the Ministries of the Union Government, and on allocation to the person responsible to act under any law.

(c) Orders and instruments executed in the name of the President shall be in accord with the manners of the prescribed rules issued by the President. Moreover, the validity of such order or instruments shall not be called in question on the ground that it was not done by the President.

(d) The President may, without prejudice to the generality of the provisions of Sub-Sections (a), (b) and (c) of this Section, allocate his duties regionally or according to the functions of the Government department.

219. The Union Government preserves stability of the Union, community peace and tranquility and prevalence of law and order.

၂၁၇။ ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ပြည်ထောင်စု၏ အုပ်ချုပ်မှုအာဏာသည် နိုင်ငံတော်သမ္မတ၌တည်ရှိသည်။ ဤစကားရပ်ကြောင့် ပြည်ထောင်စုလွှတ်တော်သည် အာဏာပိုင်အဖွဲ့အစည်းတစ်ရပ်ရပ်အားလည်းကောင်း၊ အာဏာပိုင်ပုဂ္ဂိုလ်တစ်ဦးဦးအားလည်းကောင်း တာဝန်နှင့်လုပ်ပိုင်ခွင့်များ ပေးအပ်ခြင်းမပြုနိုင်ဟု မမှတ်ယူရ။ ထို့ပြင် ယင်းစကားရပ်ကြောင့် တည်ဆဲဥပဒေများအရ သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းတစ်ရပ်ရပ်အားဖြစ်စေ၊ သက်ဆိုင်ရာအာဏာပိုင်ပုဂ္ဂိုလ်တစ်ဦးဦးအားဖြစ်စေ အပ်နှင်းထားသည့် တာဝန်နှင့် လုပ်ပိုင်ခွင့်များကို နိုင်ငံတော်သမ္မတအား လွှဲပြောင်းပေးအပ်သည်ဟုလည်း မမှတ်ယူရ။

၂၁၈။ (က) ပြည်ထောင်စုအစိုးရ၏ အုပ်ချုပ်ရေးဆိုင်ရာ အရေးယူဆောင်ရွက်ချက်အားလုံးကို နိုင်ငံတော်သမ္မတ၏အမည်ဖြင့် အရေးယူဆောင်ရွက်ရမည်၊

(ခ) နိုင်ငံတော်သမ္မတသည် မိမိ၏သဘောအတိုင်းဆောင်ရွက်ရန် ဖွဲ့စည်းပုံအခြေခံဥပဒေကပြဋ္ဌာန်းထားသည့် ကိစ္စရပ်များမှအပ ပြည်ထောင်စုအစိုးရက ဆောင်ရွက်ခွင့်ရှိသော ကိစ္စရပ်များအတွက် လည်းကောင်း၊ အဆိုပါကိစ္စရပ်များကို ပြည်ထောင်စုအစိုးရဝန်ကြီးများအား ခွဲဝေအပ်နှင်းရန်လည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရဆောင်ရွက်ရန် တာဝန်ရှိသောပုဂ္ဂိုလ်အား ခွဲဝေအပ်နှင်းရန်လည်းကောင်း လိုအပ်သည့်နည်းဥပဒေများ ပြဋ္ဌာန်းခွင့်ရှိသည်၊

(ဂ) နိုင်ငံတော်သမ္မတ၏အမည်ဖြင့် ထုတ်ပြန်သောအမိန့်များနှင့်ချုပ်ဆိုသော စာချုပ်စာတမ်းများသည် နိုင်ငံတော်သမ္မတက ပြဋ္ဌာန်းသည့်နည်းဥပဒေများတွင် ဖော်ပြထားသော နည်းလမ်းများနှင့်အညီ ဖြစ်စေရမည်။ ထို့ပြင် ထိုသို့ဆောင်ရွက်ထားသည့်အမိန့် သို့မဟုတ် စာချုပ်စာတမ်းများသည် နိုင်ငံတော်သမ္မတ၏အမိန့် သို့မဟုတ် စာချုပ်စာတမ်း မဟုတ်သောကြောင့် မခိုင်လုံဟု ငြင်းဆိုပိုင်ခွင့်မရှိစေရ၊

(ဃ) နိုင်ငံတော်သမ္မတသည် ပုဒ်မခွဲ (က)၊ (ခ) နှင့် (ဂ) ရှိ ပြဋ္ဌာန်းချက်များ၏ ယေဘုယျသဘောကိုမထိခိုက်စေဘဲ မိမိ၏တာဝန်ဝတ္တရားများကို နယ်မြေဒေသအလိုက်ဖြစ်စေ၊ အစိုးရဌာနဆိုင်ရာ လုပ်ငန်းအလိုက်ဖြစ်စေ ခွဲဝေအပ်နှင်းနိုင်သည်။

၂၁၉။ ပြည်ထောင်စုအစိုးရသည် နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေးကို ထိန်းသိမ်းစောင့်ရှောက်သည်။

220. The Union Government shall promulgate its policies in accord with the provisions of the Constitution. The necessary projects have to be drawn in accord with the said policies and shall be implemented with the approval of the Pyidaungsu Hluttaw.

221. The Union Government shall draft the Union Budget Bill based on the annual Union budget, after coordinating with the Financial Commission, and submit it for approval to the Pyidaungsu Hluttaw in accord with the provisions of the Constitution.

222. The Union Government shall, if the Pyidaungsu Hluttaw is unable to promulgate the Union Budget Bill before the end of the Budget Year, expend within the framework of the general expenditure included in the last-enacted Budget Law of the Pyidaungsu Hluttaw.

223. The Union Government may, relating to the matters which may be enacted into law by the Pyidaungsu Hluttaw in accord with the provisions of the Constitution, submit the Bill to the Pyidaungsu Hluttaw.

224. The Ministries of the Union Government shall, in carrying out the functions of their subordinate governmental departments and organizations, manage, guide, supervise and inspect in accord with the provisions of the Constitution and the existing laws.

225. In carrying out functions of the Region Government, the State Government, and the Leading Bodies of Self-Administered Division and Self-Administered Zone, the Union Government co-operates and co-ordinates with them to be effective and successful.

၂၂၀။ ပြည်ထောင်စုအစိုးရသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စုအစိုးရ၏ မူဝါဒများကိုချမှတ်ရမည်။ ယင်းမူဝါဒများနှင့်အညီ လိုအပ်သော စီမံကိန်းများကိုရေးဆွဲ၍ ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်ဖြင့် အကောင် အထည်ဖော် ဆောင်ရွက်ရမည်။

၂၂၁။ ပြည်ထောင်စုအစိုးရသည် ဘဏ္ဍာရေးကော်မရှင်နှင့်ညှိနှိုင်းရရှိသည့် ပြည်ထောင်စု၏ နှစ်စဉ် အရအသုံးခန့်မှန်းခြေငွေစာရင်းကိုအခြေပြုလျက် ပြည်ထောင်စု၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ဥပဒေကြမ်းကိုရေးဆွဲ၍ ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် အညီ ပြည်ထောင်စုလွှတ်တော်သို့ တင်သွင်းအတည်ပြုချက်ရယူရမည်။

၂၂၂။ ပြည်ထောင်စုအစိုးရသည် မိမိတင်သွင်းသည့် ပြည်ထောင်စု၏ဘဏ္ဍာငွေ အရအသုံး ဆိုင်ရာဥပဒေကြမ်းကို ဘဏ္ဍာရေးနှစ်မကုန်ဆုံးမီ ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းခြင်းမပြု နိုင်လျှင် ပြည်ထောင်စုလွှတ်တော်က နောက်ဆုံးပြဋ္ဌာန်းထားသည့် ပြည်ထောင်စု၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာဥပဒေပါ သာမန်အသုံးစရိတ် ခွင့်ပြုချက်ဘောင်အတွင်း သုံးစွဲခွင့်ရှိသည်။

၂၂၃။ ပြည်ထောင်စုအစိုးရသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စုလွှတ်တော်က ဥပဒေပြုနိုင်သော ကိစ္စရပ်များနှင့်စပ်လျဉ်း၍ လိုအပ်သည့် ဥပဒေကြမ်းကို ပြည်ထောင်စုလွှတ်တော်သို့ တင်သွင်းနိုင်သည်။

၂၂၄။ ပြည်ထောင်စုအစိုးရအဖွဲ့၏ ဝန်ကြီးဌာနများသည် ယင်းတို့၏လက်အောက်ရှိ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများက လုပ်ငန်းတာဝန်များကို ဆောင်ရွက်ကြရာတွင် ဖွဲ့စည်းပုံ အခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် အညီဖြစ်စေရန်လည်းကောင်း၊ တည်ဆဲဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် အညီဖြစ်စေရန်လည်းကောင်း စီမံခန့်ခွဲခြင်း၊ လမ်းညွှန်ခြင်း၊ ကြီးကြပ်ခြင်း၊ စစ်ဆေးခြင်း ပြုရမည်။

၂၂၅။ ပြည်ထောင်စုအစိုးရသည် တိုင်းဒေသကြီးအစိုးရ သို့မဟုတ် ပြည်နယ်အစိုးရတို့က လည်းကောင်း၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဦးစီးအဖွဲ့တို့ကလည်းကောင်း လုပ်ငန်းများကိုအကောင်အထည်ဖော်ဆောင်ရွက်ကြရာတွင် ထိရောက်အောင်မြင်မှုရှိစေရေးအတွက် ပေါင်းစပ်ညှိနှိုင်းပေးသည်။

226. The Union Government, with the exception of Constitutional disputes and the disputes over territorial re-delineation shall :

(a) mediate and if necessary, decide, on disputes over administration between the Region and State, among Regions, among States, between Region or State and Self-Administered Area, among Self-Administered Areas; and

(b) mediate and if necessary, decide, on disputes over administration between the Region or State and Union territory, between Self-Administered Area and Union territory.

227. The Union Government, in accord with the law :

(a) may form Civil Services organizations relating to the Union as necessary. In so forming, the functions and powers shall be prescribed;

(b) may appoint the required civil service personnel.

228. The Union Government shall :

(a) implement the administrative resolutions passed occasionally by the Pyidaungsu Hluttaw and report back the actions which have been taken to the Pyidaungsu Hluttaw;

(b) submit occasionally matters relating to the general situation of the Union to the Pyidaungsu Hluttaw.

**Formation of the Financial Commission**

229. (a) The Financial Commission shall be formed with the following persons:

| | | |
|---|---|---|
| (i) | The President | Chairperson |
| (ii) | Vice-Presidents | Vice-Chairpersons |
| (iii) | The Attorney-General of the Union | Member |

၂၂၆။ ပြည်ထောင်စုအစိုးရသည် ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ အငြင်းပွားမှုများနှင့် နယ်နိမိတ်ပြင်ဆင်သတ်မှတ်ရေးဆိုင်ရာ အငြင်းပွားမှုများမှအပ -

(က) တိုင်းဒေသကြီးနှင့်ပြည်နယ်အကြား၊ တိုင်းဒေသကြီးအချင်းချင်း၊ ပြည်နယ်အချင်းချင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုအကြား၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စု အချင်းချင်းဖြစ်ပွားသည့် အုပ်ချုပ်မှုဆိုင်ရာ အငြင်းပွားမှုများနှင့်စပ်လျဉ်း၍ ပေါင်းစပ်ညှိနှိုင်းဖြေရှင်းပေးခြင်း၊ လိုအပ်လျှင် အဆုံးအဖြတ်ပေးခြင်းပြုသည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ပြည်ထောင်စုနယ်မြေအကြား၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုနှင့် ပြည်ထောင်စုနယ်မြေအကြား ဖြစ်ပွားသည့် အုပ်ချုပ်ရေးဆိုင်ရာ အငြင်းပွားမှုများနှင့်စပ်လျဉ်း၍ ပေါင်းစပ်ညှိနှိုင်းဖြေရှင်းပေးခြင်း၊ လိုအပ်လျှင်အဆုံးအဖြတ်ပေးခြင်းပြုသည်။

၂၂၇။ ပြည်ထောင်စုအစိုးရသည် ဥပဒေနှင့်အညီ -

(က) ပြည်ထောင်စုဆိုင်ရာ ဝန်ထမ်းအဖွဲ့အစည်းများကို လိုအပ်သလို ဖွဲ့စည်းနိုင်သည်။ ယင်းသို့ဖွဲ့စည်းရာတွင် လုပ်ငန်းတာဝန်နှင့် လုပ်ပိုင်ခွင့်များကို သတ်မှတ်ပေးရမည်၊

(ခ) လိုအပ်သောဝန်ထမ်းများကို ခန့်အပ်နိုင်သည်။

၂၂၈။ ပြည်ထောင်စုအစိုးရသည် -

(က) ပြည်ထောင်စုလွှတ်တော်က အခါအားလျော်စွာ ချမှတ်သည့်အုပ်ချုပ်ရေးဆိုင်ရာ ဆုံးဖြတ်ချက်များကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်။ မိမိ၏ အရေးယူဆောင်ရွက်ချက်များကို ပြည်ထောင်စုလွှတ်တော်သို့ ပြန်လည်အစီရင်ခံရမည်၊

(ခ) နိုင်ငံတော်၏ အခြေအနေအရပ်ရပ်နှင့်စပ်လျဉ်း၍ ပြည်ထောင်စုလွှတ်တော်သို့ အခါအားလျော်စွာ တင်ပြရမည်။

## ဘဏ္ဍာရေးကော်မရှင်ဖွဲ့စည်းခြင်း

၂၂၉။ (က) ဘဏ္ဍာရေးကော်မရှင်ကို အောက်ပါပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းရမည် -

(၁) နိုင်ငံတော်သမ္မတ - ဥက္ကဋ္ဌ

(၂) ဒုတိယသမ္မတများ - ဒုတိယဥက္ကဋ္ဌများ

(၃) ပြည်ထောင်စုရှေ့နေချုပ် - အဖွဲ့ဝင်

(iv) The Auditor-General of the Union — Member

(v) Chief Ministers of the Regions and States — Members

(vi) The Nay Pyi Taw Council Chairperson — Member

(vii) The Minister of Finance of the Union — Secretary

(b) (i) In forming the Financial Commission, the President may appoint a suitable person as a temporary member if there is vacancy for any reason.

(ii) The President shall promulgate the formation of the Financial Commission. Moreover, necessary orders or directives, so forth, for the Financial Commission may be promulgated either by the President or the person assigned by him.

**Duties and Functions of the Financial Commission**

230. (a) The budgets of the Union Ministries and Union level organizations are to be vetted by a Vice-President assigned by the President, and the estimated budgets of the Union level organizations including the Union Ministries are to be submitted to the Financial Commission.

(b) The budgets of the Region or State are to be vetted by the other Vice-President assigned by the President, and the estimated budgets of the Region or State are to be submitted to the Financial Commission.

(၄) ပြည်ထောင်စုစာရင်းစစ်ချုပ် - အဖွဲ့ဝင်

(၅) တိုင်းဒေသကြီးဝန်ကြီးချုပ်များနှင့် ပြည်နယ်ဝန်ကြီးချုပ်များ - အဖွဲ့ဝင်များ

(၆) နေပြည်တော်ကောင်စီဥက္ကဋ္ဌ - အဖွဲ့ဝင်

(၇) ပြည်ထောင်စုဘဏ္ဍာရေးဝန်ကြီး - အတွင်းရေးမှူး

(ခ) (၁) ဘဏ္ဍာရေးကော်မရှင်ကို ဖွဲ့စည်းသည့်အခါ အဖွဲ့ဝင်အဖြစ် ထမ်းဆောင်ရမည့်ရာထူးနေရာတွင် အကြောင်းတစ်စုံတစ်ရာကြောင့် တာဝန်ပေးအပ်ခြင်းခံရသူ မရှိသေးပါက နိုင်ငံတော်သမ္မတသည် ထိုနေရာအတွက် သင့်လျော်သည့်ပုဂ္ဂိုလ်တစ်ဦးဦးအား ယာယီအဖွဲ့ဝင် အဖြစ် တာဝန်ပေးအပ်နိုင်သည်၊

(၂) ဘဏ္ဍာရေးကော်မရှင်ဖွဲ့စည်းခြင်းကို နိုင်ငံတော်သမ္မတက ထုတ်ပြန် ကြေညာရမည်။ ထို့ပြင် ဘဏ္ဍာရေးကော်မရှင်အတွက် လိုအပ်သော အမိန့် ညွှန်ကြားချက် စသည်များကိုလည်း နိုင်ငံတော်သမ္မတ သို့မဟုတ် နိုင်ငံတော်သမ္မတက တာဝန်ပေးအပ်သည့် ပုဂ္ဂိုလ်က ထုတ်ပြန် ကြေညာနိုင်သည်။

**ဘဏ္ဍာရေးကော်မရှင်၏ တာဝန်နှင့် လုပ်ပိုင်ခွင့်**

၂၃၀။ (က) ပြည်ထောင်စုဝန်ကြီးဌာနများ၏ အရအသုံးခန့်မှန်းခြေ ငွေစာရင်းများနှင့် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းများ၏ အရအသုံးခန့်မှန်းခြေ ငွေစာရင်းများကို နိုင်ငံတော်သမ္မတက တာဝန်ပေးအပ်သော ဒုတိယသမ္မတတစ်ဦးက ဦးဆောင် စိစစ်၍ ပြည်ထောင်စုဝန်ကြီးဌာနများ အပါအဝင် ပြည်ထောင်စု အဆင့် အဖွဲ့အစည်းများ၏ အရအသုံးငွေစာရင်း လျာထားချက်ကို ဘဏ္ဍာရေး ကော်မရှင်သို့ တင်ပြရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အရအသုံးငွေစာရင်းများကို နိုင်ငံတော် သမ္မတက တာဝန်ပေးအပ်သော ကျန်ဒုတိယသမ္မတတစ်ဦးက ဦးဆောင်စိစစ်ပြီး တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အရအသုံးငွေစာရင်း လျာထားချက်ကို ဘဏ္ဍာရေးကော်မရှင်သို့ တင်ပြရမည်၊

(c) The Financial Commission shall :

(i) submit to the Pyidaungsu Hluttaw with recommendation for the Union Budget which includes the expenditure of the Union territory, a supplementary finance as suitable to the Regions or States from the Union Fund, giving grants as a special matter and permitting loans;

(ii) to advise financial matters that should be undertaken;

(iii) carry out the duties assigned by the Pyidaungsu Hluttaw through the promulgation of law for the emergence of a substantial financial system.

(d) The Financial Commission shall submit with recommendation to the President, the Bill of Union Budget, which includes Union Budget, the distribution of suitable funds from Union Fund accounts to Regions or States, the provisions or funds as a special case and disbursing of necessary loans for submission them to the Pyidaungsu Hluttaw.

(e) The Financial Commission may, if necessary, seek advice from financial experts.

(ဂ) ဘဏ္ဍာရေးကော်မရှင်သည် -

(၁) ပြည်ထောင်စုနယ်မြေ အသုံးစရိတ်များပါရှိသော ပြည်ထောင်စု၏ အရအသုံး ခန့်မှန်းခြေငွေစာရင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များအတွက် ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေမှ ဘဏ္ဍာငွေများကို သင့်လျော်သလို ဖြည့်ဆည်းပေးခြင်း၊ အထူးကိစ္စတစ်ရပ်အနေဖြင့် ထောက်ပံ့ခြင်း၊ ချေးငွေများ ခွင့်ပြုခြင်းအပါအဝင် ပြည်ထောင်စု၏ ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ဥပဒေကြမ်း သို့မဟုတ် နောက်ထပ်ဘဏ္ဍာငွေခွဲဝေသုံးစွဲရေး ဥပဒေကြမ်းကို ပြည်ထောင်စု လွှတ်တော်သို့ ထောက်ခံတင်ပြရမည်၊

(၂) ဘဏ္ဍာရေးဆိုင်ရာ ဆောင်ရွက်သင့်သည့်ကိစ္စများကို အကြံပြုနိုင်ရေးအတွက် ဆောင်ရွက်ရမည်၊

(၃) ခိုင်မာသောဘဏ္ဍာရေးစနစ် ဖြစ်ပေါ်စေရေးအတွက် ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်း၍ တာဝန်ပေးအပ်သည့် ကိစ္စရပ်များကို ဆောင်ရွက်ရမည်။

(ဃ) ဘဏ္ဍာရေးကော်မရှင်သည် ပြည်ထောင်စု၏ အရအသုံးခန့်မှန်းခြေငွေစာရင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များအား ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေမှ ဘဏ္ဍာငွေများကို သင့်တင့်လျောက်ပတ်စွာဖြည့်ဆည်းပေးခြင်း၊ အထူးကိစ္စတစ်ရပ်အနေဖြင့် ထောက်ပံ့ခြင်း၊ လိုအပ်မည့်ချေးငွေများ ထုတ်ချေးခြင်းတို့ပါဝင်သည့် ပြည်ထောင်စု၏ဘဏ္ဍာငွေအရအသုံးဆိုင်ရာ ဥပဒေကြမ်းကို ပြည်ထောင်စုလွှတ်တော်သို့ တင်ပြနိုင်ရေးအတွက် နိုင်ငံတော်သမ္မတထံသို့ ထောက်ခံတင်ပြရမည်၊

(င) ဘဏ္ဍာရေးကော်မရှင်သည် လိုအပ်ပါက ဘဏ္ဍာရေးကျွမ်းကျင်သူများ၏ အကြံဉာဏ်များကို ရယူနိုင်သည်။

**Taxes and revenues to be paid to the Union Fund**

231. (a) The Union shall, with the exception of the taxes and revenues listed in Schedule Five to be collected by Regions or States, collect all other taxes and revenues in accord with the law and deposit them in the Union Fund.

(b) If it is necessary to collect designated receipts or incomes and taxes and revenues to be collected by the Regions or States for the Union territories, the Union shall collect them in accord with the law and deposit them in the Union Fund.

(c) The Union has the right to expend the Union Fund in accord with the law.

## The Union Ministers and the Deputy Ministers

**Appointment of the Union Ministers**

232. (a) The President shall appoint the Union Ministers who possess the following qualifications :

(i) person who has attained the age of 40 years;

(ii) person who has qualifications, with the exception of age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

(iii) person whose qualifications does not breach the provisions under Section 121 which disqualify the person from standing for election as the Pyithu Hluttaw representative;

(iv) person loyal to the Union and its citizens.

(b) In order to appoint the Union Ministers, the President shall :

(i) select suitable persons who have qualifications prescribed in Sub-Section (a) from among the Hluttaw representatives or persons who are not Hluttaw representatives;

**ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေသို့ ပေးသွင်းရမည့်အခွန်အခများ**

၂၃၁။ (က) ပြည်ထောင်စုသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များကကောက်ခံခွင့်ရှိသော ဇယား ၅ ပါ အခွန်အခများမှအပ အခြားအခွန်အခများကို ဥပဒေနှင့်အညီကောက်ခံ၍ ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေသို့ ပေးသွင်းရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များက ကောက်ခံရန်သတ်မှတ်ထားသည့် ရငွေများနှင့် အခွန်အခအမျိုးအစားများကို ပြည်ထောင်စုနယ်မြေများအတွက် ကောက်ခံရန်ရှိပါက ပြည်ထောင်စုက ဥပဒေနှင့်အညီကောက်ခံပြီး ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေသို့ ပေးသွင်းရမည်၊

(ဂ) ပြည်ထောင်စုသည် ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေကို ဥပဒေနှင့်အညီ သုံးစွဲခွင့်ရှိသည်။

## ပြည်ထောင်စုဝန်ကြီးများနှင့် ဒုတိယဝန်ကြီးများ

**ပြည်ထောင်စုဝန်ကြီးများ ခန့်အပ်တာဝန်ပေးခြင်း**

၂၃၂။ (က) နိုင်ငံတော်သမ္မတသည် အောက်ဖော်ပြပါ အရည်အချင်းများနှင့်ပြည့်စုံသူများကို ပြည်ထောင်စုဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးနိုင်သည် -

(၁) အသက် ၄၀ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင်ဖော်ပြထားသည့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးရန် -

(၁) လွှတ်တော်ကိုယ်စားလှယ်များထဲက ဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲကဖြစ်စေ ပုဒ်မခွဲ (က) ပါ သတ်မှတ်ထားသည့် အရည်အချင်းများနှင့်ပြည့်စုံသော သင့်လျော်သည့် ပုဂ္ဂိုလ်များကို ရွေးချယ်ရမည်၊

(ii) obtain a list of suitable Defence Services personnel nominated by the Commander-in-Chief of the Defence Services for Ministries of Defence, Home Affairs and Border Affairs;

(iii) co-ordinate with the Commander-in-Chief of the Defence Services if he desires to appoint the Defence Services personnel as Union Ministers for other Ministries apart from Ministries of Defence, Home Affairs and Border Affairs.

(c) The President shall compile the list of persons selected by him and the list of the Defence Services personnel nominated by the Commander-in-Chief of the Defence Services and submit them to the Pyidaungsu Hluttaw for its approval.

(d) The appointment of a person as a Union Minister nominated by the President shall not be refused by the Pyidaungsu Hluttaw unless it can clearly be proved that the person concerned does not meet the qualifications of the Union Minister.

(e) The President has the right to submit again the list with a new name replacing the one who has not been approved by the Pyidaungsu Hluttaw for the appointment of a Union Minister .

(f) The President shall appoint the persons who have been approved by the Pyidaungsu Hluttaw as Union Ministers. In doing so, the President shall designate Ministry or Ministries for each Union Minister to take responsibility.

(g) The President shall intimate the Pyidaungsu Hluttaw whenever he appoints Union Ministers.

(h) The Union Ministers shall be responsible to the President.

(i) If the Union Minister is a representative of a Hluttaw, it shall be deemed that he has resigned from the day he is appointed as a Union Minister.

(၂) ကာကွယ်ရေးဝန်ကြီးဌာန၊ ပြည်ထဲရေးဝန်ကြီးဌာနနှင့် နယ်စပ်ရေးရာဝန်ကြီးဌာနများအတွက် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ထံမှ သင့်လျော်သည့် တပ်မတော်သားများ၏အမည်စာရင်းကို ရယူရမည်၊

(၃) ကာကွယ်ရေးဝန်ကြီးဌာန၊ ပြည်ထဲရေးဝန်ကြီးဌာနနှင့် နယ်စပ်ရေးရာဝန်ကြီးဌာနများအပြင် အခြားဝန်ကြီးဌာနများတွင် တပ်မတော်သားများအား ပြည်ထောင်စုဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးလိုလျှင် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဂ) နိုင်ငံတော်သမ္မတသည် မိမိရွေးချယ်ထားသည့် ပုဂ္ဂိုလ်များ၏ အမည်စာရင်းနှင့် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ထံမှရရှိသည့် တပ်မတော်သားများ၏ အမည်စာရင်းတို့ကိုစုစည်း၍ ပြည်ထောင်စုလွှတ်တော်သို့ တင်သွင်းလျက် သဘောတူညီချက် ရယူရမည်၊

(ဃ) ပြည်ထောင်စုဝန်ကြီး၏ အရည်အချင်းများနှင့်မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက ပြည်ထောင်စုလွှတ်တော်သည် နိုင်ငံတော်သမ္မတက အမည်စာရင်းတင်သွင်းသည့်ပုဂ္ဂိုလ်အား ပြည်ထောင်စုဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့်မရှိစေရ၊

(င) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးရန် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်မရရှိသည့် ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို ပြည်ထောင်စုလွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(စ) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်ရရှိပြီးသည့်ပုဂ္ဂိုလ်များအား ပြည်ထောင်စုဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးရမည်။ ထိုသို့ခန့်အပ်တာဝန်ပေးရာတွင် နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုဝန်ကြီးတစ်ဦးချင်းအလိုက် တာဝန်ယူရမည့် ဝန်ကြီးဌာန သို့မဟုတ် ဝန်ကြီးဌာနများကို သတ်မှတ်ပေးရမည်၊

(ဆ) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုဝန်ကြီးများ ခန့်အပ်တာဝန်ပေးသည့်အခါတိုင်း ပြည်ထောင်စုလွှတ်တော်သို့ အကြောင်းကြားရမည်၊

(ဇ) ပြည်ထောင်စုဝန်ကြီးများသည် နိုင်ငံတော်သမ္မတအား တာဝန်ခံရမည်၊

(ဈ) ပြည်ထောင်စုဝန်ကြီးသည် လွှတ်တော်တစ်ရပ်ရပ်၏ကိုယ်စားလှယ်ဖြစ်လျှင် ပြည်ထောင်စုဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ လွှတ်တော်ကိုယ်စားလှယ်အဖြစ်မှ နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(j) (i) If the Union Minister is a Civil Services personnel, it shall be deemed that he has retired according to the existing civil service rules and regulations from the day he is appointed as a Union Minister.

(ii) The Defence Services personnel who are appointed as Union Ministers for the Ministries of Defence, Home Affairs and Border Affairs are not required to retire or resign from the Defence Services.

(k) If the Union Minister is a member of any political party, he shall not take part in its party activities during the term of office from the day he is appointed as a Union Minister.

**Impeachment of the Union Minister**

233. (a) Any Union Minister may be impeached on any of the following reasons :

(i) high treason;

(ii) breach of any provision of the Constitution;

(iii) misconduct;

(iv) disqualification of qualification of the Union Minister prescribed in the Constitution;

(v) inefficient discharge of duties assigned by law.

(b) If there is a need to impeach any Union Minister, the same procedure for the impeachment of the President or Vice-President under Section 71 shall be applied.

(c) The President shall remove the impeached Union Minister from office when the Hluttaw that had made an investigation had resolved and

(ည) (၁) ပြည်ထောင်စုဝန်ကြီးသည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် ပြည်ထောင်စုဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ တည်ဆဲဝန်ထမ်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ နိုင်ငံ့ဝန်ထမ်းအဖြစ်မှ အငြိမ်းစားယူပြီးဖြစ်သည် ဟုမှတ်ယူရမည်၊

(၂) ကာကွယ်ရေးဝန်ကြီးဌာန၊ ပြည်ထဲရေးဝန်ကြီးဌာနနှင့် နယ်စပ်ရေးရာဝန်ကြီးဌာနများအတွက် ပြည်ထောင်စုဝန်ကြီးများအဖြစ် ခန့်အပ်ထားခြင်းခံရသော တပ်မတော်သားများသည် တပ်မတော်မှ အငြိမ်းစားယူရန် သို့မဟုတ် နုတ်ထွက်ရန်မလို။

(ဋ) ပြည်ထောင်စုဝန်ကြီးသည် နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်ဖြစ်လျှင် ပြည်ထောင်စုဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ မိမိရာထူးသက်တမ်းအတွင်း ယင်းပါတီအဖွဲ့အစည်း၏ ပါတီလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခြင်းမပြုရ။

## ပြည်ထောင်စုဝန်ကြီးတစ်ဦးဦးအား စွပ်စွဲပြစ်တင်ခြင်း

၂၃၃။ (က) ပြည်ထောင်စုဝန်ကြီးတစ်ဦးဦးအား အောက်ပါအကြောင်းတစ်ရပ်ရပ်ဖြင့် စွပ်စွဲပြစ်တင်နိုင်သည် -

(၁) နိုင်ငံတော်၏ကျေးဇူးသစ္စာတော်ကို ဖောက်ဖျက်ခြင်း၊

(၂) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ကျူးလွန်ခြင်း၊

(၃) အကျင့်သိက္ခာပျက်ပြားခြင်း၊

(၄) ဖွဲ့စည်းပုံအခြေခံဥပဒေတွင် သတ်မှတ်ထားသည့် ပြည်ထောင်စုဝန်ကြီး၏ အရည်အချင်းပျက်ယွင်းခြင်း၊

(၅) ဥပဒေအရပေးအပ်သောတာဝန်များကို ကျေပွန်စွာမဆောင်ရွက်ခြင်း။

(ခ) ပြည်ထောင်စုဝန်ကြီး တစ်ဦးဦးအပေါ် စွပ်စွဲပြစ်တင်လိုပါက နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတကို စွပ်စွဲပြစ်တင်ခြင်းဆိုင်ရာ ပုဒ်မ ၇၁ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်၊

(ဂ) ပြည်ထောင်စုဝန်ကြီးတစ်ဦးဦးအပေါ် စွပ်စွဲပြစ်တင်မှုသည် မှန်ကန်၍ စွပ်စွဲခံရသူသည် ပြည်ထောင်စုဝန်ကြီးရာထူးတွင် ဆက်လက်တာဝန်ထမ်းဆောင်စေရန် မသင့်ကြောင်းစုံစမ်းစစ်ဆေးသည့်လွှတ်တော်က ဆုံးဖြတ်တင်ပြလျှင်

submitted to the President that the charge has been substantiated and the Union Minister is unfit to continue in office.

(d) If the Hluttaw concerned resolves that the charge has failed, the Speaker of the Hluttaw shall report the resolution to the President.

**Appointment of Deputy Ministers**

234. (a) The President shall appoint the persons, from among Hluttaw representatives or from those who are not Hluttaw representatives, possessing the following qualifications, as Deputy Ministers to assist the Union Ministers :

(i) persons who have attained the age of 35 years;

(ii) persons who have qualifications, with the exception of the age limit, prescribed in Section 120 for Pyithu Hluttaw representatives;

(iii) persons whose qualification does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) persons loyal to the Union and its citizens.

(b) The President shall, to appoint the Deputy Ministers for Ministries of Defence, Home Affairs and Border Affairs, have the list of suitable Defence Services personnel nominated by the Commander-in-Chief of the Defence Services.

(c) The President shall co-ordiante with the Commander-in-Chief of the Defence Services if he desires to appoint the Defence Services personnel as the Deputy Ministers of other Ministries apart from the Ministries of Defence, Home Affairs and Border Affairs.

(d) The President shall designate Ministries for each Deputy Minister to take responsibility.

နိုင်ငံတော်သမ္မတက စွပ်စွဲပြစ်တင်ခြင်းခံရသည့် ပြည်ထောင်စုဝန်ကြီးအား တာဝန်မှရပ်စဲရမည်၊

(ဃ) စွပ်စွဲပြစ်တင်မှုသည် မမှန်ကန်ကြောင်း စုံစမ်းစစ်ဆေးသည့် လွှတ်တော်က ဆုံးဖြတ်ပါက ထိုသို့ဆုံးဖြတ်ကြောင်း သက်ဆိုင်ရာလွှတ်တော်ဥက္ကဋ္ဌသည် နိုင်ငံတော်သမ္မတထံ တင်ပြအစီရင်ခံရမည်။

## ဒုတိယဝန်ကြီးများ ခန့်အပ်တာဝန်ပေးခြင်း

၂၃၄။ (က) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုဝန်ကြီးများအား အထောက်အကူပြုရန် လွှတ်တော်ကိုယ်စားလှယ်များထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲကဖြစ်စေ အောက်ဖော်ပြပါအရည်အချင်းများနှင့် ပြည့်စုံသူများကို ဒုတိယဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးနိုင်သည် -

(၁) အသက် ၃၅ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသော ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့်ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) နိုင်ငံတော်သမ္မတသည် ဒုတိယဝန်ကြီးများ ခန့်အပ်တာဝန်ပေးရာတွင် ကာကွယ်ရေး၊ ပြည်ထဲရေးနှင့် နယ်စပ်ရေးရာတာဝန်များ ပေးအပ်ရန်ဖြစ်ပါက တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ထံမှ သင့်လျော်သည့်တပ်မတော်သားများ၏ အမည်စာရင်းကို ရယူရမည်၊

(ဂ) နိုင်ငံတော်သမ္မတသည် ကာကွယ်ရေးဝန်ကြီးဌာန၊ ပြည်ထဲရေးဝန်ကြီးဌာနနှင့် နယ်စပ်ရေးရာဝန်ကြီးဌာနများအပြင် အခြားဝန်ကြီးဌာနများတွင် တပ်မတော်သားများအား ဒုတိယဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးလိုလျှင် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်နှင့် ညှိနှိုင်းဆောင်ရွက်ရမည်၊

(ဃ) နိုင်ငံတော်သမ္မတသည် ဒုတိယဝန်ကြီးများအား ခန့်အပ်တာဝန်ပေးရာတွင် တာဝန်ယူရမည့်ဝန်ကြီးဌာနများကို သတ်မှတ်ပေးရမည်၊

(e) The Deputy Ministers shall be responsible to the relevant Union Minister, and to the President through the relevant Union Minister.

(f) If the Deputy Minister is a representative of a Hluttaw or a Civil Services personnel or a Defence Services personnel, or a member of a political party, the provisions of Sub-Sections (i), (j) and (k) of Section 232 shall be applied.

**Term of office, resignation, termination of duties and filling vacancy of the Union Ministers and Deputy Ministers**

235. (a) The term of the Union Minister and Deputy Minister is the same as that of the President.

(b) The Union Minister or Deputy Minister may resign from office on his own volition due to a certain reason before the expiry of his term of office, after submitting his written resignation to the President.

(c) The President :

(i) may direct any Union Minister or Deputy Minister who cannot discharge his duties efficiently to resign. If he fails to comply, he shall be terminated from his duties;

(ii) shall co-ordinate with the Commander-in-Chief of the Defence Services if it relates to a Defence Services personnel who is a Minister or Deputy Minister to resign or remove from office.

(d) If the office of the Union Minister or Deputy Minister becomes vacant due to resignation, removal from office, death or any other reason, the President shall have the right to appoint and assign duties to a new Union Minister or

(င) ဒုတိယဝန်ကြီးများသည် သက်ဆိုင်ရာပြည်ထောင်စုဝန်ကြီးအားလည်းကောင်း၊ သက်ဆိုင်ရာပြည်ထောင်စုဝန်ကြီးမှတစ်ဆင့် နိုင်ငံတော်သမ္မတအားလည်းကောင်း တာဝန်ခံရမည်၊

(စ) ဒုတိယဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသူသည် လွှတ်တော်တစ်ရပ်ရပ်၏ ကိုယ်စားလှယ်သော်လည်းကောင်း၊ နိုင်ငံ့ဝန်ထမ်းသော်လည်းကောင်း၊ တပ်မတော်သားသော်လည်းကောင်း၊ နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်သော်လည်းကောင်း ဖြစ်ပါက ပုဒ်မ ၂၃၂ ပုဒ်မခွဲ (ဈ)၊ (ည) နှင့် (ဋ) ပါ ပြဋ္ဌာန်းချက်များနှင့်လည်း သက်ဆိုင်စေရမည်။

**ပြည်ထောင်စုဝန်ကြီး နှင့် ဒုတိယဝန်ကြီးတို့၏ ရာထူးသက်တမ်း၊ ရာထူးမှနုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်းနှင့် လစ်လပ်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း**

၂၃၅။ (က) ပြည်ထောင်စုဝန်ကြီးနှင့် ဒုတိယဝန်ကြီးတို့၏ ရာထူးသက်တမ်းသည် သာမန်အားဖြင့် နိုင်ငံတော်သမ္မတ၏ ရာထူးသက်တမ်းအတိုင်းဖြစ်သည်၊

(ခ) ပြည်ထောင်စုဝန်ကြီး သို့မဟုတ် ဒုတိယဝန်ကြီးသည် ရာထူးသက်တမ်း မကုန်ဆုံးမီ အကြောင်းတစ်ခုခုကြောင့် မိမိသဘောဆန္ဒအလျောက် ရာထူးမှ နုတ်ထွက်လိုလျှင် ထိုသို့နုတ်ထွက်လိုကြောင်း နိုင်ငံတော်သမ္မတထံ စာဖြင့် တင်ပြပြီး ရာထူးမှ နုတ်ထွက်နိုင်သည်၊

(ဂ) နိုင်ငံတော်သမ္မတသည် -

(၁) ပေးအပ်သည့်တာဝန်ကို ကျေပွန်စွာ မထမ်းဆောင်နိုင်သော ပြည်ထောင်စုဝန်ကြီး သို့မဟုတ် ဒုတိယဝန်ကြီးတစ်ဦးဦးအား ရာထူးမှနုတ်ထွက်ရန် ညွှန်ကြားနိုင်သည်။ ညွှန်ကြားသည့်အတိုင်း လိုက်နာခြင်းမပြုလျှင် တာဝန်မှရပ်စဲရမည်၊

(၂) ရာထူးမှနုတ်ထွက်ရမည့် သို့မဟုတ် တာဝန်မှရပ်စဲခံရမည့် တပ်မတော်သား ပြည်ထောင်စုဝန်ကြီး သို့မဟုတ် ဒုတိယဝန်ကြီးနှင့် ပတ်သက်လျှင် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဃ) ရာထူးမှနုတ်ထွက်ခြင်းကြောင့်ဖြစ်စေ၊ တာဝန်မှရပ်စဲခံရခြင်းကြောင့်ဖြစ်စေ၊ ကွယ်လွန်ခြင်းကြောင့်ဖြစ်စေ၊ အခြားအကြောင်းတစ်ခုခုကြောင့်ဖြစ်စေ၊ ပြည်ထောင်စုဝန်ကြီး သို့မဟုတ် ဒုတိယဝန်ကြီးရာထူးနေရာ လစ်လပ်လျှင်

Deputy Minister in accord with the provisions of the Constitution relating to the appointment of the Union Minister or Deputy Minister. The term of office of the newly appointed Union Minister or Deputy Minister shall be the same as the remaining term of the President.

(e) (i) When the President before the expiry of his term in office, has appointed the Union Ministers or Deputy Ministers, and the President's office is vacant due to resignation or death or any other reason, the Union Ministers and the Deputy Ministers shall continue to perform their duties until the new elected President has appointed and assigned duties to the new Union Ministers or Deputy Ministers.

(ii) The term of the newly appointed Union Ministers and Deputy Ministers shall be up to the expiry of the remaining term of the new President.

(f) Duties, powers and rights of the Union Minister and Deputy Ministers shall be prescribed by law.

**The Attorney General of the Union and the Deputy Attorney General**

236. The Attorney General of the Union shall be called the Attorney General of the Union.

**The appointment of the Attorney General of the Union**

237. (a) The President, with the approval of the Pyidaungsu Hluttaw, shall appoint a person, from among Hluttaw representatives or persons who are not

နိုင်ငံတော်သမ္မတသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြည်ထောင်စုဝန်ကြီး သို့မဟုတ် ဒုတိယဝန်ကြီးခန့်ထားခြင်းနှင့်စပ်လျဉ်းသည့် ပြဋ္ဌာန်းချက်များနှင့် အညီ ပြည်ထောင်စုဝန်ကြီးအသစ် သို့မဟုတ် ဒုတိယဝန်ကြီးအသစ်အား ခန့်အပ် တာဝန်ပေးနိုင်သည်။ ထိုသို့ ခန့်အပ်တာဝန်ပေးခြင်းခံရသည့် ပြည်ထောင်စု ဝန်ကြီး သို့မဟုတ် ဒုတိယဝန်ကြီး၏ ရာထူးသက်တမ်းသည် နိုင်ငံတော် သမ္မတ၏ ကျန်ရှိသည့်ရာထူးသက်တမ်းအတွက်သာ ဖြစ်စေရမည်၊

(င) (၁) ပြည်ထောင်စုဝန်ကြီး သို့မဟုတ် ဒုတိယဝန်ကြီးများအား ခန့်အပ် တာဝန်ပေးသည့် နိုင်ငံတော်သမ္မတသည် ရာထူးသက်တမ်းမကုန်ဆုံးမီ နုတ်ထွက်သောကြောင့်ဖြစ်စေ၊ ကွယ်လွန်သောကြောင့်ဖြစ်စေ၊ တစ်စုံ တစ်ခုသော အကြောင်းကြောင့်ဖြစ်စေ နိုင်ငံတော်သမ္မတ ရာထူး လစ်လပ်ပါက အစားထိုးရွေးချယ် တင်မြှောက်လိုက်သည့် နိုင်ငံတော် သမ္မတအသစ်က ပြည်ထောင်စုဝန်ကြီးအသစ်များ သို့မဟုတ် ဒုတိယဝန်ကြီးအသစ်များကို ခန့်အပ်တာဝန်ပေးပြီးသည့် အချိန်အထိ ပြည်ထောင်စုဝန်ကြီးများနှင့် ဒုတိယဝန်ကြီးများသည် မိမိတို့၏ လုပ်ငန်းတာဝန်များကို ဆက်လက်ထမ်းဆောင်ရမည်၊

(၂) အစားထိုးခန့်အပ် တာဝန်ပေးခြင်းခံရသည့် ပြည်ထောင်စုဝန်ကြီး အသစ်များနှင့် ဒုတိယဝန်ကြီးအသစ်များ၏ ရာထူးသက်တမ်းသည် နိုင်ငံတော်သမ္မတအသစ်၏ ကျန်ရှိသည့် ရာထူးသက်တမ်း ကုန်ဆုံးသည်အထိသာ ဖြစ်ရမည်။

(စ) ပြည်ထောင်စုဝန်ကြီးနှင့် ဒုတိယဝန်ကြီးများ၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## ပြည်ထောင်စုရှေ့နေချုပ်နှင့် ဒုတိယရှေ့နေချုပ်

၂၃၆။ ပြည်ထောင်စု၏ရှေ့နေချုပ်ကို ပြည်ထောင်စုရှေ့နေချုပ်ဟု ခေါ်ဝေါ်ရမည်။

## ပြည်ထောင်စုရှေ့နေချုပ် ခန့်အပ်တာဝန်ပေးခြင်း

၂၃၇။ (က) နိုင်ငံတော်သမ္မတသည် ဥပဒေအကြံဉာဏ်များရယူနိုင်ရန်နှင့် ဥပဒေဆိုင်ရာ တာဝန်များပေးအပ်နိုင်ရန် လွှတ်တော်ကိုယ်စားလှယ်များထဲကဖြစ်စေ၊

Hluttaw representatives having the following qualifications as the Attorney-General of the Union to obtain legal advice and assign duties on legal matters :

(i) person who has attained the age of 45 years;

(ii) person who has qualifications, with the exception of age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

(iii) person whose qualification does not breach the provisions under Section 121 which disqualify a person from standing for election as the Pyithu Hluttaw representatives;

(iv) (aa) person who has served as a Judge of the Region or State High Court for at least five years; or

(bb) person who has served as a judicial officer or law officer for at least 10 years not lower than that of the Region or State Level;

(cc) person who has practised as an advocate for at least 20 years;

(dd) person who is, in the opinion of the President, as an eminent jurist;

(v) person who is loyal to the Union and its citizens.

(b) The appoitment of a person as the Attorney-General of the Union by the President shall not be refused by the Pyidaungsu Hluttaw unless it can clearly be proved that the person concerned does not meet the qualification of the Attorney-General of the Union.

(c) The President has the right to submit again the list with a new name replacing the one who has not been approved by the Pyidaungsu Hluttaw for the appointment of a person as the Attorney-General of the Union.

(d) The Attorney-General of the Union is a member of the Union Government.

လွှတ်တော်ကိုယ်စားလှယ် မဟုတ်သူများထဲကဖြစ်စေ အောက်ဖော်ပြပါ အရည်အချင်းများနှင့်ပြည့်စုံသည့် ပုဂ္ဂိုလ်တစ်ဦးဦးအား ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်ဖြင့် ပြည်ထောင်စုရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရမည် -

(၁) အသက် ၄၅ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသော ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) (ကက) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် တရားလွှတ်တော် တရားသူကြီးအဖြစ် အနည်းဆုံး ငါးနှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ခခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့်ထက် မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိ ရာထူးတွင် အနည်းဆုံး ၁၀ နှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ်

(ဂဂ) တရားလွှတ်တော်ရှေ့နေအဖြစ် အနည်းဆုံး အနှစ် ၂၀ အမှုလိုက်ပါဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ဃဃ) ထင်ပေါ်ကျော်ကြားသည့် ဂုဏ်သတင်းရှိသော ဥပဒေပညာရှင်အဖြစ် နိုင်ငံတော်သမ္မတကယူဆသူ။

(၅) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) ပြည်ထောင်စုရှေ့နေချုပ်အတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက ပြည်ထောင်စုလွှတ်တော်သည် နိုင်ငံတော်သမ္မတက အမည်စာရင်းတင်သွင်းသည့်ပုဂ္ဂိုလ်အား ပြည်ထောင်စုရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့်မရှိစေရ၊

(ဂ) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်မရရှိသည့် ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို ပြည်ထောင်စုလွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(ဃ) ပြည်ထောင်စုရှေ့နေချုပ်သည် ပြည်ထောင်စုအစိုးရအဖွဲ့ဝင် ဖြစ်သည်၊

(e) The Attorney General of the Union shall be responsible to the President.

(f) If the Attorney General of the Union is a representative of a Hluttaw, it shall be deemed that he has resigned from the day he is appointed as Attorney General of the Union.

(g) If the Attorney General of the Union is a Civil Services personnel, it shall be deemed that he has retired according to the existing civil service rules and regulations from the day he is appointed as the Attorney General of the Union.

(h) If the Attorney General of the Union is a member of any political party, he shall not take part in its party activities during the term of office from the day he is appointed as the Attorney General of the Union.

**Impeachment of the Attorney General of the Union**

238. If there is a need to impeach the Attorney General of the Union, the same procedure for the impeachment of the Union Minister under Section 233 shall be applied.

**Appointment of the Deputy Attorney General**

239. (a) The President shall appoint, in his own volition, the persons from among the Hluttaw representatives or from among those who are not Hluttaw representatives who have the following qualifications, as Deputy Attorney General to assist the Attorney General of the Union :

(i) person who has attained the age of 40 years;

(ii) person who has qualifications, with the exception of age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

(iii) persons whose qualification does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(င) ပြည်ထောင်စုရှေ့နေချုပ်သည် နိုင်ငံတော်သမ္မတအား တာဝန်ခံရမည်၊

(စ) ပြည်ထောင်စုရှေ့နေချုပ်သည် လွှတ်တော်တစ်ရပ်ရပ်၏ ကိုယ်စားလှယ်ဖြစ်လျှင် ပြည်ထောင်စုရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ လွှတ်တော်ကိုယ်စားလှယ်အဖြစ်မှ နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(ဆ) ပြည်ထောင်စုရှေ့နေချုပ်သည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် ပြည်ထောင်စုရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ တည်ဆဲဝန်ထမ်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ နိုင်ငံ့ဝန်ထမ်းအဖြစ်မှ အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(ဇ) ပြည်ထောင်စုရှေ့နေချုပ်သည် နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်ဖြစ်လျှင် ပြည်ထောင်စုရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့် နေ့မှစ၍ မိမိရာထူးသက်တမ်းအတွင်း ယင်းပါတီအဖွဲ့အစည်း၏ ပါတီလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခြင်းမပြုရ။

## ပြည်ထောင်စုရှေ့နေချုပ်အား စွပ်စွဲပြစ်တင်ခြင်း

၂၃၈။ ပြည်ထောင်စုရှေ့နေချုပ်အား စွပ်စွဲပြစ်တင်လိုပါက ပြည်ထောင်စုဝန်ကြီးတစ်ဦးဦးအား စွပ်စွဲပြစ်တင်ခြင်းဆိုင်ရာ ပုဒ်မ ၂၃၃ ရှိ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

## ဒုတိယရှေ့နေချုပ် ခန့်အပ်တာဝန်ပေးခြင်း

၂၃၉။ (က) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုရှေ့နေချုပ်အား အထောက်အကူပြုရန် လွှတ်တော်ကိုယ်စားလှယ်များထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲကဖြစ်စေ အောက်ဖော်ပြပါအရည်အချင်းများနှင့် ပြည့်စုံသည့် ပုဂ္ဂိုလ်တစ်ဦးဦးအား မိမိသဘောဆန္ဒအလျောက် ဒုတိယရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရမည် -

(၁) အသက် ၄၀ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသော ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(iv) (aa) person who has served as a Judge of the Region or State High Court for at least five years; or

(bb) person who has served as a judicial officer or law officer for at least 10 years not lower than that of the Region or State Level; or

(cc) person who has practised as an advocate for at least 15 years;

(dd) person who is, in the opinion of the President, as an eminent jurist;

(v) person who is loyal to the Union and its citizens.

(b) The Deputy Attorney-General shall be responsible to the Attorney-General of the Union and to the President through the Attorney-General of the Union.

(c) If the Deputy Attorney-General of the Union is a representative of a Hluttaw or a Civil Services personnel or a member of a political party, the provisions of Sub-Sections (f), (g) and (h) of Section 237 shall be applied.

**Term of office, resignation, termination of office, filling the vacancy of the Attorney-General of the Union and the Deputy Attorney-General**

240. (a) The term of the Attorney-General of the Union and the Deputy Attorney-General is normally the same as that of the President.

(b) The Attorney-General of the Union or the Deputy Attorney-General may resign from office on his own volition due to a certain reason before expiry of the term of office, after submitting his written resignation to the President.

(c) The President may direct to resign the Attorney-General of the Union or

(၄) (ကက) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးအဖြစ် အနည်းဆုံး ငါးနှစ်ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ခခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အဆင့်ထက်မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိ ရာထူးတွင် အနည်းဆုံး ၁၀ နှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ်

(ဂဂ) တရားလွှတ်တော်ရှေ့နေအဖြစ် အနည်းဆုံး ၁၅ နှစ် အမှု လိုက်ပါဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ဃဃ) ထင်ပေါ်ကျော်ကြားသည့် ဂုဏ်သတင်းရှိသော ဥပဒေ ပညာရှင်အဖြစ် နိုင်ငံတော်သမ္မတက ယူဆသူ။

(၅) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) ဒုတိယရှေ့နေချုပ်သည် ပြည်ထောင်စုရှေ့နေချုပ်အား လည်းကောင်း၊ ပြည်ထောင်စုရှေ့နေချုပ်မှတစ်ဆင့် နိုင်ငံတော်သမ္မတအားလည်းကောင်း တာဝန်ခံရမည်၊

(ဂ) ဒုတိယရှေ့နေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသူသည် လွှတ်တော် တစ်ရပ်ရပ်၏ ကိုယ်စားလှယ်သော်လည်းကောင်း၊ နိုင်ငံ့ဝန်ထမ်း သော် လည်းကောင်း၊ နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်သော်လည်းကောင်း ဖြစ်ပါက ပုဒ်မ ၂၃၇ ပုဒ်မခွဲ (စ)၊(ဆ)နှင့် (ဇ)ပါ ပြဋ္ဌာန်းချက်များနှင့်လည်း သက်ဆိုင်စေရမည်။

**ပြည်ထောင်စုရှေ့နေချုပ်နှင့် ဒုတိယရှေ့နေချုပ်တို့၏ ရာထူးသက်တမ်း၊ ရာထူးမှနုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်းနှင့် လစ်လပ်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း**

၂၄၀။ (က) ပြည်ထောင်စုရှေ့နေချုပ်နှင့် ဒုတိယရှေ့နေချုပ်တို့၏ ရာထူးသက်တမ်းသည် သာမန်အားဖြင့် နိုင်ငံတော်သမ္မတ၏ ရာထူးသက်တမ်းအတိုင်း ဖြစ်သည်၊

(ခ) ပြည်ထောင်စုရှေ့နေချုပ် သို့မဟုတ် ဒုတိယရှေ့နေချုပ်သည် ရာထူး သက်တမ်းမကုန်ဆုံးမီ အကြောင်းတစ်ခုခုကြောင့် မိမိသဘောဆန္ဒအလျောက် ရာထူးမှနုတ်ထွက်လိုလျှင် ထိုသို့နုတ်ထွက်လိုကြောင်း နိုင်ငံတော်သမ္မတထံ စာဖြင့်တင်ပြပြီး ရာထူးမှနုတ်ထွက်နိုင်သည်၊

(ဂ) နိုင်ငံတော်သမ္မတသည် ပေးအပ်သည့်တာဝန်ကို ကျေပွန်စွာမထမ်းဆောင်နိုင် သော ပြည်ထောင်စုရှေ့နေချုပ် သို့မဟုတ် ဒုတိယရှေ့နေချုပ်အား ရာထူးမှ

the Deputy Attorney-General who cannot discharge his duties efficiently. If either of them fails to comply, he shall be terminated from his duties.

(d) If the office of the Attorney-General of the Union or the Deputy Attorney-General becomes vacant due to resignation, removal from office, death or any other reason, the President shall have the right to appoint and assign duties to a new Attorney-General of the Union or the Deputy Attorney-General in accord with the provisions of the Constitution relating to the appointment of the Attorney-General of the Union or the Deputy Attorney-General. The term of the newly appointed Attorney-General of the Union or the Deputy Attorney-General shall be the same as the remaining term of office of the President.

(e) (i) When the President before the expiry of his term in office, has appointed the Attorney-General of the Union and the Deputy Attorney-General, and the President's office is vacant due to resignation or death or any other reason, the Attorney-General of the Union or the Deputy Attorney-General may be continued to be assigned or shall continue to perform their duties until the new elected President has appointed and assigned duties to the new Attorney-General of the Union or the Deputy Attorney-General in accord with the provisions of the Constitution .

(ii) The term of the new appointed Attorney-General of the Union and the Deputy Attorney-General shall be up to the expiry of the remaining term of the new President.

(f) Duties, powers and rights of the Attorney-General of the Union and the Deputy Attorney-General shall be prescribed by law.

နုတ်ထွက်ရန် ညွှန်ကြားနိုင်သည်။ ညွှန်ကြားသည့်အတိုင်း လိုက်နာခြင်း မပြုလျှင် တာဝန်မှရပ်စဲရမည်၊

(ဃ) ရာထူးမှနုတ်ထွက်ခြင်းကြောင့်ဖြစ်စေ၊ တာဝန်မှရပ်စဲခံရခြင်းကြောင့်ဖြစ်စေ၊ ကွယ်လွန်ခြင်းကြောင့်ဖြစ်စေ၊ အခြားအကြောင်းတစ်ခုခုကြောင့်ဖြစ်စေ ပြည်ထောင်စုရှေ့နေချုပ် သို့မဟုတ် ဒုတိယရှေ့နေချုပ်ရာထူးနေရာ လစ်လပ်လျှင် နိုင်ငံတော်သမ္မတသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြည်ထောင်စုရှေ့နေချုပ် သို့မဟုတ် ဒုတိယရှေ့နေချုပ် ခန့်ထားခြင်းနှင့်စပ်လျဉ်းသည့် ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်အသစ် သို့မဟုတ် ဒုတိယရှေ့နေချုပ် အသစ်အား ခန့်အပ်တာဝန်ပေးနိုင်သည်။ ထိုသို့ ခန့်အပ်တာဝန် ပေးခြင်းခံရသည့် ပြည်ထောင်စုရှေ့နေချုပ် သို့မဟုတ် ဒုတိယရှေ့နေချုပ်၏ ရာထူးသက်တမ်းသည် နိုင်ငံတော်သမ္မတ၏ ကျန်ရှိသည့်ရာထူးသက်တမ်း အတွက်သာ ဖြစ်စေရမည်၊

(င) (၁) ပြည်ထောင်စုရှေ့နေချုပ်နှင့် ဒုတိယရှေ့နေချုပ်တို့အား ခန့်အပ်တာဝန်ပေးသည့် နိုင်ငံတော်သမ္မတသည် ရာထူးသက်တမ်း မကုန်ဆုံးမီ နုတ်ထွက်သောကြောင့်ဖြစ်စေ၊ ကွယ်လွန်သောကြောင့်ဖြစ်စေ၊ တစ်စုံတစ်ခုသော အကြောင်းကြောင့်ဖြစ်စေ နိုင်ငံတော်သမ္မတရာထူးလစ်လပ်လျှင် အစားထိုးရွေးချယ်တင်မြှောက်လိုက်သည့် နိုင်ငံတော်သမ္မတအသစ်သည် ယင်းတို့အားဆက်လက်တာဝန်ပေးနိုင်သည် သို့မဟုတ် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်အသစ်နှင့် ဒုတိယရှေ့နေချုပ်အသစ်များကို ခန့်အပ်တာဝန်ပေးနိုင်သည်။ ယင်းသို့ ခန့်အပ်တာဝန်ပေးမည် ဆိုပါက ပြည်ထောင်စုရှေ့နေချုပ်အသစ်နှင့် ဒုတိယရှေ့နေချုပ်အသစ်များကို ခန့်အပ်တာဝန်ပေးပြီးသည့်အချိန်အထိ ပြည်ထောင်စုရှေ့နေချုပ်နှင့် ဒုတိယရှေ့နေချုပ်တို့အား ယင်းတို့၏ လုပ်ငန်းတာဝန်များကို ဆက်လက်ထမ်းဆောင်စေနိုင်သည်၊

(၂) အစားထိုးခန့်အပ်တာဝန်ပေးခြင်းခံရသည့် ပြည်ထောင်စုရှေ့နေချုပ်အသစ်နှင့် ဒုတိယရှေ့နေချုပ်အသစ်တို့၏ ရာထူးသက်တမ်းသည် နိုင်ငံတော်သမ္မတအသစ်၏ ကျန်ရှိသည့်ရာထူးသက်တမ်း ကုန်ဆုံးသည်အထိသာ ဖြစ်ရမည်။

(စ) ပြည်ထောင်စုရှေ့နေချုပ်နှင့် ဒုတိယရှေ့နေချုပ်တို့၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

**Auditor-General of the Union and the Deputy Auditor-General**

241. The Auditor-General of the Union shall be called the Auditor-General of the Union.

**Appointment of the Auditor-General of the Union**

242. (a) The President, with the approval of the Pyidaungsu Hluttaw, shall appoint a person from among Hluttaw representatives or from among those who are not Hluttaw representatives, who has the following qualifications, as the Auditor-General of the Union so as to audit Union Budget and report thereon to the Pyidaungsu Hluttaw :

(i) person who has attained the age of 45 years;

(ii) person who has qualifications, with the exception of the age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

(iii) persons whose qualification does not breach the provisions in Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) (aa) person who has served as an auditor for at least 10 years not lower than that of the Region or State Level; or

(bb) person who has served as a Registered Accountant or a Certified Public Accountant for at least 20 years; or

(cc) person who is, in the opinion of the President, as an eminent accountant, statistician or economist.

(v) person who is loyal to the Union and its citizens.

(b) The person nominated by the President to be appointed as the Auditor-General of the Union shall not be refused by the Pyidaungsu Hluttaw unless

## ပြည်ထောင်စုစာရင်းစစ်ချုပ်နှင့် ဒုတိယစာရင်းစစ်ချုပ်

၂၄၁။ ပြည်ထောင်စု၏စာရင်းစစ်ချုပ်ကို ပြည်ထောင်စုစာရင်းစစ်ချုပ်ဟု ခေါ်ဝေါ်ရမည်။

## ပြည်ထောင်စုစာရင်းစစ်ချုပ် ခန့်အပ်တာဝန်ပေးခြင်း

၂၄၂။ (က) နိုင်ငံတော်သမ္မတသည် နိုင်ငံတော်၏ အရအသုံးစာရင်းများကို စစ်ဆေး၍ ပြည်ထောင်စုလွှတ်တော်သို့ တင်ပြနိုင်ရန် လွှတ်တော်ကိုယ်စားလှယ်များ ထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲက ဖြစ်စေ အောက်ဖော်ပြပါ အရည်အချင်းများနှင့် ပြည့်စုံသည့်ပုဂ္ဂိုလ်တစ်ဦးဦးအား ပြည်ထောင်စုလွှတ်တော်၏သဘောတူညီချက်ဖြင့် ပြည်ထောင်စုစာရင်းစစ်ချုပ် အဖြစ် ခန့်အပ်တာဝန်ပေးရမည် -

(၁) အသက် ၄၅ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသော ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက် များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) (ကက) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့်ထက်မနိမ့်သော စာရင်းစစ်အရာရှိ ရာထူးတွင် အနည်းဆုံး ၁၀ နှစ် ဆောင် ရွက်ခဲ့သူ သို့မဟုတ်

(ခခ) မှတ်ပုံတင်စာရင်းကိုင် သို့မဟုတ် လက်မှတ်ရပြည်သူ့ စာရင်းကိုင်အဖြစ် အနည်းဆုံး ၂၀ နှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ဂဂ) ထင်ပေါ်ကျော်ကြားသည့် ဂုဏ်သတင်းရှိသော စာရင်း ပညာရှင် သို့မဟုတ် စာရင်းအင်းပညာရှင် သို့မဟုတ် စီးပွားရေးပညာရှင်အဖြစ် နိုင်ငံတော်သမ္မတက ယူဆသူ။

(၅) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) ပြည်ထောင်စုစာရင်းစစ်ချုပ်အတွက် သတ်မှတ်ထားသော အရည်အချင်းများ နှင့် မပြည့်စုံကြောင်း အထင်အရှားမပြသနိုင်ပါက ပြည်ထောင်စုလွှတ်တော်

it can clearly be proved that the person concerned does not meet the qualification to be the Auditor-General of the Union.

(c) The President has the right to submit again the list with a new name replacing the one who has not been approved by the Pyidaungsu Hluttaw for the appointment of the Auditor-General of the Union.

(d) The Auditor-General of the Union shall be responsible to the President.

(e) If the Auditor-General of the Union is a Hluttaw representative, it shall be deemed that he has resigned from the day he is appointed as the Auditor-General of the Union.

(f) If the Auditor-General of the Union is a Civil Services personnel, it shall be deemed that he has retired according to the existing civil service rules and regulations from the day he is appointed as the Auditor-General of the Union.

(g) If the Auditor-General of the Union is a member of any political party, he shall not take part in its party activities during the term of office from the day he is appointed as Auditor-General of the Union.

**Impeachment of the Auditor-General of the Union**

243. If there is a need to impeach the Auditor-General of the Union, the same procedure for the impeachment of the Union Minister under Section 233 shall be applied.

**Appointment of the Deputy Auditor-General**

244. (a) The President shall appoint, in his own volition, the persons from among the Hluttaw representatives or from those who are not Hluttaw representatives, who have the following qualifications, as the Deputy Auditor-General to assist the Auditor-General of the Union :

သည် နိုင်ငံတော်သမ္မတက အမည်စာရင်းတင်သွင်းသည့် ပုဂ္ဂိုလ်အား ပြည်ထောင်စုစာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့် မရှိစေရ၊

(ဂ) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုစာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်မရရှိသည့် ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို ပြည်ထောင်စုလွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(ဃ) ပြည်ထောင်စုစာရင်းစစ်ချုပ်သည် နိုင်ငံတော်သမ္မတအား တာဝန်ခံရမည်၊

(င) ပြည်ထောင်စုစာရင်းစစ်ချုပ်သည် လွှတ်တော်တစ်ရပ်ရပ်၏ ကိုယ်စားလှယ် ဖြစ်လျှင် ပြည်ထောင်စုစာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့် နေ့မှစ၍ လွှတ်တော်ကိုယ်စားလှယ်အဖြစ်မှ နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်၊

(စ) ပြည်ထောင်စုစာရင်းစစ်ချုပ်သည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် ပြည်ထောင်စု စာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ တည်ဆဲ ဝန်ထမ်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ နိုင်ငံ့ဝန်ထမ်းအဖြစ်မှ အငြိမ်းစားယူပြီး ဖြစ်သည်ဟု မှတ်ယူရမည်၊

(ဆ) ပြည်ထောင်စုစာရင်းစစ်ချုပ်သည် နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်ဖြစ်လျှင် ပြည်ထောင်စုစာရင်းစစ်ချုပ် သို့မဟုတ် ဒုတိယစာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ မိမိရာထူးသက်တမ်းအတွင်း ယင်းပါတီအဖွဲ့အစည်း၏ ပါတီလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခြင်းမပြုရ။

## ပြည်ထောင်စုစာရင်းစစ်ချုပ်အား စွပ်စွဲပြစ်တင်ခြင်း

၂၄၃။ ပြည်ထောင်စုစာရင်းစစ်ချုပ်အား စွပ်စွဲပြစ်တင်လိုပါက ပြည်ထောင်စုဝန်ကြီးတစ်ဦးဦးအား စွပ်စွဲပြစ်တင်ခြင်းဆိုင်ရာ ပုဒ်မ ၂၃၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

## ဒုတိယစာရင်းစစ်ချုပ် ခန့်အပ်တာဝန်ပေးခြင်း

၂၄၄။ (က) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုစာရင်းစစ်ချုပ်အား အထောက်အကူပြုရန် လွှတ်တော်ကိုယ်စားလှယ်များထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ် မဟုတ် သူများထဲကဖြစ်စေ အောက်ဖော်ပြပါ အရည်အချင်းများနှင့်ပြည့်စုံသည့် ပုဂ္ဂိုလ်တစ်ဦးဦးအား မိမိသဘောဆန္ဒအလျောက် ဒုတိယစာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရမည် -

(i) person who has attained the age of 40 years;

(ii) person who has qualifications, with the exception of age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

(iii) persons whose qualification does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) (aa) person who has served as an auditor for at least 10 years not lower than that of the Region or State Level; or

(bb) person who has served as a Registered Accountant or a Certified Public Accountant for at least 15 years; or

(cc) person who is, in the opinion of the President, as an eminent accountant, statistician or economist.

(v) person who is loyal to the Union and its citizens.

(b) The Deputy Auditor-General shall be responsible to the Auditor-General of the Union and the President through the Auditor-General of the Union.

(c) If the Deputy Auditor-General of the Union is a representative of a Hluttaw or civil service personnel or member of a political party, the provisions of Sub-Sections (e), (f) and (g) of Section 242 shall be applied.

**Term of office, resignation, termination of office, filling the vacancy of the Auditor-General of the Union and the Deputy Auditor-General**

245. (a) The term of the Auditor-General of the Union and the Deputy Auditor-General is normally the same as that of the President.

(၁) အသက် ၄၀ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင်ဖော်ပြထားသော ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင်ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) (ကက) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့်ထက် မနိမ့်သော စာရင်းစစ်အရာရှိ ရာထူးတွင် အနည်းဆုံး ၁၀ နှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ခခ) မှတ်ပုံတင်စာရင်းကိုင် သို့မဟုတ် လက်မှတ်ရပြည်သူ့စာရင်းကိုင်အဖြစ် အနည်းဆုံး ၁၅ နှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ဂဂ) ထင်ပေါ်ကျော်ကြားသည့် ဂုဏ်သတင်းရှိသော စာရင်းပညာရှင် သို့မဟုတ် စာရင်းအင်းပညာရှင် သို့မဟုတ် စီးပွားရေးပညာရှင်အဖြစ် နိုင်ငံတော်သမ္မတက ယူဆသူ။

(၅) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) ဒုတိယစာရင်းစစ်ချုပ်သည် ပြည်ထောင်စုစာရင်းစစ်ချုပ်အားလည်းကောင်း၊ ပြည်ထောင်စုစာရင်းစစ်ချုပ်မှတစ်ဆင့် နိုင်ငံတော်သမ္မတအားလည်းကောင်း တာဝန်ခံရမည်၊

(ဂ) ဒုတိယစာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသူသည် လွှတ်တော်တစ်ရပ်ရပ်၏ ကိုယ်စားလှယ်သော်လည်းကောင်း၊ နိုင်ငံ့ဝန်ထမ်းသော်လည်းကောင်း၊ နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်သော်လည်းကောင်း ဖြစ်ပါက ပုဒ်မ ၂၄၂ ပုဒ်မခွဲ (င)၊ (စ) နှင့် (ဆ) ပါ ပြဋ္ဌာန်းချက်များနှင့်လည်း သက်ဆိုင်စေရမည်။

**ပြည်ထောင်စုစာရင်းစစ်ချုပ်နှင့် ဒုတိယစာရင်းစစ်ချုပ်တို့၏ ရာထူးသက်တမ်း၊ ရာထူးမှ နုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်းနှင့်လစ်လပ်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း**

၂၄၅။ (က) ပြည်ထောင်စုစာရင်းစစ်ချုပ်နှင့် ဒုတိယစာရင်းစစ်ချုပ်တို့၏ရာထူးသက်တမ်းသည် သာမန်အားဖြင့် နိုင်ငံတော်သမ္မတ၏ ရာထူးသက်တမ်းအတိုင်း ဖြစ်သည်၊

(b) The Auditor-General of the Union or the Deputy Auditor-General may resign from office on his own volition due to a certain reason before expiry of the term of office, after submitting his written resignation to the President.

(c) The President may direct to resign the Auditor-General of the Union or the Deputy Auditor-General who cannot discharge his duties efficiently. If either of them fails to comply, he shall be terminated from his duties.

(d) If the office of the Auditor-General of the Union or the Deputy Auditor-General becomes vacant due to resignation, removal from office, death or any other reason, the President shall have the right to appoint and assign duties to a new Auditor-General of the Union or the Deputy Auditor-General in accord with the provisions of the Constitution relating to the appointment of the Auditor-General of the Union or the Deputy Auditor-General. The term of the newly appointed Auditor-General of the Union or the Deputy Auditor-General shall be the same as the remaining term of the President.

(e) (i) When the President before the expiry of his term in office, has appointed the Auditor-General of the Union and the Deputy Auditor-General, and the President's office is vacant due to resignation or death or any other reason, the Auditor-General of the Union or the Deputy Auditor-General may be continued to be assigned or shall continue to perform their duties until the new elected President has appointed and assigned duties to the new

(ခ) ပြည်ထောင်စုစာရင်းစစ်ချုပ် သို့မဟုတ် ဒုတိယစာရင်းစစ်ချုပ်သည် ရာထူးသက်တမ်းမကုန်ဆုံးမီ အကြောင်းတစ်ခုခုကြောင့် မိမိသဘောဆန္ဒအလျောက် ရာထူးမှနုတ်ထွက်လိုလျှင် ထိုသို့နုတ်ထွက်လိုကြောင်း နိုင်ငံတော်သမ္မတထံ စာဖြင့်တင်ပြပြီး ရာထူးမှနုတ်ထွက်နိုင်သည်၊

(ဂ) နိုင်ငံတော်သမ္မတသည် ပေးအပ်သည့်တာဝန်ကို ကျေပွန်စွာမထမ်းဆောင်နိုင်သော ပြည်ထောင်စုစာရင်းစစ်ချုပ် သို့မဟုတ် ဒုတိယစာရင်းစစ်ချုပ်အား ရာထူးမှနုတ်ထွက်ရန် ညွှန်ကြားနိုင်သည်။ ညွှန်ကြားသည့်အတိုင်း လိုက်နာခြင်းမပြုလျှင် တာဝန်မှရပ်စဲရမည်၊

(ဃ) ရာထူးမှ နုတ်ထွက်ခြင်းကြောင့်ဖြစ်စေ၊ တာဝန်မှ ရပ်စဲခံရခြင်းကြောင့်ဖြစ်စေ၊ ကွယ်လွန်ခြင်းကြောင့်ဖြစ်စေ၊ အခြားအကြောင်းတစ်ခုခုကြောင့် ဖြစ်စေ ပြည်ထောင်စုစာရင်းစစ်ချုပ် သို့မဟုတ် ဒုတိယစာရင်းစစ်ချုပ် ရာထူးနေရာ လစ်လပ်လျှင် နိုင်ငံတော်သမ္မတသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြည်ထောင်စုစာရင်းစစ်ချုပ် သို့မဟုတ် ဒုတိယစာရင်းစစ်ချုပ်ခန့်ထားခြင်းနှင့် စပ်လျဉ်းသည့် ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စုစာရင်းစစ်ချုပ်အသစ် သို့မဟုတ် ဒုတိယစာရင်းစစ်ချုပ်အသစ်အား ခန့်အပ်တာဝန်ပေးနိုင်သည်။ ထိုသို့ ခန့်အပ်တာဝန်ပေးခြင်းခံရသည့် ပြည်ထောင်စုစာရင်းစစ်ချုပ် သို့မဟုတ် ဒုတိယစာရင်းစစ်ချုပ်၏ရာထူးသက်တမ်းသည် နိုင်ငံတော်သမ္မတ၏ ကျန်ရှိသည့် ရာထူးသက်တမ်းအတွက်သာ ဖြစ်စေရမည်၊

(င) (၁) ပြည်ထောင်စုစာရင်းစစ်ချုပ်နှင့် ဒုတိယစာရင်းစစ်ချုပ်တို့အား ခန့်အပ်တာဝန်ပေးသည့် နိုင်ငံတော်သမ္မတသည် ရာထူးသက်တမ်းမကုန်ဆုံးမီ နုတ်ထွက်သွားသောကြောင့်ဖြစ်စေ၊ ကွယ်လွန်သောကြောင့်ဖြစ်စေ၊ တစ်စုံတစ်ခုသော အကြောင်းကြောင့်ဖြစ်စေ နိုင်ငံတော်သမ္မတရာထူး လစ်လပ်ပါက အစားထိုးရွေးချယ်တင်မြှောက်လိုက်သည့် နိုင်ငံတော်သမ္မတ အသစ်သည် ယင်းတို့အား ဆက်လက်တာဝန်ပေးနိုင်သည် သို့မဟုတ် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စု စာရင်းစစ်ချုပ်အသစ်နှင့် ဒုတိယစာရင်းစစ်ချုပ်အသစ်များကို ခန့်အပ်တာဝန်ပေးနိုင်သည်။ ယင်းသို့ ခန့်အပ်တာဝန်ပေးမည်ဆိုပါက ပြည်ထောင်စုစာရင်းစစ်ချုပ်အသစ်နှင့် ဒုတိယစာရင်းစစ်ချုပ်အသစ်များကို ခန့်အပ်တာဝန်ပေးပြီးသည့် အချိန်အထိ ပြည်ထောင်စုစာရင်းစစ်ချုပ်နှင့် ဒုတိယစာရင်းစစ်ချုပ်

Auditor-General of the Union or the Deputy Auditor-General in accord with the provisions of the Constitution.

(ii) The term of the new appointed Auditor-General of the Union or the Deputy Auditor-General shall be up to the expiry of the remaining term of the new President.

(f) Duties, powers and rights of the Auditor-General of the Union and the Deputy Auditor-General shall be prescribed by law.

**Formation of the Union Civil Services Board**

246. (a) The President shall form the Union Civil Services Board to enable to perform the duties of selecting, training the Civil services personnel and prescribing of Civil Service regulations.

(b) The President shall appoint the persons who have the following qualifications as the Chairperson and Members of the Union Civil Services Board :

(i) person who has attained the age of 50 years;

(ii) person who has qualifications, with the exception of the age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

(iii) persons whose qualification does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) experienced intelligentsia and intellectuals;

(v) person who is loyal to the Union and its citizens;

(vi) person who is not a member of a political party;

(vii) person who is not a Hluttaw representative.

(c) If the Chairperson and members of the Union Civil Services Board are Civil Services personnel, it shall be deemed that they have retired according to the existing Civil Services rules and regulations from the day they are appointed as Chairperson and Members of the Union Civil Services Board of the Union.

တို့အား ယင်းတို့၏လုပ်ငန်းတာဝန်များကို ဆက်လက်ထမ်းဆောင်စေနိုင်သည်၊

(၂) အစားထိုးခန့်အပ် တာဝန်ပေးခြင်းခံရသည့် ပြည်ထောင်စုစာရင်းစစ်ချုပ်အသစ်နှင့် ဒုတိယစာရင်းစစ်ချုပ်အသစ်တို့၏ ရာထူးသက်တမ်းသည် နိုင်ငံတော်သမ္မတအသစ်၏ ကျန်ရှိသည့်ရာထူးသက်တမ်းကုန်ဆုံးသည်အထိသာ ဖြစ်ရမည်။

(စ) ပြည်ထောင်စုစာရင်းစစ်ချုပ်နှင့် ဒုတိယစာရင်းစစ်ချုပ်တို့၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

**ပြည်ထောင်စုရာထူးဝန်အဖွဲ့ ဖွဲ့စည်းခြင်း**

၂၄၆။ (က) နိုင်ငံတော်သမ္မတသည် နိုင်ငံ့ဝန်ထမ်းရွေးချယ်ရေး၊ လေ့ကျင့်ရေးတာဝန်နှင့် နိုင်ငံ့ဝန်ထမ်း စည်းမျဉ်းစည်းကမ်းသတ်မှတ်ရေး တာဝန်များထမ်းဆောင်နိုင်ရန် ပြည်ထောင်စုရာထူးဝန်အဖွဲ့ ဖွဲ့စည်းရမည်၊

(ခ) နိုင်ငံတော်သမ္မတသည် အောက်ဖော်ပြပါအရည်အချင်းများနှင့် ပြည့်စုံသူများအား ပြည်ထောင်စုရာထူးဝန်အဖွဲ့ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များအဖြစ် ခန့်အပ်တာဝန်ပေးရမည် -

(၁) အသက် ၅၀ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသော ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) အတွေ့အကြုံရင့်ကျက်သော အသိပညာရှင်၊ အတတ်ပညာရှင်ဖြစ်သူ၊

(၅) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ၊

(၆) နိုင်ငံရေးပါတီဝင် မဟုတ်သူ၊

(၇) လွှတ်တော်ကိုယ်စားလှယ် မဟုတ်သူ။

(ဂ) ပြည်ထောင်စုရာထူးဝန်အဖွဲ့ ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များသည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် ပြည်ထောင်စုရာထူးဝန်အဖွဲ့ ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များအဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ တည်ဆဲဝန်ထမ်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ နိုင်ငံ့ဝန်ထမ်းအဖြစ်မှ အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(d) The Chairperson of the Union Civil Services Board shall be responsible to the President, and members of the Union Civil Services Board shall be responsible to the President through the Chairperson of Union Civil Services Board.

(e) The term of the Chairperson and members of the Union Civil Services Board is normally the same as that of the President.

(f) Formation of the Union Civil Services Board, duties, powers and rights of the Chairperson and Members, resignation and termination of duties shall be prescribed by law.

**The Region Government or the State Government**

247. (a) The Head of the Region or State shall be called the Chief Minister of the Region or State.

(b) The Member of the Region or State Government shall be called the Minister of the Region or State.

**Formation of the Region Government or State Government**

248. (a) The Region Government is formed in the Region and State Government is formed in the State respectively.

(b) The Region or State Government is formed with the following persons :

(i) the Chief Minister of the Region or State;

(ii) the Ministers of the Region or State;

(iii) the Adovocate General of the Region or State.

(c) The President, with the approval of the Region or State Hluttaw concerned, may :

(i) specify the Region or State Ministries as may be necessary. Moreover, he may make changes and additions to the specified Ministries;

(ii) specify the number of the Ministers of the Region or State as may be necessary. Moreover, the specified number may be increased or decreased.

(ဃ) ပြည်ထောင်စုရာထူးဝန်အဖွဲ့ဥက္ကဋ္ဌသည် နိုင်ငံတော်သမ္မတအားလည်းကောင်း၊ အဖွဲ့ဝင်များသည် ပြည်ထောင်စုရာထူးဝန်အဖွဲ့ဥက္ကဋ္ဌနှင့် ယင်းမှတစ်ဆင့် နိုင်ငံတော်သမ္မတအားလည်းကောင်း တာဝန်ခံရမည်၊

(င) ပြည်ထောင်စုရာထူးဝန်အဖွဲ့ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များ၏ သက်တမ်းသည် သာမန်အားဖြင့် နိုင်ငံတော်သမ္မတ၏ ရာထူးသက်တမ်းအတိုင်း ဖြစ်သည်၊

(စ) ပြည်ထောင်စုရာထူးဝန်အဖွဲ့ဖွဲ့စည်းခြင်း၊ ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်တို့၏တာဝန်များ၊ လုပ်ပိုင်ခွင့်များ၊ ရပိုင်ခွင့်များ၊ ရာထူးမှနုတ်ထွက်ခြင်းနှင့် တာဝန်မှရပ်စဲခြင်း တို့ကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## တိုင်းဒေသကြီး အစိုးရအဖွဲ့ သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့

၂၄၇။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ အုပ်ချုပ်ရေးအကြီးအမှူးကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်ဟု ခေါ်ဝေါ်ရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏အစိုးရအဖွဲ့ဝင်ကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးဟု ခေါ်ဝေါ်ရမည်။

## တိုင်းဒေသကြီးအစိုးရအဖွဲ့ သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ ဖွဲ့စည်းခြင်း

၂၄၈။ (က) တိုင်းဒေသကြီးတွင် တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပြည်နယ်တွင် ပြည်နယ် အစိုးရအဖွဲ့ ဖွဲ့စည်းထားရှိသည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ကို အောက်ဖော်ပြပါ ပုဂ္ဂိုလ် များဖြင့် ဖွဲ့စည်းသည် -

(၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်၊

(၂) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးများ၊

(၃) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်။

(ဂ) နိုင်ငံတော်သမ္မတသည် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်၏သဘောတူညီချက်ဖြင့် -

(၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးဌာနများကို လိုအပ်သလို သတ်မှတ်နိုင်သည်။ ထို့ပြင် သတ်မှတ်ဝန်ကြီးဌာနများကို ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းပြုနိုင်သည်၊

(၂) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးဦးရေကို လိုအပ်သလို သတ်မှတ်နိုင်သည်။ ထို့ပြင် သတ်မှတ်ဦးရေကို တိုးခြင်း၊ လျှော့ခြင်း ပြုနိုင်သည်။

**Executive powers of the Region or State Government**

249. Subject to the provisions of the Constitution, the executive power of the Region or State Government extends to the administrative matters which the Region or State Hlutttaw has power to make laws. Moreover, it also extends to the matters which the Region or State Government is permitted to perform in accord with any Union Law.

250. The Region or State Government shall have the responsibility to assist the Union Government in the preservation of the stability of the Union, community peace and tranquillity and prevalence of law and order.

251. The Region or State Government shall, subject to the policies adopted by the Union Government and Union Laws, implement projects that are to be undertaken in the Region or State with the approval of the Region or State Hluttaw concerned.

252. The Region or State Government shall, in accord with the provisions of the Constitution, submit the Region or State Budget Bill based on the annual Union Budget to the Region or State Hluttaw concerned.

253. The Region or State Government shall, if the Region or State Budget Bill is unable to promulgate before the end of the Budget year, expend within the framework of the general expenditure included in the last-enacted Budget Law of the Region or State Hluttaw.

**တိုင်းဒေသကြီးအစိုးရ သို့မဟုတ် ပြည်နယ်အစိုးရ၏ အုပ်ချုပ်မှုအခွင့်အာဏာ**

၂၄၉။ ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရ၏ အုပ်ချုပ်မှုအာဏာသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ဥပဒေပြုနိုင်သောကိစ္စရပ်များသို့ သက်ရောက်ပျံ့နှံ့သည်။ ထို့ပြင် ပြည်ထောင်စု ဥပဒေတစ်ရပ်ရပ်အရ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအား ဆောင်ရွက်ခွင့်ပြုသည့် ကိစ္စရပ်များသို့လည်း သက်ရောက်ပျံ့နှံ့သည်။

၂၅၀။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် ပြည်ထောင်စုအစိုးရက နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေးတို့ကို ထိန်းသိမ်းစောင့်ရှောက်ရာတွင် ကူညီရန်တာဝန်ရှိသည်။

၂၅၁။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် ပြည်ထောင်စုအစိုးရက ချမှတ်ထားသည့် မူဝါဒများနှင့်သော်လည်းကောင်း၊ ပြည်ထောင်စုဥပဒေများနှင့်သော်လည်းကောင်း မဆန့်ကျင်စေဘဲ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း အကောင်အထည်ဖော် ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်းသည့် စီမံကိန်းများကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၂၅၂။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စု၏ နှစ်စဉ်အရအသုံး ခန့်မှန်းခြေငွေစာရင်းအပေါ် အခြေပြုလျက် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ဥပဒေကြမ်းကို ပြဋ္ဌာန်းပေးနိုင်ရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်သွင်းရမည်။

၂၅၃။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် မိမိတင်သွင်းသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာဥပဒေကြမ်းကို ဘဏ္ဍာရေးနှစ်မကုန်ဆုံးမီ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ပြဋ္ဌာန်းခြင်း မပြုနိုင်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က နောက်ဆုံးပြဋ္ဌာန်းထားသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာဥပဒေပါ သာမန်အသုံးစရိတ် ခွင့်ပြုချက်ဘောင်အတွင်း သုံးစွဲခွင့်ရှိသည်။

**Charges and Taxes to be Collected by the Region or State Government**

254. (a) The Region or State shall collect the taxes and revenues listed in Schedule Five in accord with law and deposit them in the Region or State fund.

(b) The Region or State has the right to expend the Region or State fund in accord with the law.

255. The Region or State Government, in accord with the provisions of the Constitution, may submit the necessary Bill relating to matters listed in Schedule Two of the Region or State Legislative List to the Region or State Hluttaw.

256. The Region or State Government :

(a) shall, in carrying out the functions of the Region or State Ministries, their subordinate governmental departments and organizations, manage, guide, supervise and inspect in accord with the provisions of the Constitution and the existing laws;

(b) may, relating to the performance of the civil service organizations discharging duties in their Region or State concerned, supervise, inspect and co-ordinate in accord with the law.

257. The Region or State Government may, for enabling the performance of the functions to be carried out in accord with the Union Law for Civil Services and in co-ordination with the Union Government in advance :

(a) form Civil Services organizations relating to the Region or State as necessary;

(b) appoint the required number of Civil Services personnel.

**တိုင်းဒေသကြီးအစိုးရ သို့မဟုတ် ပြည်နယ်အစိုးရများက ကောက်ခံရမည့် အခွန်အခများ**

၂၅၄။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များက ဇယား ၅ ပါ အခွန်အခများကို ဥပဒေနှင့်အညီကောက်ခံ၍ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဘဏ္ဍာရန်ပုံငွေသို့ ပေးသွင်းရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဘဏ္ဍာရန်ပုံငွေများကို ဥပဒေနှင့်အညီ သုံးစွဲခွင့်ရှိသည်။

၂၅၅။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဇယား ၂ ရှိ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် ဥပဒေပြုစာရင်းပါ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ လိုအပ်သည့်ဥပဒေကြမ်းကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်သွင်းနိုင်သည်။

၂၅၆။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် -

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးဌာနများနှင့် ယင်းတို့၏ လက်အောက်အစိုးရဌာနများ၊ အဖွဲ့အစည်းများ၏လုပ်ငန်းဆောင်ရွက်မှုများကို ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဖြစ်စေရန်လည်းကောင်း၊ တည်ဆဲဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ ဖြစ်စေရန်လည်းကောင်း စီမံခန့်ခွဲခြင်း၊ လမ်းညွှန်ခြင်း၊ ကြီးကြပ်ခြင်း၊ စစ်ဆေးခြင်း ပြုရမည်၊

(ခ) မိမိတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း တာဝန်ထမ်းဆောင်လျက်ရှိသော နယ်ဘက်ဝန်ထမ်းအဖွဲ့အစည်းများ၏ လုပ်ငန်းဆောင်ရွက်မှုများကိုလည်း ဥပဒေနှင့်အညီ ကြီးကြပ်ခြင်း၊ စစ်ဆေးခြင်း၊ ပေါင်းစပ်ညှိနှိုင်းပေးခြင်း ပြုနိုင်သည်။

၂၅၇။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် နိုင်ငံ့ဝန်ထမ်းဆိုင်ရာ ပြည်ထောင်စု ဥပဒေနှင့်အညီလည်းကောင်း၊ ပြည်ထောင်စုအစိုးရနှင့် ကြိုတင်ညှိနှိုင်း၍လည်းကောင်း မိမိတာဝန်ယူ အကောင်အထည်ဖော်ရသည့်လုပ်ငန်းများကို ဆောင်ရွက်နိုင်ရန် -

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဆိုင်ရာ နယ်ဘက်ဝန်ထမ်းအဖွဲ့အစည်းများကို လိုအပ်သလို ဖွဲ့စည်းနိုင်သည်၊

(ခ) လိုအပ်သော နယ်ဘက်ဝန်ထမ်းများကို ခန့်အပ်နိုင်သည်။

258. The Region or State Government shall :

(a) implement the administrative resolutions passed occasionally by the Region or State concerned and report back the actions which has taken to the Region or State Hluttaw concerned;

(b) submit the report on the general situations of its area to the Union Government and to the Region or State Hluttaw concerned.

259. The Region or State Government shall discharge the functions occasionally assigned by the Union Government.

**Office of the Region or State Government**

260. The Head of the General Administration Department of the Region or State is the ex-officio Secretary of the Region or State Government concerned. Moreover, the General Administration Department of the Region or State is the Office of the Region or State Government concerned.

## Chief Minister of the Region or State

**Appointment of the Chief Minister of the Region or State**

261. (a) The Chief Minister of the Region or State shall have the following qualifications :

(i) person who has attained the age of 35 years;

(ii) person who has qualifications, with the exception of the age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

၂၅၈။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် -

(က) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က အခါအားလျော်စွာ ချမှတ်သည့် အုပ်ချုပ်ရေးဆိုင်ရာဆုံးဖြတ်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ မိမိ၏အရေးယူဆောင်ရွက်ချက်များကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ ပြန်လည်အစီရင်ခံရမည်၊

(ခ) မိမိနယ်မြေဒေသ၏ အခြေအနေအရပ်ရပ်နှင့်စပ်လျဉ်းသည့် အစီရင်ခံစာကို ပြည်ထောင်စုအစိုးရနှင့် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်ပြရမည်။

၂၅၉။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် ပြည်ထောင်စုအစိုးရက အခါအားလျော်စွာ ပေးအပ်လာသည့်လုပ်ငန်းတာဝန်များကို ထမ်းဆောင်ရမည်။

**တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ရုံး**

၂၆၀။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အကြီးအမှူးသည် ရာထူးအလျောက် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့၏ အတွင်းရေးမှူးဖြစ်သည်။ ထို့အပြင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသည် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ရုံးလည်းဖြစ်သည်။

## တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် ဝန်ကြီးချုပ်

**တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် ခန့်အပ်တာဝန်ပေးခြင်း**

၂၆၁။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် အောက်ပါ အရည်အချင်းများနှင့် ပြည့်စုံရမည် -

(၁) အသက် ၃၅ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့် ပြည့်စုံသူ၊

(iii) person whose qualification does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) person who is loyal to the Union and its citizens.

(b) In order to appoint the Chief Minister of the Region or State concerned, the President shall :

(i) select a suitable Hluttaw representative who has the prescribed qualifications from among the Region or State Hluttaw representatives concerned;

(ii) submit the list of the elected Hluttaw representatives to the Region or State Hluttaw concerned for its approval.

(c) The President shall appoint the Hluttaw representative approved by the Region or State Hluttaw as the Chief Minister of the Region or State concerned.

(d) The appointment of a person as a Chief Minister of the Region or State nominated by the President shall not be refused by the Region or State Hluttaw unless it can clearly be proved that the person concerned does not meet the qualifications of the Chief Minister of the Region or State.

(e) The President has the right to submit again the list with a new name replacing the one who has not been approved by the Region or State Hluttaw for the appointment of the Chief Minister.

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) နိုင်ငံတော်သမ္မတသည် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် -

(၁) သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များထဲက သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံသော သင့်လျော်သည့် လွှတ်တော်ကိုယ်စားလှယ်တစ်ဦးအား ရွေးချယ်ရမည်၊

(၂) ရွေးချယ်ထားသည့် လွှတ်တော်ကိုယ်စားလှယ်၏ အမည်စာရင်းကို သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ ပေးပို့လျက် သဘောတူညီချက်ရယူရမည်။

(ဂ) နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်ရရှိပြီးသည့် လွှတ်တော်ကိုယ်စားလှယ်အား သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရမည်၊

(ဃ) တိုင်းဒေသကြီးသို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့် မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် နိုင်ငံတော်သမ္မတက အမည်စာရင်းတင်သွင်းသည့် လွှတ်တော်ကိုယ်စားလှယ်အား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့် မရှိစေရ၊

(င) နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်မရရှိသည့် ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ ထပ်မံတင်သွင်းခွင့် ရှိသည်။

## Ministers of the Region or Ministers of the State

### Appointment of the Ministers of the Region or Ministers of the State

262. (a) The Chief Minister of the Region or State shall :

(i) select suitable persons who have prescribed qualifications under Sub-Section (a) of Section 261, from among the Region or State Hluttaw representatives or from among persons who are not Hluttaw representatives concerned;

(ii) request for a list of suitable Defence Services personnel nominated by the Commander-in-Chief of the Defence Services to assign responsibilities of Security and Border Affairs;

(iii) obtain a list of Chairpersons of Leading Bodies of the Self-Administered Division or the Self-Administered Zone in the Region or State concerned;

(iv) obtain the list of Hluttaw representatives elected to carry out the affairs of National races in the Region or State concerned from the relevant Election Commission.

(b) The Chief Minister of the Region or State shall compile the list of persons selected by him and the list of the Defence Services personnel nominated by the Commander-in-Chief of the Defence Services and submit them to the Region or State Hluttaw concerned for its approval.

(c) The appointment of a person as a Minister of the Region or State nominated by the Chief Minister of the Region or State shall not be refused by the Region or State Hluttaw unless it can clearly be proved that the person concerned does not have the qualifications of the Minister of the Region or State.

## တိုင်းဒေသကြီးဝန်ကြီးများ သို့မဟုတ် ပြည်နယ်ဝန်ကြီးများ

### တိုင်းဒေသကြီးဝန်ကြီးများ သို့မဟုတ် ပြည်နယ်ဝန်ကြီးများ ခန့်အပ်တာဝန်ပေးခြင်း

၂၆၂။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် -

(၁) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲကဖြစ်စေ ပုဒ်မ ၂၆၁၊ ပုဒ်မခွဲ (က) ပါ ပြဋ္ဌာန်းချက်တွင် သတ်မှတ်ထားသည့် အရည်အချင်းများနှင့်ပြည့်စုံသော သင့်လျော်သည့် ပုဂ္ဂိုလ်များကို ရွေးချယ်ရမည်၊

(၂) လုံခြုံရေးနှင့်နယ်စပ်ရေးရာ တာဝန်ပေးအပ်နိုင်ရန် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ထံမှ သင့်လျော်သည့် တပ်မတော်သားများ၏ အမည်စာရင်းကို တောင်းခံရမည်၊

(၃) သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းရှိ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ထံမှ ယင်းတို့၏ဥက္ကဋ္ဌအမည်စာရင်းကို ရယူရမည်၊

(၄) သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းရှိ တိုင်းရင်းသားလူမျိုးရေးရာ ဆောင်ရွက်ရန်အတွက် ရွေးကောက်တင်မြှောက်ထားသည့် လွှတ်တော်ကိုယ်စားလှယ်များ၏ အမည်စာရင်းကို သက်ဆိုင်ရာ ရွေးကောက်ပွဲ ကော်မရှင်ထံမှ ရယူရမည်။

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် မိမိရွေးချယ်ထားသည့် ပုဂ္ဂိုလ်များနှင့်တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ထံမှရရှိသည့်တပ်မတော်သားများ၏ အမည်စာရင်းကိုစုစည်းပြီး သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့တင်သွင်းလျက် သဘောတူညီချက်ရယူရမည်၊

(ဂ) တိုင်းဒေသကြီးသို့မဟုတ် ပြည်နယ်ဝန်ကြီးများအတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့် မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က အမည်စာရင်းတင်သွင်းသည့် ပုဂ္ဂိုလ်များအား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့်မရှိစေရ၊

(d) The Chief Minister of the Region or State has the right to submit again the list with a new name replacing the one who has not been approved by the Region or State Hluttaw for the appointment of a Minister of the Region or State.

(e) The Chief Minister of the Region or State shall submit the list of persons who are approved by the Region or State Hluttaw or Chairpersons of the Self-Administered Division or Self-Administered Zone and the list of persons who are representatives elected to undertake the affairs of National races to appoint as the Ministers of the Region or State to the President.

(f) The President shall appoint the persons who have been approved by the Chief Minister of the Region or State as Ministers of the Region or State. In doing so, he shall, in co-ordination with the Chief Minister of the Region or State concerned, designate the Ministry or Ministries which each Region or the State Minister to take responsiblity.

(g) The President shall :

(i) assign duties to the Chairpersons of the Self-Administered Division and the Self-Administered Zone who are the Ministers of the Region or State, to perform the affairs of the Self-Administered Division or Self-Administered Zone concerned;

(ii) assign duties to the Hluttaw representatives who are the Ministers of the Region or State, to perform the affairs of National races concerned.

(ဃ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်မရရှိသည့်ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(င) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်ရရှိပြီးသည့် ပုဂ္ဂိုလ်များကိုသော်လည်းကောင်း၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဥက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဥက္ကဋ္ဌများ၏ အမည်စာရင်းနှင့် တိုင်းရင်းသားလူမျိုးရေးရာ ဆောင်ရွက်ရန် ရွေးကောက်တင်မြှောက်ထားသည့် လွှတ်တော်ကိုယ်စားလှယ်များ၏ အမည်စာရင်းပါပုဂ္ဂိုလ်များကိုသော်လည်းကောင်း တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးရန် နိုင်ငံတော်သမ္မတထံ တင်ပြရမည်၊

(စ) နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ်ပြည်နယ်ဝန်ကြီးချုပ်က တင်ပြလာသည့်ပုဂ္ဂိုလ်များအား သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးများအဖြစ် ခန့်အပ်တာဝန်ပေးရမည်။ ထိုသို့ခန့်အပ်တာဝန်ပေးရာတွင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီး တစ်ဦးချင်းအလိုက် တာဝန်ယူရမည့်ဝန်ကြီးဌာန သို့မဟုတ် ဝန်ကြီးဌာနများကို သက်ဆိုင်ရာ ဝန်ကြီးချုပ်နှင့် ညှိနှိုင်းလျက်သတ်မှတ်ပေးရမည်၊

(ဆ) နိုင်ငံတော်သမ္မတသည် -

(၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးများဖြစ်သည့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဥက္ကဋ္ဌနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဥက္ကဋ္ဌများအား သက်ဆိုင်ရာကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသရေးရာများကို ဆောင်ရွက်ရန်တာဝန်ပေးအပ်ရမည်၊

(၂) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးများဖြစ်သည့် တိုင်းရင်းသားလူမျိုးရေးရာဆောင်ရွက်ရန် ရွေးကောက်တင်မြှောက်ထားသည့် လွှတ်တော်ကိုယ်စားလှယ်များအား သက်ဆိုင်ရာ တိုင်းရင်းသားလူမျိုးရေးရာများကိုဆောင်ရွက်ရန် တာဝန်ပေးအပ်ရမည်။

(h) The President shall relax the prescribed age limit under the Constitution in appointing the Minister of the Region or State, the Chairperson of the Self-Administered Division or the Self-Administered Zone or elected Hluttaw representative to perform the affairs of National races concerned.

(i) The President may, in co-ordination with the Chief Minister, appoint Ministers for the Self-Administered Division or the Self-Administered Zone or Ministers for National races affairs as Ministers concurrently in charge of other Ministries.

(j) The Chief Minister of the Region or State shall, if he wishes to assign the Defence Services personnel as the Region or State Ministers for other duties apart from security and border affairs, obtain their list from the Commander-in-Chief of the Defence Services with the approval of the Region or State Hluttaw concerned, submit it to the President.

(k) The President shall intimate the appointments of the Chief Minister and Ministers of the Region or State to the Region or State Hluttaw concerned and Pyidaungsu Hluttaw.

(l) (i) The Chief Minister of the Region or State shall be responsible to the President.

(ii) The Ministers of the Region or State shall be responsible to the Chief Minister of the Region or State concerned and to the President through the Chief Minister of the Region or State concerned.

(m) The term of the Chief Minister and Ministers of the Region or State is the same as that of the President.

(ဇ) သက်ဆိုင်ရာကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဥက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဥက္ကဋ္ဌအားလည်းကောင်း၊ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းရှိ တိုင်းရင်းသားလူမျိုးရေးရာ ဆောင်ရွက်ရန် ရွေးကောက်တင်မြှောက်ထားသည့် လွှတ်တော်ကိုယ်စားလှယ်အားလည်းကောင်း တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးရာတွင် နိုင်ငံတော်သမ္မတသည် ဖွဲ့စည်းပုံအခြေခံဥပဒေတွင် သတ်မှတ်ထားသည့် အသက်ကန့်သတ်ချက်ကို လျှော့ပေါ့ပေးရမည်၊

(ဈ) နိုင်ငံတော်သမ္မတသည် ဝန်ကြီးချုပ်နှင့်ညှိနှိုင်း၍ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဆိုင်ရာ ဝန်ကြီးများအားလည်းကောင်း၊ တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီးများအားလည်းကောင်း အခြားဝန်ကြီးဌာန တာဝန်များကိုလည်း ပူးတွဲတာဝန်ပေးအပ်နိုင်သည်၊

(ည) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် လုံခြုံရေးနှင့် နယ်စပ်ရေးရာတာဝန်များမှအပ အခြားတာဝန်များအတွက် တပ်မတော်သားများအား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးအဖြစ် ခန့်အပ်တာဝန်ပေးလိုလျှင် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ထံမှ အမည်စာရင်းတောင်းခံ၍ ယင်းအမည်စာရင်းကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်ရယူလျက် နိုင်ငံတော်သမ္မတထံ တင်ပြရမည်၊

(ဋ) နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်နှင့် ဝန်ကြီးများ ခန့်အပ်တာဝန်ပေးခြင်းများကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့လည်းကောင်း၊ ပြည်ထောင်စုလွှတ်တော်သို့လည်းကောင်း အကြောင်းကြားရမည်၊

(ဌ) (၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် နိုင်ငံတော်သမ္မတအား တာဝန်ခံရမည်၊

(၂) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးများသည် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အားလည်းကောင်း၊ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် မှတစ်ဆင့် နိုင်ငံတော်သမ္မတအားလည်းကောင်း တာဝန်ခံရမည်။

(ဍ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်နှင့် ဝန်ကြီးများ၏ ရာထူးသက်တမ်းသည် သာမန်အားဖြင့် နိုင်ငံတော်သမ္မတ၏ ရာထူးသက်တမ်း အတိုင်းဖြစ်သည်၊

(n) (i) If the Minister of the Region or State is a Civil Services personnel, it shall be deemed that he has retired according to the existing Civil Services rules and regulations from the day he is appointed as Minister of the Region or State.

(ii) The Defence Services personnel who are appointed as Ministers of the Region or State for Ministries of Security and Border Affairs are not required to retire or resign from the Defence Services.

**Impeachment of the Chief Minister of the Region or State or any Minister**

263. (a) The Chief Minister of the Region or State or any Minister, may be impeached for one of the following reasons :

(i) high treason;

(ii) breach of any of the provisions of the Constitution;

(iii) misconduct;

(iv) disqualification of qualification of the Chief Minister or Minister of the Region or State prescribed in the Constitution;

(v) inefficient discharge of duties assigned by law.

(b) If there is a need to impeach the Chief Minister or any of the Ministers of the Region or State, a charge signed by not less than one-fourth of the total number of representatives of either the Region or State Hluttaw concerned shall be submitted to the Speaker of the Hluttaw concerned.

(c) The Speaker of the Hluttaw concerned shall form a body of investigation to investigate the charge. The term of the completion of the investigation shall be determined on the volume of work.

(ဃ) (၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးသည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးအဖြစ် ခန့်အပ်ခြင်း ခံရသည့်နေ့မှစ၍ တည်ဆဲ ဝန်ထမ်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ နိုင်ငံ့ဝန်ထမ်းအဖြစ်မှ အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(၂) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့များ၏ လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာနများတွင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးအဖြစ် ခန့်ထားခြင်းခံရသော တပ်မတော်သားများသည် တပ်မတော်မှအငြိမ်းစားယူရန် သို့မဟုတ် နုတ်ထွက်ရန်မလို။

**တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦးအပေါ် စွပ်စွဲပြစ်တင်ခြင်း**

၂၆၃။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦး အား အောက်ပါအကြောင်းတစ်ရပ်ရပ်ကြောင့် စွပ်စွဲပြစ်တင်နိုင်သည် -

(၁) နိုင်ငံတော်၏ကျေးဇူးသစ္စာတော်ကို ဖောက်ဖျက်ခြင်း၊

(၂) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက် ကျူးလွန်ခြင်း၊

(၃) အကျင့်သိက္ခာ ပျက်ပြားခြင်း၊

(၄) ဖွဲ့စည်းပုံအခြေခံဥပဒေတွင် ပြဋ္ဌာန်းထားသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီး၏အရည်အချင်း ပျက်ယွင်းခြင်း၊

(၅) ဥပဒေအရပေးအပ်သောတာဝန်များကို ကျေပွန်စွာမဆောင်ရွက်ခြင်း။

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦး အပေါ် ဖော်ပြပါအကြောင်းတစ်ရပ်ရပ်ဖြင့် စွပ်စွဲပြစ်တင်လိုပါက သက်ဆိုင်ရာ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံးလေးပုံတစ်ပုံက လက်မှတ်ရေးထိုးပြီး မိမိတို့၏စွပ်စွဲချက်ကို သက်ဆိုင်ရာလွှတ်တော်ဥက္ကဋ္ဌထံ တင်ပြရမည်၊

(ဂ) သက်ဆိုင်ရာ လွှတ်တော်ဥက္ကဋ္ဌသည် စုံစမ်းစစ်ဆေးရေးအဖွဲ့ကို ဖွဲ့စည်း၍ စွပ်စွဲချက်ကို စုံစမ်းစစ်ဆေးစေရမည်။ စုံစမ်းစစ်ဆေးရမည့် လုပ်ငန်းပမာဏ ကိုထောက်ရှု၍ စုံစမ်းစစ်ဆေးမှုပြီးစီးရမည့်ကာလကိုလည်း သတ်မှတ်ပေးရမည်၊

(d) When the charge is being investigated, the Chief Minister or Minister of the Region or State shall have the right to defend himself in person or through a representative.

(e) (i) If an Investigation Body submits its investigation concerning the impeachment of the Chief Minister or any Minister of the Region or State by the Region or State Hluttaw concerned, the Speaker of the Hluttaw shall submit it to the relevant Region or State Hluttaw.

If, after the investigation, on submitting the findings of the charge has been substantiated and that Chief Minister or any Minister of the Region or State is unfit to continue in office by not less than two-thirds of the total number of representatives of the Hluttaw concerned which investigated, the Speaker shall submit the resolution to the President.

(ii) The President, upon receipt of the report, shall remove the impeached Chief Minister or Minister of the Region or State.

(iii) If the Hluttaw concerned resolves that the charge has been failed, the Speaker of the Hluttaw shall submit the resolution to the President.

**Resignation, termination of office, filling the vacancy of the Chief Minister or Minister of the Region or State**

264. (a) The Chief Minister or any Minister of the Region or State may resign from office on his own volition due to a certain reason before expiry of the term of office, after submitting his written resignation to the President.

(ဃ) စွပ်စွဲချက်ကိုစုံစမ်းစစ်ဆေးသည့်အခါ စွပ်စွဲပြစ်တင်ခြင်းခံရသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးအား ကိုယ်တိုင်သော်လည်းကောင်း၊ ကိုယ်စားလှယ်ဖြင့်သော်လည်းကောင်း ချေပခွင့်ပေးရမည်၊

(င) (၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦးအပေါ် သက်ဆိုင်ရာတိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်၏ စွပ်စွဲပြစ်တင်မှုနှင့်စပ်လျဉ်း၍ စုံစမ်းစစ်ဆေးရေးအဖွဲ့က စုံစမ်းစစ်ဆေးတွေ့ရှိချက်များကို တင်ပြလာလျှင် လွှတ်တော်ဥက္ကဋ္ဌသည် သက်ဆိုင်ရာတိုင်းဒေသကြီး လွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်ပြရမည်။ သက်ဆိုင်ရာ လွှတ်တော်ကိုယ်စားလှယ်စုစုပေါင်းဦးရေ အနည်းဆုံးသုံးပုံနှစ်ပုံက စွပ်စွဲပြစ်တင်မှုသည်မှန်ကန်၍ စွပ်စွဲခံရသူသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးရာထူးတွင် ဆက်လက်ထမ်းရွက်စေရန် မသင့်ကြောင်းဆုံးဖြတ်လျှင် ဥက္ကဋ္ဌသည် ထိုဆုံးဖြတ်ချက်ကို နိုင်ငံတော်သမ္မတထံ တင်ပြအစီရင်ခံရမည်၊

(၂) နိုင်ငံတော်သမ္မတသည် တင်ပြချက်ရရှိလျှင် စွပ်စွဲပြစ်တင်ခြင်းခံရသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးအား ရာထူးမှရပ်စဲရမည်၊

(၃) စွပ်စွဲပြစ်တင်မှုသည် မမှန်ကန်ကြောင်း သက်ဆိုင်ရာလွှတ်တော်က ဆုံးဖြတ်လျှင် ထိုသို့ဆုံးဖြတ်ကြောင်းကို လွှတ်တော်ဥက္ကဋ္ဌသည် နိုင်ငံတော်သမ္မတထံ တင်ပြအစီရင်ခံရမည်။

**တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦး နုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်းနှင့် လစ်လပ်ရာထူးနေရာ ဖြည့်စွက်ခန့်ထားခြင်း**

၂၆၄။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦးသည် ရာထူးသက်တမ်းမကုန်ဆုံးမီ အကြောင်းတစ်ခုခုကြောင့် မိမိသဘောဆန္ဒအလျောက် ရာထူးမှနုတ်ထွက်လိုလျှင် ထိုသို့နုတ်ထွက်လိုကြောင်း နိုင်ငံတော်သမ္မတထံ စာဖြင့်တင်ပြပြီး ရာထူးမှနုတ်ထွက်နိုင်သည်၊

(b) The President shall :

(i) direct to resign the Chief Minister or Minister of the Region or State who cannot discharge his duties efficiently. If he fails to comply, he shall be terminated from his duties;

(ii) co-ordinate with the Commander-in-Chief of the Defence Services concerning the Denfence Services personnel who is Minister of the Region or State who has to resign or be terminated from his duties.

(c) If the office of the Chief Minister or Ministers of the Region or State becomes vacant due to resignation, removal from office, death or any other reason, the President shall have the right to appoint and assign duties to a new Chief Minister of the Region or State in accord with the provisions of the Constitution relating to the appointment of the Chief Minister or Ministers of the Region or State. The term of the newly appointed Chief Minister or Ministers of the Region or State shall be the same as the remaining term of the President.

(d) Duties, powers and rights of the Chief Minister and Ministers of the Region or State shall be prescribed by law.

**Advocate-General of the Region or Advocate-General of the State**

265. The Advocate-General of the Region or the Advocate-General of the State shall be called the Advocate-General of the Region or the Advocate-General of the State.

**The Appointment of the Advocate-General of the Region or State**

266. (a) The Chief Minister of the Region or State shall, with the approval of the Region or State Hluttaw concerned, appoint a person from among the Region or State Hluttaw representatives or from those who are not the

(ခ) နိုင်ငံတော်သမ္မတသည် -

(၁) လုပ်ငန်းတာဝန်ကို ကျေပွန်စွာမထမ်းဆောင်နိုင်သော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးအား ရာထူးမှ နုတ်ထွက်ရန် ညွှန်ကြားနိုင်သည်။ ညွှန်ကြားသည့်အတိုင်း လိုက်နာခြင်း မပြုလျှင် တာဝန်မှရပ်စဲရမည်၊

(၂) ရာထူးမှနုတ်ထွက်ရမည့် သို့မဟုတ် တာဝန်မှရပ်စဲခံရမည့် တပ်မတော်သား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးနှင့် ပတ်သက်လျှင် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

(ဂ) ရာထူးမှနုတ်ထွက်ခြင်းကြောင့်ဖြစ်စေ၊ တာဝန်မှရပ်စဲခံရခြင်းကြောင့်ဖြစ်စေ၊ ကွယ်လွန်ခြင်းကြောင့်ဖြစ်စေ၊ အခြားအကြောင်းတစ်ခုခုကြောင့်ဖြစ်စေ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးရာထူး နေရာလစ်လပ်လျှင် နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးများ ခန့်အပ်တာဝန်ပေးခြင်းနှင့် စပ်လျဉ်း၍ ဖွဲ့စည်းပုံအခြေခံဥပဒေပါ သက်ဆိုင်ရာပြဋ္ဌာန်းချက်များနှင့်အညီ လစ်လပ်သည့်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားနိုင်သည်။ ထိုသို့ ဖြည့်စွက် ခန့်ထားခြင်းခံရသည့် ပုဂ္ဂိုလ်၏ ရာထူးသက်တမ်းသည် နိုင်ငံတော်သမ္မတ၏ ကျန်ရှိသည့်ရာထူးသက်တမ်းအတွက်သာ ဖြစ်စေရမည်၊

(ဃ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်နှင့် ဝန်ကြီးများ၏တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## တိုင်းဒေသကြီးဥပဒေချုပ် သို့မဟုတ် ပြည်နယ်ဥပဒေချုပ်

၂၆၅။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ရှေ့နေချုပ်ကို တိုင်းဒေသကြီးဥပဒေချုပ် သို့မဟုတ် ပြည်နယ်ဥပဒေချုပ်ဟု ခေါ်ဝေါ်ရမည်။

## တိုင်းဒေသကြီးဥပဒေချုပ် သို့မဟုတ် ပြည်နယ်ဥပဒေချုပ် ခန့်အပ်တာဝန်ပေးခြင်း

၂၆၆။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် ဥပဒေအကြံဉာဏ်များ ရယူနိုင်ရန်နှင့် ဥပဒေဆိုင်ရာတာဝန်များပေးနိုင်ရန် လွှတ်တော်ကိုယ်စားလှယ် များထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲကဖြစ်စေ

Hluttaw representatives having the following qualifications as the Advocate General of the Region or State to obtain legal advice and assign duties on legal matters :

(i) person who has attained the age of 40 years;

(ii) person who has qualifications, with the exception of age limit, as the Pyithu Hluttaw representatives , prescribed in Section 120;

(iii) persons whose qualification does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) (aa) person who has served as a judicial officer or law officer for at least five years not lower than that of the Region or State High Court; or person who has served as a judicial officer or law officer for at least 10 years not lower than that of the District Level;

(bb) person who has been an advocate for at least 15 years.

(v) person loyal to the Union and its citizens.

(b) The President, with the approval of the Hluttaw shall appoint a person from among Hluttaw representatives as the Advocate-General of the Region or State.

(c) The appointment of a person as the Advocate-General of the Region or State nominated by the Chief Minister of the Region or State, to be appointed as the Advocate-General of the Region or State shall not be refused by the Region or State Hluttaw concerned unless it can clearly be

အောက်ဖော်ပြပါ အရည်အချင်းများနှင့် ပြည့်စုံသူတစ်ဦးဦးအား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးနိုင်ရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်ပြ သဘောတူညီချက်ရယူ၍ နိုင်ငံတော်သမ္မတထံ တင်ပြရမည် -

(၁) အသက် ၄၀ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) (ကက) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့်ထက်မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိရာထူးတွင် အနည်းဆုံး ငါးနှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ် ခရိုင်အဆင့်ထက်မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိရာထူးတွင် အနည်းဆုံး ၁၀ နှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ်

(ခခ) တရားလွှတ်တော်ရှေ့နေဖြစ်လျှင် အနည်းဆုံး ၁၅ နှစ် အမှုလိုက်ပါဆောင်ရွက်ခဲ့သူ။

(၅) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(ခ) နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အဖြစ် တာဝန်ပေးအပ်ရန် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က သက်ဆိုင်ရာလွှတ်တော်၏ သဘောတူညီချက်ဖြင့် တင်ပြလာသည့် ပုဂ္ဂိုလ်အား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရမည်၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့်မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က အမည်စာရင်းတင်သွင်းသည့်

proved that the person concerned does not meet the qualifications of the Advocate-General of the Region or State.

(d) The Chief Minister of the Region or State has the right to submit again the list for the appointment of a person as the Advocate-General of the Region or State to the Region or State Hluttaw concerned instead of the one who has not been approved by the Region or State Hluttaw.

(e) The Advocate-General of the Region or State is a member of the Government of the Region or State concerned.

(f) The Advocate-General of the Region or State shall :

(i) be responsible to the President through the Chief Minister of the Region or State concerned;

(ii) be responsible to the relevant Advocate-General of the Union or the relevant Chief Minister of the Region or State.

**Impeachment of the Advocate-General of the Region or State**

267. If there is a need to impeach the Advocate-General of the Region or State, the same procedure for the impeachment of the Chief Minister or any Minister of the Region or State under Section 263 shall be applied.

**Resignation, termination of office, filling vacancy of the Advocate-General of the Region or State**

268. The Advocate-General of the Region or State is, subject to provisions of Sections 262 (n) and 264 prescribed for the relevant Chief Minister or the relevant Ministers of the Region or State concerning resignation, termination of office, filling the vacancy and deeming the person to have retired in case he is a Civil Services personnel.

ပုဂ္ဂိုလ်အား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့်မရှိစေရ၊

(ဃ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏သဘောတူညီချက်မရရှိသည့် ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(င) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်သည် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ဝင် ဖြစ်သည်၊

(စ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်သည် -

(၁) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်မှတစ်ဆင့် နိုင်ငံတော်သမ္မတအား တာဝန်ခံရမည်၊

(၂) ပြည်ထောင်စုရှေ့နေချုပ်အားလည်းကောင်း၊ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အားလည်းကောင်း တာဝန်ခံရမည်။

## တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အား စွပ်စွဲပြစ်တင်ခြင်း

၂၆၇။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်အား စွပ်စွဲပြစ်တင်ရန်ကိစ္စ ပေါ်ပေါက်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦးအား စွပ်စွဲပြစ်တင်ခြင်းဆိုင်ရာ ပုဒ်မ ၂၆၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

## တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်၏ ရာထူးမှနုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်းနှင့် လစ်လပ်သည့်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း

၂၆၈။ ရာထူးမှနုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်း၊ လစ်လပ်သည့်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း၊ နိုင်ငံ့ဝန်ထမ်းဖြစ်ပါက အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူခြင်းတို့နှင့်စပ်လျဉ်း၍ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးများအတွက် သတ်မှတ်ထားသည့် ပုဒ်မ ၂၆၂ (ဎ)နှင့် ၂၆၄ ပါ ပြဋ္ဌာန်းချက်များသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်နှင့်လည်း သက်ဆိုင်စေရမည်။

269. Duties, powers and rights of the Advocate-General of the Region or State shall be prescribed by law.

**Auditor-General of the Region or Auditor-General of the State**

270. The Auditor-General of the Region or State shall be called the Auditor-General of the Region or Auditor-General of the State.

**Appointment of the Auditor-General of the Region or the Auditor-General of the State**

271. (a) The Chief Minister of the Region or State shall appoint a person from Hluttaw representatives or from those who are not Hluttaw representatives, who has the following qualifications, with the approval of the relevant Region or State Hluttaw as the Auditor-General of the Region or State so as to audit the Region or State budget and report it:

(i) person who has attained the age of 40 years;

(ii) person who has qualifications, with the exception of age limit, as the Pyithu Hluttaw representatives prescribed in Section 120;

(iii) persons whose qualifications does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) (aa) person who has served as an auditor of the Region or State for at least five years not lower than that of the Region or State Level; or person who has served as an auditor at least 10 years not lower than that of the District Level; or

(bb) person who has served as a Registered Accountant or a Certified Public Accountant for at least 15 years;

(v) person who is loyal to the Union and its citizens .

၂၆၉။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေချုပ်၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

**တိုင်းဒေသကြီးစာရင်းစစ်ချုပ် သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်**

၂၇၀။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏စာရင်းစစ်ချုပ်ကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ် ဟုခေါ်ဝေါ်ရမည်။

**တိုင်းဒေသကြီးစာရင်းစစ်ချုပ် သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ် ခန့်အပ်တာဝန်ပေးခြင်း**

၂၇၁။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အရအသုံးငွေစာရင်းများကို စစ်ဆေး၍ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်ပြနိုင်ရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် လွှတ်တော် ကိုယ်စားလှယ်များ ထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲကဖြစ်စေ အောက်ဖော်ပြပါ အရည်အချင်းများနှင့် ပြည့်စုံသူတစ်ဦးဦးအား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးနိုင်ရေးအတွက် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်ပြ သဘောတူညီချက်ရယူ၍ နိုင်ငံတော်သမ္မတထံ တင်ပြရမည် -

(၁) အသက် ၄၀ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) (ကက) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်အရာရှိထက် မနိမ့်သောရာထူးတွင် အနည်းဆုံး ငါးနှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ် ခရိုင်အဆင့်စာရင်းစစ်အရာရှိထက် မနိမ့်သော ရာထူးတွင် အနည်းဆုံး ၁၀ နှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(ခခ) မှတ်ပုံတင်စာရင်းကိုင် သို့မဟုတ် လက်မှတ်ရပြည်သူ့စာရင်းကိုင်အဖြစ် အနည်းဆုံး ၁၅ နှစ် ဆောင်ရွက်ခဲ့သူ။

(၅) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

(b) The President shall appoint the person submitted by the relevant Chief Minister of the Region or State with the approval of the Hluttaw concerned as the Auditor-General of the Region or State.

(c) The person nominated by the Chief Minister of the Region or State concerned to be appointed as the Auditor-General of the Region or State shall not be refused by the Region or State Hluttaw concerned unless it can clearly be proved that the person concerned is not qualified to be the Auditor-General of the Region or State.

(d) The Chief Minister of the Region or State has the right to submit again the new list for the appointment of a person as the Auditor-General of the Region or State to the Region or State Hluttaw concerned instead of the one who has not been approved by the Region or State Hluttaw.

(e) The Auditor-General of the Region or State shall :

(i) be responsible to the President through the Chief Minister of the Region or State concerned;

(ii) be responsible to the Auditor-General of the Union and to the Chief Minister of the Region or State concerned.

**Impeachment of the Auditor-General of the Region or the Auditor-General of the State**

272. If there is a need to impeach the Auditor-General of the Region or State, the same procedure for the impeachment of the Chief Minister or any Minister of the Region or State under Section 263 shall be applied.

(ခ) နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်အဖြစ် တာဝန်ပေးအပ်ရန် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် ဝန်ကြီးချုပ်က သက်ဆိုင်ရာလွှတ်တော်၏ သဘောတူညီချက်ဖြင့် တင်ပြလာသည့်ပုဂ္ဂိုလ်အား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန် ပေးရမည်၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်အတွက် သတ်မှတ်ထား သော အရည်အချင်းများနှင့်မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က အမည်စာရင်း တင်သွင်းသည့်ပုဂ္ဂိုလ်အား တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ် အဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့်မရှိစေရ၊

(ဃ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်မရရှိသည့် ပုဂ္ဂိုလ်အစား အမည် စာရင်းသစ်ကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(င) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်သည် -

(၁) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်မှတစ်ဆင့် နိုင်ငံတော်သမ္မတအား တာဝန်ခံရမည်၊

(၂) ပြည်ထောင်စုစာရင်းစစ်ချုပ်အား လည်းကောင်း၊ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အား လည်းကောင်း တာဝန်ခံရမည်။

**တိုင်းဒေသကြီး စာရင်းစစ်ချုပ် သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်အား စွပ်စွဲပြစ်တင်ခြင်း**

၂၇၂။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်အား စွပ်စွဲပြစ်တင်ရန် ကိစ္စပေါ်ပေါက် လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးတစ်ဦးဦးအား စွပ်စွဲပြစ်တင်ခြင်းဆိုင်ရာ ပုဒ်မ ၂၆၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

**Resignation, termination of office, filling the vacancy of the Auditor-General of the Region or the Auditor-General of the State**

273. The Auditor-General of the Region or State is, subject to provisions of Section 264 prescribed for the Chief Minister or Ministers of the Region or State concerning resignation, termination of office, filling the vacancy and deeming as the person to have retired in case he is a Civil Services personnel.

274. Duties, powers and rights of the Auditor-General of the Region or State shall be prescribed by law.

**Administrative Body of the Self-Administered Division or Self-Administered Zone**

275. The Administrative Body of Self-Administered Division or Self-Administered Zone shall be called the leading body of the Self-Administered Division or leading body of the Self-Administered Zone.

**Formation of Leading Bodies of the Self-Administered Division and the Self-Administered Zone**

276. (a) Being Self-Administered Areas, the Self-Administered Division and the Self-Administered Zones are of equal status.

(b) Leading Bodies of the Self-Administered Division and the Self-Administered Zone are formed respectively in each and every Self-Administered Division and the Self-Administered Zone. Such Leading Bodies exercise legislative power vested under the Schedule Three of the Constitution.

(c) Leading Bodies of the Self-Administered Division or the Self-Administered Zone shall consist of at least 10 members.

**တိုင်းဒေသကြီးစာရင်းစစ်ချုပ် သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်ရာထူးမှ နုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်းနှင့် လစ်လပ်သည့်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း**

၂၇၃။ ရာထူးမှနုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်း၊ လစ်လပ်သည့်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း၊ နိုင်ငံ့ဝန်ထမ်းဖြစ်ပါက အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူခြင်းတို့နှင့်စပ်လျဉ်း၍ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ် သို့မဟုတ် ဝန်ကြီးများအတွက် သတ်မှတ်ထားသည့် ပုဒ်မ ၂၆၄ ပါ ပြဋ္ဌာန်းချက်များသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်နှင့်လည်း သက်ဆိုင်စေရမည်။

၂၇၄။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်စာရင်းစစ်ချုပ်၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

**ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့**

၂၇၅။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ၏ အုပ်ချုပ်ရေးအဖွဲ့ကို ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဟု ခေါ်ဝေါ်ရမည်။

**ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ ဖွဲ့စည်းခြင်း**

၂၇၆။ (က) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသတို့သည် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုများဖြစ်ကြသည့်အားလျော်စွာ အဆင့်အတန်းတူညီကြသည်၊

(ခ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသများတွင် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့များ အသီးသီးဖွဲ့စည်းထားရှိသည်။ ယင်းဦးစီးအဖွဲ့များသည် ဖွဲ့စည်းပုံအခြေခံဥပဒေ ဇယား ၃ အရ ခွဲဝေအပ်နှင်းသည့် ဥပဒေပြုရေးအာဏာကို ကျင့်သုံးသည်၊

(ဂ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့တွင် အဖွဲ့ဝင်ဦးရေ အနည်းဆုံး ၁၀ ဦး ပါဝင်စေရမည်၊

(d) Leading Bodies of the Self-Administered Division or the Self-Administered Zone shall be formed with the following persons :

(i) Region or State Hluttaw representatives elected from townships in the Self-Administered Division or Self-Administered Zone concerned;

(ii) the Defence Services personnel representatives nominated by the Commander-in-Chief of the Defence Services to assign duties relating to Security or Border Affairs;

(iii) Additional representatives selected by persons stated in Sub-Section (d) (i) and (ii).

(e) Members of the Leading Bodies of the Self-Administered Division or the Self-Administered Zone stated in above Sub-Section (d)(i) and (ii) shall, after co-ordinating among themselves, select a suitable person as the Chairperson of the Self-Administered Division or the Self-Administered Zone from the Region or State Hluttaw representatives elected from the townships in the Self-Administered Division or the Self-Administered Zone. The name of the person so elected shall be submitted to the President through the Chief Minister of the Region or State concerned.

(f) The President shall appoint the person who is nominated as the Chairperson of the Self-Administered Division or the Self-Administered Zone concerned.

(g) The Chairperson of the Self-Administered Division or the Self-Administered Zone is the ex-officio Minister in the Region or State concerned. Except for the method of the appointment of the Minister of the Region or State, the other provisions of the Constitution shall be applied to the Chairperson of the Self-Administered Division or Self-Administered Zone.

(ဃ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဦးစီးအဖွဲ့ကို အောက်ပါပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းရမည် -

(၁) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ အတွင်းရှိ မြို့နယ်များမှ ရွေးကောက်တင်မြှောက်ထားသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များ၊

(၂) လုံခြုံရေးတာဝန်ဖြစ်စေ၊ နယ်စပ်ရေးရာတာဝန်ဖြစ်စေ ပေးအပ်နိုင်ရန် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်း တင်သွင်းသည့်တပ်မတော်သားကိုယ်စားလှယ်များ၊

(၃) ပုဒ်မခွဲငယ် (၁) နှင့် (၂) ပါ ပုဂ္ဂိုလ်များက ရွေးချယ်ဖြည့်စွက် ခန့်ထားသည့် ကိုယ်စားလှယ်များ။

(င) ပုဒ်မခွဲ (ဃ) ပုဒ်မခွဲငယ် (၁) နှင့် (၂) ပါ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဦးစီးအဖွဲ့ဝင်များသည် မိမိတို့အချင်းချင်း ညှိနှိုင်းလျက် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသအတွင်းရှိ မြို့နယ်များမှ ရွေးကောက်တင်မြှောက်ထားသော လွှတ်တော် ကိုယ်စားလှယ်များအနက် သင့်လျော်သူတစ်ဦးအား ကိုယ်ပိုင်အုပ်ချုပ် ခွင့်ရတိုင်း ဥက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဥက္ကဋ္ဌအဖြစ် ရွေးချယ်ရမည်။ ထိုသို့ ရွေးချယ်သည့် ပုဂ္ဂိုလ်၏အမည်စာရင်းကို သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်မှတစ်ဆင့် နိုင်ငံတော်သမ္မတထံ တင်ပြရမည်၊

(စ) နိုင်ငံတော်သမ္မတသည် အမည်စာရင်းတင်သွင်းလာသည့် ပုဂ္ဂိုလ်အား သက်ဆိုင်ရာကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဥက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ် ခွင့်ရဒေသဥက္ကဋ္ဌအဖြစ် ခန့်အပ်တာဝန်ပေးရမည်၊

(ဆ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဥက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဥက္ကဋ္ဌသည် ရာထူးအလျောက် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးဖြစ်သည်။ သို့ဖြစ်၍ ဖွဲ့စည်းပုံအခြေခံဥပဒေတွင်ပါရှိသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးနှင့် သက်ဆိုင်သည့်ပြဋ္ဌာန်းချက် များအနက် ခန့်အပ်သည့်နည်းလမ်းမှလွဲ၍ ကျန်ပြဋ္ဌာန်းချက်များသည် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဥက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဥက္ကဋ္ဌနှင့် သက်ဆိုင်စေရမည်၊

(h) The Chairperson of the Self-Administered Division or Self-Administered Zone and members of the Leading Body concerned shall:

(i) except the National races who have already obtained the Self-Administered Division or Self-Administered Zone concerned residing in the Self-Administered Division or Self-Administered Zone concerned, if they are National races that are deemed by the authority concerned to have a population of over 10,000, from the remaining National races, each representative of the said National races shall be elected and appointed as a member of the Leading Body. The elected member of the Leading Body shall have the prescribed qualifications of Hluttaw representatives of the Region or State under Section 169;

(ii) if the number of members of the Leading Body of the Self-Administered Division or Self-Administered Zone is less than 10 members, the required number of members from those residing in the Self-Administered Division or Self-Administered Zone concerned and who have qualifications prescribed for the Region or State Hluttaw representatives shall be elected and appointed to fill up 10 members as they desire.

(i) The Commander-in-Chief of the Defence Services shall assign the duties to the one-fourth of the total number of members with the Defence Services personnels in the Leading Bodies of the Self-Administered Division or Self-Administered Zone, as necessary.

(j) The Defence Services personnel, nominated in accord with the law by the Commander-in-Chief of the Defence Services, to be assigned as the members of the Leading Bodies of the Self-Administered Division or

(ဇ) သက်ဆိုင်ရာ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဉက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဉက္ကဋ္ဌနှင့် ဦးစီးအဖွဲ့ဝင်များသည် -

(၁) သက်ဆိုင်ရာကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသအတွင်းနေထိုင်ကြသည့် သက်ဆိုင်ရာ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ရရှိပြီးသော တိုင်းရင်းသားလူမျိုးများမှအပ ကျန်တိုင်းရင်းသားလူမျိုးများအနက် လျော်ကန်သင့်မြတ်သောလူဦးရေဖြစ်သည့် လူဦးရေအနည်းဆုံး ၁၀၀၀၀ နှင့်အထက်ရှိကြောင်း သက်ဆိုင်ရာက သတ်မှတ်သည့် တိုင်းရင်းသားလူမျိုးများရှိလျှင် ယင်းတိုင်းရင်းသားလူမျိုးကိုယ်စားလှယ်တစ်ဦးကျစီကို ဦးစီးအဖွဲ့ဝင်အဖြစ် ရွေးချယ်ခန့်ထားရမည်။ ယင်းသို့ ရွေးချယ်ခန့်ထားခြင်းခံရသော ဦးစီးအဖွဲ့ဝင်သည် ပုဒ်မ ၁၆၉ ပါ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့် ပြည့်စုံရမည်၊

(၂) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့တွင် အဖွဲ့ဝင်ဦးရေ ၁၀ ဦး မပြည့်သေးပါက အဖွဲ့ဝင်ဦးရေ အနည်းဆုံး ၁၀ ဦး ပြည့်စေရန် လိုအပ်သည့်အဖွဲ့ဝင်ဦးရေကို သက်ဆိုင်ရာ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသအတွင်း နေထိုင်သူများထဲမှ ပုဒ်မ၁၆၉ပါ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသည့် အရည်အချင်းများနှင့်ပြည့်စုံသော သင့်လျော်သည့် ပုဂ္ဂိုလ်များအား မိမိတို့သဘောဆန္ဒအလျောက် ရွေးချယ် ဖြည့်စွက်ခန့်ထားရမည်။

(ဈ) တပ်မတော်ကာကွယ်ရေးဦးစီးချုပ်သည် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့တို့တွင် ဦးစီးအဖွဲ့ဝင်စုစုပေါင်း၏ လေးပုံတစ်ပုံဖြစ်သည့် ဦးစီးအဖွဲ့ဝင်ဦးရေကို တပ်မတော်သားများဖြင့် လိုအပ်သလိုဖြည့်စွက်တာဝန်ပေးနိုင်သည်၊

(ည) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဝင်များအဖြစ်တာဝန်ပေးအပ်ရန် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က ဥပဒေနှင့်အညီ အမည်စာရင်းတင်သွင်းသည့် တပ်မတော်သားများသည်

Self-Administered Zone shall have qualifications of the Region or State Hluttaw representatives.

(k) (i) The Chairperson of the Leading Bodies of the Self-Administered Division or Self-Administered Zone concerned shall declare the name of the members of the Leading Bodies of the Self-Administered Division or Self-Administered Zone.

(ii) The Chairperson of the Leading Bodies of the Self-Administered Division or Self-Administered Zone shall be responsible to the Region or State Chief Minister concerned, and to the President through the Chief Minister concerned.

(iii) Members of Leading Bodies of the Self-Administered Division or Self-Administered Zone shall be responsible to their Chairperson.

(iv) The term of office, taking action, resignation, termination of duty and filling the vacancy of the Chairperson of the Leading Bodies of the Self-Administered Division or Self-Administered Zone shall be prescribed by law.

(l) Duties, powers and rights of the Chairperson and members of the Leading Bodies of the Self-Administered Division or Self-Administered Zone shall be perscribed by law.

**Executive Powers of the Leading Bodies of the Self-Administered Division or Self-Administered Zone**

277. Subject to provisions of the Constitution, the Self- executive power of the Leading Bodies of the Self-Administered Division or Self-Administered Zone extend to the following matters :

(a) on which the Leading Bodies of the Self-Administered Division or Self-Administered Zone has power to make law under Schedule Three;

(b) on which the Leading Bodies of the Self-Administered Division or Self-Administered Zone has power to implement in accord with any law enacted by the Pyidaungsu Hluttaw;

တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များ၏ အရည်အချင်းများနှင့် ပြည့်စုံရမည်၊

(ဃ) (၁) သက်ဆိုင်ရာ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ဥက္ကဋ္ဌ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဥက္ကဋ္ဌသည် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဝင်များ၏ အမည်စာရင်းကို ကြေညာရမည်၊

(၂) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဥက္ကဋ္ဌသည် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်အားလည်းကောင်း၊ သက်ဆိုင်ရာဝန်ကြီးချုပ်မှတစ်ဆင့် နိုင်ငံတော်သမ္မတအားလည်းကောင်း တာဝန်ခံရမည်၊

(၃) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဝင်များသည် ယင်းတို့၏ဥက္ကဋ္ဌအား တာဝန်ခံရမည်၊

(၄) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်တို့နှင့်ပတ်သက်၍ ရာထူးသက်တမ်းသတ်မှတ်ခြင်း၊ အရေးယူခြင်း၊ ရာထူးမှနုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်း၊ လစ်လပ်ရာထူးနေရာများတွင် ဖြည့်စွက်ခန့်ထားခြင်းတို့အတွက် ဥပဒေပြဋ္ဌာန်းသတ်မှတ်ပေးရမည်။

( င) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဥက္ကဋ္ဌနှင့် ဦးစီးအဖွဲ့ဝင်တို့၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ပေးရမည်။

**ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့များ၏ အုပ်ချုပ်မှုအခွင့်အာဏာ**

၂၇၇။ ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်လျှင် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့၏ ကိုယ်ပိုင်အုပ်ချုပ်မှုအာဏာသည် အောက်ပါကိစ္စရပ်များသို့ သက်ရောက်ပျံ့နှံ့သည် -

(က) ဇယား ၃ ပါ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့က ဥပဒေပြုခွင့်ရှိသည့် ကိစ္စရပ်များ၊

(ခ) ပြည်ထောင်စုလွှတ်တော်ကပြဋ္ဌာန်းသည့် ဥပဒေတစ်ရပ်ရပ်အရ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီး အဖွဲ့အား ဆောင်ရွက်ခွင့်ပြုသည့်ကိစ္စရပ်များ၊

(c) on which the Leading Bodies of the Self-Administered Division or Self-Administered Zone has power to implement in accord with any law enacted by the Region or State Hluttaw concerned.

278. The Leading Bodies of the Self-Administered Division or Self-Administered Zone shall be responsible to assist the Union Government in preserving stability of the Union, community peace and tranquillity and prevalence of law and order.

279. The Leading Bodies of the Self-Administered Division or Self- Administered Zone shall :

(a) subject to the policies of the Union Government draw work programmes for the development of their territory and shall co-ordinate with the Region or State Government concerned;

(b) draw annual budgets and co-ordinate for approval with the Region or State Government concerned in accord with the provisions of the Constitutions;

(c) have the right to expend the allotted fund included in the Budget Law of the Region or State Government concerned in accord with the rules;

(d) have the right to expend within the permitted framework to the general expenditure included in the last-enacted Budget Law of the Region or State Hluttaw if the Region or State Hluttaw is unable to pass the Region or State Budget Bill submitted by the Region or State Government.

(ဂ) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ပြဋ္ဌာန်းသည့် ဥပဒေတစ်ရပ်ရပ်အရ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့အား ဆောင်ရွက်ခွင့်ပြုသည့်ကိစ္စရပ်များ။

၂၇၈။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့သည် ပြည်ထောင်စုအစိုးရက နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေးကို ထိန်းသိမ်းစောင့်ရှောက်ရာတွင် ကူညီရန်တာဝန်ရှိသည်။

၂၇၉။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့သည် -

(က) ပြည်ထောင်စုအစိုးရ၏ မူဝါဒများနှင့်မဆန့်ကျင်စေဘဲ မိမိနယ်မြေဒေသအတွင်း ဘက်စုံဖွံ့ဖြိုးတိုးတက်ရေးအတွက် အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် လုပ်ငန်းအစီအစဉ်များကိုရေးဆွဲလျက် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရနှင့် ညှိနှိုင်းထားရှိရမည်၊

(ခ) နှစ်စဉ်အရအသုံး ခန့်မှန်းခြေငွေစာရင်းကိုရေးဆွဲလျက် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရနှင့်ညှိနှိုင်း၍ သဘောတူညီချက်ရယူရမည်၊

(ဂ) သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ဘဏ္ဍာငွေ အရအသုံးဆိုင်ရာဥပဒေပါ မိမိနှင့်သက်ဆိုင်သည့်ခွင့်ပြုဘဏ္ဍာငွေကို သတ်မှတ်ထားသည့် ဘဏ္ဍာရေးစည်းမျဉ်း စည်းကမ်းများနှင့်အညီ သုံးစွဲခွင့်ရှိသည်၊

(ဃ) ဘဏ္ဍာရေးနှစ်မကုန်ဆုံးမီ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က ဘဏ္ဍာငွေအရအသုံးဆိုင်ရာဥပဒေကို ပြဋ္ဌာန်းခြင်းမပြုနိုင်သဖြင့် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရထံမှ ဘဏ္ဍာငွေ အရအသုံးဆိုင်ရာခွင့်ပြုချက်ကို အချိန်မီမရရှိပါက တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က နောက်ဆုံးပြဋ္ဌာန်းထားသည့် ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ဥပဒေပါခွင့်ပြုထားသည့် သာမန်အသုံးစရိတ်ဘောင်အတွင်း သုံးစွဲခွင့်ရှိသည်။

280. The Leading Bodies of the Self-Administered Division or Self-Administered Zone may, in accord with the law, supervise, co-operate and co-ordinate the functions of the Civil Services organizations which are performing the duties within their territory.

281. The Leading Bodies of the Self-Administered Division or Self-Administered Zone shall submit reports of the general situations of their territory to the Union Government and the Region or State Government concerned.

282. The Leading Bodies of the Self-Administered Division or Self-Administered Zone shall perform the functions which are occasionally assigned by the Union Government and the Region or State Government concerned.

**Office of the Leading Bodies of the Self-Administered Division or Self-Administered Zone**

283. The Head of General Administration Department of the Leading Bodies of the Self-Administered Division or Self-Administered Zone shall serve as the Secretary of the Leading Bodies of the Self-Administered Division or Self-Administered Zone. Moreover, the General Administration Department of the Self-Administered Division or Self-Administered Zone is also the Office of the Leading Bodies of the Self-Administered Division or Self-Administered Zone.

**Administration of Nay Pyi Taw , the Union Territory**

284. (a) Nay Pyi Taw which is the Union Territory, shall consist of all districts and townships that are Nay Pyi Taw development territory, on the day the Constitution come into operation.

(b) The President may change, if necessary, the demarcation of districts and townships in Nay Pyi Taw which is the Union Territory.

၂၈၀။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့သည် မိမိနယ်မြေဒေသအတွင်း တာဝန်ထမ်းဆောင်လျက်ရှိသော နယ်ဘက်ဝန်ထမ်းအဖွဲ့အစည်းများ၏ လုပ်ငန်းဆောင်ရွက်မှုများကို ဥပဒေနှင့်အညီ ကြီးကြပ်ခြင်း၊ ပေါင်းစပ် ညှိနှိုင်းခြင်းပြုနိုင်သည်။

၂၈၁။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့သည် မိမိနယ်မြေဒေသ၏ အခြေအနေအရပ်ရပ်နှင့်စပ်လျဉ်းသည့် အစီရင်ခံစာကို ပြည်ထောင်စုအစိုးရနှင့် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရထံသို့ တင်ပြရမည်။

၂၈၂။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီး အဖွဲ့သည် ပြည်ထောင်စုအစိုးရ၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရက အခါအားလျော်စွာ ပေးအပ်လာသည့်လုပ်ငန်းတာဝန်များကို ထမ်းဆောင်ရမည်။

## ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ရုံး

၂၈၃။ သက်ဆိုင်ရာကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအကြီးအမှူးသည် ရာထူးအလျောက် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့၏အတွင်းရေးမှူးအဖြစ် ဆောင်ရွက်ရမည်။ ထို့ပြင် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနသည် သက်ဆိုင်ရာကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရဒေသ ဦးစီးအဖွဲ့ရုံးလည်း ဖြစ်သည်။

## ပြည်ထောင်စုနယ်မြေဖြစ်သည့် နေပြည်တော်အုပ်ချုပ်ရေး

၂၈၄။ (က) ပြည်ထောင်စုနယ်မြေဖြစ်သည့် နေပြည်တော်တွင် ဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာသက်ရောက်သည့်နေ့၌ တည်ရှိနေသော နေပြည်တော်စည်ပင် သာယာရေးနယ်နိမိတ်အတွင်းရှိ ခရိုင်နှင့်မြို့နယ်များ အားလုံးပါဝင်သည်၊

(ခ) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုနယ်မြေဖြစ်သည့် နေပြည်တော်အတွင်းရှိ ခရိုင်နှင့်မြို့နယ်များကို လိုအပ်သလို ပြင်ဆင်သတ်မှတ်နိုင်သည်။

**Formation of the Nay Pyi Taw Council**

285. (a) The Chairperson and members of the Nay Pyi Taw Council shall have the following qualifications :

(i) person who has attained the age of 35 years ;

(ii) person who has qualifications, with the exception of age limit, entitled to be elected as Pyithu Hluttaw representatives prescribed in Section 120;

(iii) persons whose qualifications does not breach the provisions under Section 121 which disqualify a person from standing for election as Pyithu Hluttaw representatives;

(iv) who have other qualifications prescribed by the President.

(b) The President :

(i) shall form a Nay Pyi Taw Council;

(ii) shall appoint persons who have the prescribed qualifications as Chairperson and members of Nay Pyi Taw Council;

(iii) shall obtain the nomination of suitable Defence Services personnel who have prescribed qualifications for appointment as Council member or members from the Commander-in-Chief of the Defence Services for co-ordination of Security matters of Nay Pyi Taw which is the Union Territory;

(iv) may prescribe the number of members, including the Chairperson, to serve in Nay Pyi Taw Council in accord with the law as necessary.

(c) The Chairperson of the Nay Pyi Taw Council shall be responsible to the President and the members shall be responsible to the Chairperson of the Nay Pyi Taw Council and the President through the Chairperson of the Nay Pyi Taw Council.

**နေပြည်တော်ကောင်စီ ဖွဲ့စည်းခြင်း**

၂၈၅။ (က) နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် ကောင်စီဝင်များသည် အောက်ဖော်ပြပါ အရည်အချင်းများနှင့် ပြည့်စုံရမည် -

(၁) အသက် ၃၅ နှစ် ပြည့်ပြီးသူ၊

(၂) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့် ပြည့်စုံသူ၊

(၃) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(၄) နိုင်ငံတော်သမ္မတက သတ်မှတ်သော အခြားအရည်အချင်းများနှင့်လည်း ပြည့်စုံသူ။

(ခ) နိုင်ငံတော်သမ္မတသည် -

(၁) နေပြည်တော်ကောင်စီတစ်ရပ်ကို ဖွဲ့စည်းထားရှိရမည်၊

(၂) ပုဒ်မခွဲ (က) တွင် ဖော်ပြသတ်မှတ်ထားသော အရည်အချင်းများနှင့် ပြည့်စုံသည့်ပုဂ္ဂိုလ်များကို နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် ကောင်စီဝင်များအဖြစ် ခန့်အပ်တာဝန်ပေးရမည်၊

(၃) ပြည်ထောင်စုနယ်မြေဖြစ်သည့် နေပြည်တော်၏ လုံခြုံရေးဆိုင်ရာကိစ္စရပ်များကို ညှိနှိုင်းပေါင်းစပ်ပေးနိုင်ရေးအတွက် ကောင်စီဝင် သို့မဟုတ် ကောင်စီဝင်များအဖြစ် တာဝန်ပေးအပ်နိုင်ရန် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ထံမှ သတ်မှတ်အရည်အချင်းနှင့် ပြည့်စုံသည့် သင့်လျော်သော တပ်မတော်သား သို့မဟုတ် တပ်မတော်သားများ၏ အမည်စာရင်းကို ရယူရမည်၊

(၄) နေပြည်တော်ကောင်စီတွင် ဥက္ကဋ္ဌအပါအဝင် အဖွဲ့ဝင်ဦးရေကို ဥပဒေနှင့်အညီ လိုအပ်သလိုသတ်မှတ်နိုင်သည်။

(ဂ) နေပြည်တော်ကောင်စီဥက္ကဋ္ဌသည် နိုင်ငံတော်သမ္မတအား လည်းကောင်း၊ ကောင်စီဝင်များသည် နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် နေပြည်တော်ကောင်စီဥက္ကဋ္ဌမှတစ်ဆင့် နိုင်ငံတော်သမ္မတအားလည်းကောင်း တာဝန်ခံရမည်၊

(d) If the Chairperson or a member of the Nay Pyi Taw Council is a representative of a Hluttaw, it shall be deemed that he has resigned from the day he is appointed as Chairperson or a member of the Nay Pyi Taw Council.

(e) If the Chairperson or a member of the Nay Pyi Taw Council is a Civil Services personnel, it shall be deemed that he has retired according to the existing Civil Services rules and regulations from the day he is appointed as the Chairperson or a member of the Nay Pyi Taw Council.

(f) The Defence Services personnel who are appointed as a member or members of the Nay Pyi Taw Council, to co-ordinate Security Affairs, are not required to retire or resign from the Defence Services.

(g) If the Chairperson or a member of the Nay Pyi Taw Council is a member of any political party, he shall not take part in its party activities during the term from the day he is appointed as the Chairperson or a member of the Nay Pyi Taw Council.

**Resignation, termination of office, filling the vacancy of the Chairperson and members of the Nay Pyi Taw Council**

286. (a) (i) The term of the Chairperson and members of the Nay Pyi Taw Council is the same as that of the President.

(ii) The Chairperson and any member of the Nay Pyi Taw Council may resign from office on his own volition due to a certain reason before expiry of the term of office, after submitting his written resignation to the President.

(ဃ) နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် ကောင်စီဝင်တစ်ဦးဦးသည် လွှတ်တော်တစ်ရပ်ရပ်၏ ကိုယ်စားလှယ်ဖြစ်လျှင် နေပြည်တော်ကောင်စီဥက္ကဋ္ဌ သို့မဟုတ် ကောင်စီဝင်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ လွှတ်တော်ကိုယ်စားလှယ်အဖြစ်မှ နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(င) နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် ကောင်စီဝင်များသည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် နေပြည်တော်ကောင်စီဥက္ကဋ္ဌ သို့မဟုတ် ကောင်စီဝင်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ တည်ဆဲဝန်ထမ်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ နိုင်ငံ့ဝန်ထမ်းအဖြစ်မှ အငြိမ်းစားယူပြီး သို့မဟုတ် နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(စ) နေပြည်တော်၏ လုံခြုံရေးဆိုင်ရာကိစ္စရပ်များကို ပေါင်းစပ်ညှိနှိုင်းပေးနိုင်ရေးအတွက် ခန့်အပ်တာဝန်ပေးခြင်းခံရသည့် တပ်မတော်သားနေပြည်တော်ကောင်စီဝင် သို့မဟုတ် ကောင်စီဝင်များသည် တပ်မတော်မှနုတ်ထွက်ရန် သို့မဟုတ် အငြိမ်းစားယူရန်မလို၊

(ဆ) နေပြည်တော်ကောင်စီဥက္ကဋ္ဌ သို့မဟုတ် ကောင်စီဝင်တစ်ဦးဦးသည် နိုင်ငံရေးပါတီတစ်ခုခု၏ အဖွဲ့ဝင်ဖြစ်လျှင် နေပြည်တော်ကောင်စီဥက္ကဋ္ဌ သို့မဟုတ် ကောင်စီဝင်အဖြစ် ခန့်အပ်တာဝန်ပေးအပ်ခြင်းခံရသည့်နေ့မှစ၍ မိမိရာထူးသက်တမ်းအတွင်း ယင်းပါတီအဖွဲ့အစည်း၏ ပါတီလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခြင်းမပြုရ။

**နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် ကောင်စီဝင်များ၏ ရာထူးသက်တမ်း၊ ရာထူးမှနုတ်ထွက်ခြင်း၊ တာဝန်မှရပ်စဲခြင်းနှင့် လစ်လပ်ရာထူးနေရာတွင် ဖြည့်စွက်ခန့်ထားခြင်း**

၂၈၆။ (က) (၁) နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် ကောင်စီဝင်တို့၏ ရာထူးသက်တမ်းသည် သာမန်အားဖြင့် နိုင်ငံတော်သမ္မတ၏ ရာထူးသက်တမ်း အတိုင်းဖြစ်သည်၊

(၂) နေပြည်တော်ကောင်စီဥက္ကဋ္ဌနှင့် ကောင်စီဝင်တစ်ဦးဦးသည် ရာထူးသက်တမ်းမကုန်ဆုံးမီ အကြောင်းတစ်ခုခုကြောင့် မိမိသဘောဆန္ဒအလျောက် ရာထူးမှနုတ်ထွက်လိုလျှင် ထိုသို့နုတ်ထွက်လိုကြောင်း နိုင်ငံတော်သမ္မတထံ စာဖြင့်တင်ပြပြီး ရာထူးမှနုတ်ထွက်နိုင်သည်၊

(iii) The President may :

(aa) direct the Chairperson and any member of the Nay Pyi Taw Council to resign if he cannot discharge his duties efficiently. If he fails to comply, he shall be terminated from his office;

(bb) co-ordinate with the Commander-in-Chief of the Defence Services concerning with the Defence Services personnel who is the member of the Nay Pyi Taw Council and has to resign or be terminated from office.

(iv) If the office of the Chairperson or member of the Nay Pyi Taw Council becomes vacant due to resignation, removal from office, death or any other reason, the President shall have the right to appoint and assign duties to a new Chairperson or member of the Nay Pyi Taw Council in accord with the provisions of the Constitution. The term of the newly appointed Chairperson or member of the Nay Pyi Taw Council shall be the same as that of the remaining term of the President .

(b) The formation of Nay Pyi Taw Council, duties, powers and rights of the Chairperson and members of Nay Pyi Taw Council shall be prescribed by law.

**Office of Nay Pyi Taw Council**

287. The Head of General Administration Department of Nay Pyi Taw is ex-officio the secretary of the Nay Pyi Taw Council. General Administration Department of Nay Pyi Taw is the office of the Nay Pyi Taw Council.

**Administration of district and township**

288. Administration of district and township level shall be assigned to the Civil Services personnel.

(၃) နိုင်ငံတော်သမ္မတသည် -

(ကက) ပေးအပ်သည့်တာဝန်ကို ကျေပွန်စွာမထမ်းဆောင်နိုင်သော နေပြည်တော်ကောင်စီဥက္ကဋ္ဌ သို့မဟုတ် ကောင်စီဝင် တစ်ဦးဦးအား ရာထူးမှနုတ်ထွက်ရန် ညွှန်ကြားနိုင်သည်။ ညွှန်ကြားသည့်အတိုင်း လိုက်နာခြင်းမပြုလျှင် တာဝန်မှ ရပ်စဲရမည်၊

(ခခ) ရာထူးမှနုတ်ထွက်ရမည့် သို့မဟုတ် တာဝန်မှရပ်စဲခံရမည့် တပ်မတော်သားနေပြည်တော်ကောင်စီဝင်နှင့် ပတ်သက်လျှင် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

(၄) ရာထူးမှနုတ်ထွက်ခြင်းကြောင့်ဖြစ်စေ၊ တာဝန်မှရပ်စဲခံရခြင်းကြောင့်ဖြစ်စေ၊ ကွယ်လွန်ခြင်းကြောင့်ဖြစ်စေ၊ အခြားအကြောင်း တစ်ခုခုကြောင့်ဖြစ်စေ နေပြည်တော်ကောင်စီဥက္ကဋ္ဌ သို့မဟုတ် ကောင်စီဝင် ရာထူးနေရာလစ်လပ်ပါက နိုင်ငံတော်သမ္မတသည် ဖွဲ့စည်းပုံအခြေခံ ဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ နေပြည်တော်ကောင်စီဥက္ကဋ္ဌအသစ် သို့မဟုတ် ကောင်စီဝင်အသစ်အား ခန့်အပ်တာဝန်ပေးနိုင်သည်။ ထိုသို့ ခန့်အပ်တာဝန်ပေးခြင်းခံရသည့် နေပြည်တော်ကောင်စီဥက္ကဋ္ဌ အသစ် သို့မဟုတ် ကောင်စီဝင်အသစ်၏ ရာထူးသက်တမ်းသည် နိုင်ငံတော်သမ္မတ၏ ကျန်ရှိသည့်ရာထူးသက်တမ်းအတွက်သာ ဖြစ်စေရမည်။

(ခ) နေပြည်တော်ကောင်စီ ဖွဲ့စည်းခြင်း၊ ဥက္ကဋ္ဌနှင့်ကောင်စီဝင်များ၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## နေပြည်တော်ကောင်စီရုံး

၂၈၇။ နေပြည်တော်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏အကြီးအမှူးသည် ရာထူးအလျောက် နေပြည်တော်ကောင်စီအတွင်းရေးမှူးဖြစ်သည်။ နေပြည်တော်အထွေထွေအုပ်ချုပ်ရေးဦးစီး ဌာနသည် နေပြည်တော်ကောင်စီရုံး ဖြစ်သည်။

## ခရိုင်နှင့် မြို့နယ်အုပ်ချုပ်ရေး

၂၈၈။ ခရိုင်အဆင့်နှင့် မြို့နယ်အဆင့်တို့၏အုပ်ချုပ်ရေးကို နိုင်ငံ့ဝန်ထမ်းများအား တာဝန်ပေး ဆောင်ရွက်စေရမည်။

**Administration of ward and village-tract**

289. Administration of ward or village-tract shall be assigned in accord with the law to a person whose integrity is respected by the community.

## Civil Services Personnel

290. Matters relating to the appointment, promotion, retirement, enforcement of rules and regulations and taking action on the Civil services personnel shall be exercised in accord with the law.

291. With respect to the Defence Services personnel who are also Civil Services personnel whose nature of work, is of special significant, they shall be given by the relevant Military laws.

292. With respect to members of Myanmar Police Force who are also Civil Services personnel whose nature of work, is of special significant, they shall be given by the specified law which shall be enacted.

**ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု အုပ်ချုပ်ရေး**

၂၈၉။ ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု၏အုပ်ချုပ်ရေးကို ရပ်ရွာကကြည်ညိုလေးစားပြီး သိက္ခာသမာဓိရှိသည့် ပုဂ္ဂိုလ်တစ်ဦးဦးကို ဥပဒေနှင့်အညီ ခန့်အပ်တာဝန်ပေးဆောင်ရွက်စေရမည်။

## နိုင်ငံ့ဝန်ထမ်း

၂၉၀။ နိုင်ငံ့ဝန်ထမ်းများ ခန့်ထားခြင်း၊ ရာထူးတိုးမြှင့်ခြင်း၊ အငြိမ်းစားယူခြင်း၊ စည်းကမ်း ထိန်းသိမ်းခြင်း၊ အမှုထမ်းစည်းကမ်းသတ်မှတ်ခြင်းနှင့် အရေးယူခြင်းများကို ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်။

၂၉၁။ နိုင်ငံ့ဝန်ထမ်းဖြစ်သည့် တပ်မတော်သားများ၏ လုပ်ငန်းသဘာဝသည် ထူးခြားမှုရှိသည့် အလျောက် တပ်မတော်သားများအတွက် တပ်မတော်ဆိုင်ရာဥပဒေများနှင့်အညီ ဆောင်ရွက် ရမည်။

၂၉၂။ နိုင်ငံ့ဝန်ထမ်းဖြစ်သည့် မြန်မာနိုင်ငံရဲတပ်ဖွဲ့ဝင်များ၏ ထူးခြားသည့်လုပ်ငန်းသဘာဝအရ ယင်းတို့နှင့်ပတ်သက်၍ သီးခြားဥပဒေ ပြဋ္ဌာန်းဆောင်ရွက်ရမည်။

# Chapter VI
# Judiciary

**Formation of Courts**

293. Courts of the Union are formed as follows :

(a) Supreme Court of the Union, High Courts of the Region, High Courts of the State, Courts of the Self-Administered Division, Courts of the Self-Administered Zone, District Courts, Township Courts and the other Courts constituted by law;

(b) Courts-Martial;

(c) Constitutional Tribunal of the Union.

## Supreme Court of the Union

**Constitution of the Supreme Court of the Union**

294. In the Union, there shall be a Supreme Court of the Union. Without affecting the powers of the Constitutional Tribunal and the Courts-Martial, the Superme Court of the Union is the highest Court of the Union.

**Original Jurisdiction of the Supreme Court of the Union**

295. (a) Only the Supreme Court of the Union has the following original jurisdiction :

(i) in matters arising out of bilateral treaties concluded by the Union;

(ii) in other disputes, except the Constitutional problems, between the Union Government and the Region or State Governments;

# အခန်း(၆)
# တရားစီရင်ရေး

**တရားရုံးများဖွဲ့စည်းခြင်း**

၂၉၃။ နိုင်ငံတော်၏ တရားစီရင်ရေးဆိုင်ရာရုံးများကို အောက်ပါအတိုင်းဖွဲ့စည်းသည် -

(က) ပြည်ထောင်စုတရားလွှတ်တော်ချုပ်၊ တိုင်းဒေသကြီးတရားလွှတ်တော်များ၊ ပြည်နယ်တရားလွှတ်တော်များ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း တရားရုံးများ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသတရားရုံးများ၊ ခရိုင်တရားရုံးများ၊ မြို့နယ်တရားရုံးများနှင့် ဥပဒေအရတည်ထောင်သော အခြားတရားရုံးများ၊

(ခ) စစ်ဘက်ဆိုင်ရာတရားရုံးများ၊

(ဂ) နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး။

## ပြည်ထောင်စုတရားလွှတ်တော်ချုပ်

**ပြည်ထောင်စုတရားလွှတ်တော်ချုပ်ဖွဲ့စည်းခြင်း**

၂၉၄။ နိုင်ငံတော်တွင် ပြည်ထောင်စုတရားလွှတ်တော်ချုပ်တစ်ရပ် ထားရှိသည်။ စစ်ဘက်ဆိုင်ရာတရားရုံးများနှင့် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ စီရင်ပိုင်ခွင့်အာဏာများကိုမထိခိုက်စေဘဲ ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည် နိုင်ငံတော်၏ အမြင့်ဆုံးတရားရုံးဖြစ်သည်။

**ပြည်ထောင်စုတရားလွှတ်တော်ချုပ်၏ မူလစီရင်ပိုင်ခွင့်အာဏာများ**

၂၉၅။ (က) ပြည်ထောင်စုတရားလွှတ်တော်ချုပ်၌သာ အောက်ပါကိစ္စရပ်များအတွက် မူလမှုစီရင်ပိုင်ခွင့်အာဏာများရှိသည် -

(၁) ပြည်ထောင်စုနိုင်ငံတော်က ချုပ်ဆိုသော ပြည်ထောင်အချင်းချင်းဆိုင်ရာ စာချုပ်များနှင့် စပ်လျဉ်း၍ ပေါ်ပေါက်လာသောကိစ္စရပ်များ၊

(၂) ပြည်ထောင်စုအစိုးရနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရတို့အကြား ဖြစ်ပွားသည့် ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ပြဿနာများမှအပ အခြားအငြင်းပွားမှုများ၊

(iii) in other disputes, except the Constitutional problems, among the Regions, among the States, between the Region and the State and between the Union Territory and the Region or the State;

(iv) other matters as prescribed by any law.

(b) As the Supreme Court of the Union is the highest court of the Union, it is the court of final appeal.

(c) The judgments of the Supreme Court of the Union are final and conclusive and have no right of appeal.

(d) The Supreme Court of the Union, subject to any provision of the Constitution or any provision of other law, has the appellate jurisdiction to decide judgments passed by the High Courts of the Regions or the States. Moreover, the Supreme Court of the Union also has the appellate jurisdiction to decide judgments passed by the other courts in accord with the law.

(e) The Supreme Court of the Union has the revisional jurisdiction in accord with the law.

296. The Supreme Court of the Union :

(a) has the power to issue the following writs :

(i) Writ of Habeas Corpus;

(ii) Writ of Mandamus;

(iii) Writ of Prohibition;

(iv) Writ of Quo Warranto;

(v) Writ of Certiorari.

(b) The applications to issue writs shall be suspended in the areas where the state of emergency is declared.

(၃) တိုင်းဒေသကြီးအချင်းချင်း၊ ပြည်နယ်အချင်းချင်း၊ တိုင်းဒေသကြီးနှင့် ပြည်နယ်အချင်းချင်း၊ ပြည်ထောင်စုနယ်မြေနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အချင်းချင်းတို့အကြား ဖြစ်ပွားသည့် ဖွဲ့စည်းပုံအခြေခံ ဥပဒေဆိုင်ရာ ပြဿနာများမှအပ အခြားအငြင်းပွားမှုများ၊

(၄) ဥပဒေတစ်ရပ်ရပ်အရ သတ်မှတ်ထားသော အခြားကိစ္စရပ်များ။

(ခ) ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည် နိုင်ငံတော်၏ အမြင့်ဆုံးတရားရုံး ဖြစ်သည့်အားလျော်စွာ နောက်ဆုံးအပြီးအပြတ် အယူခံဝင်ရာ တရားရုံးဖြစ်သည်၊

(ဂ) ပြည်ထောင်စုတရားလွှတ်တော်ချုပ်၏ စီရင်ချက်များသည် အမှုအားလုံးတွင် အပြီးအပြတ်ဖြစ်၍ အယူခံဝင်ခွင့်မရှိစေရ၊

(ဃ) ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကိုဖြစ်စေ၊ အခြားဥပဒေပါပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကိုဖြစ်စေ မဆန့်ကျင်စေဘဲ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်၏ စီရင်ချက်များကို ဆုံးဖြတ်နိုင်သော အယူခံမှုစီရင်ပိုင်ခွင့်အာဏာရှိသည်။ ထို့အပြင် အခြားတရားရုံးများကချမှတ်သော စီရင်ချက်များကိုလည်း ဥပဒေနှင့်အညီ စစ်ဆေးဆုံးဖြတ်နိုင်သော အယူခံမှုစီရင်ပိုင်ခွင့်အာဏာရှိသည်၊

(င) ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည် ဥပဒေနှင့်အညီ ပြင်ဆင်မှုစီရင်ပိုင်ခွင့်အာဏာရှိသည်။

၂၉၆။ ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည်

(က) အောက်ပါစာချွန်တော်အမိန့်များကို ထုတ်ပိုင်ခွင့်အာဏာရှိသည်

(၁) ရှေ့တော်သွင်းစာချွန်တော်အမိန့်၊

(၂) အာဏာပေးစာချွန်တော်အမိန့်၊

(၃) တားမြစ်စေစာချွန်တော်အမိန့်၊

(၄) အာဏာပိုင်မေးစာချွန်တော်အမိန့်၊

(၅) အမှုခေါ်စာချွန်တော်အမိန့်။

(ခ) နိုင်ငံတော်အတွင်း အရေးပေါ်အခြေအနေများပေါ်ပေါက်ကြောင်း ကြေညာသည့်ဒေသတွင် စာချွန်တော်အမိန့် ထုတ်ဆင့်ပေးရန် လျှောက်ထားချက်များကို ရပ်ဆိုင်းထားရမည်။

**Judiciary Budget**

297. The Supreme Court of the Union shall submit judiciary budget to the Union Government in order to include and present in the Annual Budget Bill of the Union in accord with the provisions of the Constitution.

**Submission of the Judiciary Situation**

298. The Chief Justice of the Union may submit important judiciary situation concerning the Union or the public, either to the session of the Pyidaungsu Hluttaw or the Pyithu Hluttaw or the Amyotha Hluttaw from time to time.

**Appointment of the Chief Justice of the Union and the Judges of the Supreme Court of the Union**

299. (a) The Head of the Supreme Court of the Union shall be called the Chief Justice of the Union.

(b) Judges of the Supreme Court of the Union including the Chief Justice of the Union may be appointed in the Supreme Court from a minimum of seven and a maximum of 11 in number.

(c) (i) The President shall submit the nomination of the person suitable to be appointed as the Chief Justice of the Union to the Pyidaungsu Hluttaw and seek its approval.

(ii) The Pyidaungsu Hluttaw shall have no right to refuse the person nominated by the President for the appointment of Chief Justice of the Union and Judges of the Supreme Court of the Union unless it can clearly be proved that the persons do not meet the qualifications for the post prescribed in Section 301.

**တရားစီရင်ရေးဆိုင်ရာ ဘဏ္ဍာငွေအရအသုံးစာရင်း**

၂၉၇။ ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည် တရားစီရင်ရေးဆိုင်ရာ ဘဏ္ဍာငွေအရအသုံးစာရင်းများကို ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စု၏ နှစ်စဉ်ဘဏ္ဍာငွေအရအသုံးဆိုင်ရာ ဥပဒေကြမ်းတွင် ထည့်သွင်းတင်ပြနိုင်ရန် ပြည်ထောင်စုအစိုးရထံ တင်ပြရမည်။

**တရားစီရင်ရေးဆိုင်ရာ အခြေအနေတင်ပြခြင်း**

၂၉၈။ ပြည်ထောင်စုတရားသူကြီးချုပ်သည် ပြည်ထောင်စုလွှတ်တော်အစည်းအဝေးတွင် ဖြစ်စေ၊ ပြည်သူ့လွှတ်တော် သို့မဟုတ် အမျိုးသားလွှတ်တော်အစည်းအဝေးတွင်ဖြစ်စေ နိုင်ငံတော် သို့မဟုတ် အများပြည်သူတို့နှင့်သက်ဆိုင်သည့် အရေးကြီးသောတရားစီရင်ရေးဆိုင်ရာ အခြေအနေကို အခါအားလျော်စွာ တင်ပြနိုင်သည်။

**ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ်တရားသူကြီးများ ခန့်အပ် တာဝန်ပေးခြင်း**

၂၉၉။ (က) ပြည်ထောင်စုတရားလွှတ်တော်ချုပ်၏ အကြီးအမှူးကို ပြည်ထောင်စုတရားသူကြီးချုပ်ဟု ခေါ်ရမည်၊

(ခ) ပြည်ထောင်စုတရားလွှတ်တော်ချုပ်တွင် ပြည်ထောင်စုတရားသူကြီးချုပ် အပါအဝင် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများဦးရေအနည်းဆုံး ခုနစ်ဦးမှ အများဆုံး ၁၁ ဦးအထိ ခန့်အပ်နိုင်သည်၊

(ဂ) (၁) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုတရားသူကြီးချုပ်အဖြစ် ခန့်အပ်သင့်သော ပုဂ္ဂိုလ်၏အမည်စာရင်းကို ပြည်ထောင်စုလွှတ်တော်သို့ တင်သွင်းသဘောတူညီချက် ရယူရမည်၊

(၂) ပုဒ်မ ၃၀၁ တွင် သတ်မှတ်ထားသော ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးများ၏ အရည်အချင်းများနှင့် မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက ပြည်ထောင်စု လွှတ်တော်သည် နိုင်ငံတော်သမ္မတက ပြည်ထောင်စုတရားသူကြီးချုပ်အဖြစ် ခန့်အပ်ရန် အမည်စာရင်းတင်သွင်းသူကို ငြင်းပယ်ခွင့်မရှိစေရ၊

(iii) The President has the right to submit again the list furnished with a new name replacing the one who has not been approved by the Pyidaungsu Hluttaw for the appointment of the Chief Justice of the Union.

(iv) The President shall appoint the person who has been approved by the Pyidaungsu Hluttaw as the Chief Justice of the Union.

(d) (i) The President, in co-ordination with the Chief Justice of the Union, shall submit the nomination of the persons suitable to be appointed as the Judges of the Supreme Court of the Union to the Pyidaungsu Hluttaw and seek its approval.

(ii) The Pyidaungsu Hluttaw has no right to refuse the persons nominated by the President for the appointment of the Chief Justice of the Union and Judges of the Supreme Court of the Union unless it can clearly be proved the persons concerned do not possess the qualifications prescribed for Judges of Supreme Court of the Union. in Section 301.

(iii) The President has the right to submit again the list furnished with a new name replacing the one who has not been approved by Pyidaungsu Hluttaw for the appointment of a Judge of the Supreme Court of the Union.

(iv) The President shall appoint the persons approved by Pyidaungsu Hluttaw as Judges of the Supreme Court of the Union.

300. (a) The Chief Justice of the Union or Judges of the Supreme Court of the Union must be free from party politics.

(၃) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုတရားသူကြီးချုပ်အဖြစ် ခန့်အပ်တာဝန်ပေးရန် ပြည်ထောင်စုလွှတ်တော်၏သဘောတူညီချက် မရရှိသည့် ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို ပြည်ထောင်စု လွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(၄) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီ ချက်ရရှိသည့် ပုဂ္ဂိုလ်အား ပြည်ထောင်စုတရားသူကြီးချုပ်အဖြစ် ခန့်အပ်ရမည်။

(ဃ) (၁) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ညှိနှိုင်း က ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများအဖြစ် ခန့်အပ်သင့်သော ပုဂ္ဂိုလ်များ၏ အမည်စာရင်းကို ပြည်ထောင်စု လွှတ်တော်သို့ တင်သွင်းသဘောတူညီချက် ရယူရမည်၊

(၂) ပုဒ်မ ၃၀၁ တွင် သတ်မှတ်ထားသော ပြည်ထောင်စုတရားသူကြီးချုပ် နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများ၏ အရည်အချင်းများနှင့် မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက ပြည်ထောင်စုလွှတ်တော်သည် နိုင်ငံတော်သမ္မတက ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးများအဖြစ်ခန့်အပ်ရန် အမည် စာရင်းတင်သွင်းသူများကို ငြင်းပယ်ခွင့်မရှိစေရ၊

(၃) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရား သူကြီးအဖြစ် ခန့်အပ်တာဝန်ပေးရန် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်မရရှိသည့် ပုဂ္ဂိုလ်အစား အမည်စာရင်းသစ်ကို ပြည်ထောင်စုလွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်၊

(၄) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီ ချက်ရရှိသည့် ပုဂ္ဂိုလ်များအား ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများအဖြစ် ခန့်အပ်ရမည်။

၃၀၀။ (က) ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများသည် ပါတီနိုင်ငံရေးနှင့် ကင်းရှင်းရမည်၊

(b) The Chief Justice of the Union or Judges of the Supreme Court of the Union, if they are Civil Services personnel, shall be deemed to have retired in accord with the existing Civil Services Regulations commencing from the day of the appointment as the Chief Justice of the Union or Judge of the Supreme Court of the Union.

**Qualifications of the Chief Justice of the Union and Judges of the Supreme Court of the Union**

301. The Chief Justice of the Union and Judges of the Supreme Court of the Union shall be a person of following qualifications :

(a) not younger than 50 years and not older than 70 years;

(b) who has qualifications, with the exception of the age limit, prescribed in Section 120 for Pyithu Hluttaw representatives;

(c) whose qualifications does not breach the provisions under the Section 121 which disqualify him from standing for election as Pyithu Hluttaw representatives;

(d) (i) who has served as a Judge of the High Court of the Region or State for at least five years; or

(ii) who has served as a Judicial Officer or a Law Officer at least 10 years not lower than that of the Region or State level; or

(iii) who has practised as an Advocate for at least 20 years; or

(iv) who is, in the opinion of the President, an eminent jurist;

(ခ) ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများသည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးအဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ တည်ဆဲဝန်ထမ်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူရမည်။

**ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများ၏ အရည်အချင်းများ**

၃၀၁။ ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများသည် အောက်ပါအရည်အချင်းများနှင့် ပြည့်စုံရမည်

(က) အသက် ၅၀ နှစ်ထက်မငယ်၊ အသက် ၇၀ နှစ်ထက်မကြီးသူ၊

(ခ) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင်ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသောအရည်အချင်းများနှင့် ပြည့်စုံသူ၊

(ဂ) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များ အဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့် မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(ဃ) (၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးအဖြစ် အနည်းဆုံး ၅နှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(၂) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့်ထက်မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိရာထူးတွင် အနည်းဆုံး ၁၀ နှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ်

(၃) တရားလွှတ်တော်ရှေ့နေအဖြစ် အနည်းဆုံး ၂၀ နှစ် အမှုလိုက်ပါဆောင်ရွက်ခဲ့သူ သို့မဟုတ်

(၄) ထင်ပေါ်ကျော်ကြားသည့် ဂုဏ်သတင်းရှိသော ဥပဒေပညာရှင်အဖြစ် နိုင်ငံတော်သမ္မတက ယူဆသူ။

(e) loyal to the Union and its citizens;

(f) who is not a member of a political party;

(g) who is not a Hluttaw representative.

**Impeachment of the Chief Justice of the Union and Judges of the Supreme Court of the Union**

302. (a) The President or the representatives of the Pyithu Hluttaw or Amyotha Hluttaw may impeach the Chief Justice of the Union or any Judge of the Supreme Court of the Union for any of the following reasons :

(i) high treason;

(ii) breach of any provision of the Constitution;

(iii) misconduct;

(iv) disqualifications of the qualifications of the Chief Justice of the Union and Judges of the Supreme Court of the Union prescribed under Section 310;

(v) inefficient discharge of duties assigned by law.

(b) If the President wishes to impeach :

(i) he shall submit the charge to the Speaker of the Pyidaungsu Hluttaw;

(ii) the Speaker of the Pyidaungsu Hluttaw shall form an investigation body and cause the charge to be investigated in accord with the law;

(iii) in forming the investigation body, an equal number of representatives of the Pyithu Hluttaw and Amyotha Hluttaw shall be included and any suitable member of the body be assigned as the Chairperson of such body;

(iv) the time for the completion of the investigation shall be determined on the volume of work;

(င) နိုင်ငံတော်နှင့်နိုင်ငံသားများအပေါ် သစ္စာရှိသူ၊

(စ) နိုင်ငံရေးပါတီဝင်မဟုတ်သူ၊

(ဆ) လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူ။

**ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများအား စွပ်စွဲပြစ်တင်ခြင်း**

၃၀၂။ (က) နိုင်ငံတော်သမ္မတ သို့မဟုတ် ပြည်သူ့လွှတ်တော် သို့မဟုတ် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များသည် ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးတစ်ဦးဦးအား အောက်ပါအကြောင်းတစ်ရပ်ရပ်ဖြင့် စွပ်စွဲပြစ်တင်နိုင်သည် -

(၁) နိုင်ငံတော်၏ကျေးဇူးသစ္စာတော်ကိုဖောက်ဖျက်ခြင်း၊

(၂) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ကျူးလွန်ခြင်း၊

(၃) အကျင့်သိက္ခာပျက်ပြားခြင်း၊

(၄) ပုဒ်မ ၃၀၁ တွင် ပြဋ္ဌာန်းထားသော ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများ၏ အရည်အချင်း ပျက်ယွင်းခြင်း၊

(၅) ဥပဒေအရပေးအပ်သောတာဝန်များကို ကျေပွန်စွာမဆောင်ရွက်ခြင်း။

(ခ) နိုင်ငံတော်သမ္မတက စွပ်စွဲပြစ်တင်ရန်လိုအပ်ပါက-

(၁) မိမိ၏စွပ်စွဲချက်ကို ပြည်ထောင်စုလွှတ်တော်နာယကထံတင်ပြရမည်၊

(၂) ပြည်ထောင်စုလွှတ်တော်နာယကသည် စုံစမ်းစစ်ဆေးရေးအဖွဲ့ကို ဖွဲ့စည်း၍ ဥပဒေနှင့်အညီ စုံစမ်းစစ်ဆေးစေရမည်၊

(၃) စုံစမ်းစစ်ဆေးရေးအဖွဲ့ကို ဖွဲ့စည်းရာတွင် ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်ဦးရေ တူညီစွာပါဝင်စေပြီး ယင်းအဖွဲ့ဝင်များထဲမှ သင့်လျော်သူတစ်ဦးဦးကို စုံစမ်းစစ်ဆေးရေးအဖွဲ့ဥက္ကဋ္ဌအဖြစ် တာဝန်ပေးရမည်၊

(၄) စုံစမ်းစစ်ဆေးရမည့် လုပ်ငန်းပမာဏကို ထောက်ရှု၍ စုံစမ်းစစ်ဆေးမှုပြီးစီးရမည့် အချိန်ကာလကိုလည်း သတ်မှတ်ပေးရမည်၊

(v) the President may, himself in person or through a representative, explain and present the charge before the investigation body and has also the right to submit evidence and witnesses;

(vi) when the charge is being investigated, the person being charged shall be given the right to defend himself in person or through a representative;

(vii) the Speaker of the Pyidaungsu Hluttaw shall, on being submitted the findings of the investigation concerning the impeachment by the investigation body, present it to the Pyidaungsu Hluttaw;

(viii) the Speaker of the Pyidaungsu Hluttaw shall, if the resolution is passed that the charge has been substantiated and the alleged person is unfit to continue to serve as the Chief Justice of the Union or a Judge of the Supreme Court of the Union by the two-thirds of the total number of the Pyidaungsu Hluttaw representatives, present and report the said resolution to the President;

(ix) on presentation of the report, the President shall, proceed to remove the Chief Justice of the Union or the Judge of the Supreme Court of the Union who has been impeached from office;

(x) if the Pyidaungsu Hluttaw resolves that the charges has failed, the Speaker of the Pyidaungsu Hluttaw shall present and report the said resolution to the President;

(c) if the representatives of the Pyithu Hluttaw or the Amyotha Hluttaw wish to impeach :

(i) the provisions for the impeachment of the President or the Vice-President under Section 71 shall be applied;

(၅) နိုင်ငံတော်သမ္မတသည် မိမိ၏စွပ်စွဲချက်နှင့် စပ်လျဉ်း၍ မိမိကိုယ်တိုင်သော်လည်းကောင်း၊ ကိုယ်စားလှယ်စေလွှတ်၍သော်လည်းကောင်း စုံစမ်းစစ်ဆေးရေးအဖွဲ့ ရှေ့မှောက်တွင် ရှင်းလင်းတင်ပြနိုင်သည်။ သက်ဆိုင်ရာအထောက်အထားများနှင့် သက်သေများကိုလည်း တင်ပြနိုင်ခွင့်ရှိသည်၊

(၆) စွပ်စွဲချက်ကို စုံစမ်းစစ်ဆေးသည့်အခါ စွပ်စွဲပြစ်တင်ခြင်းခံရသူအား ကိုယ်တိုင်သော်လည်းကောင်း၊ ကိုယ်စားလှယ်ဖြင့်သော်လည်းကောင်း ချေပခွင့်ပေးရမည်၊

(၇) စွပ်စွဲပြစ်တင်မှုနှင့်စပ်လျဉ်း၍ စုံစမ်းစစ်ဆေးရေးအဖွဲ့က စုံစမ်းတွေ့ရှိချက်ကို တင်ပြလာသည့်အခါ ပြည်ထောင်စုလွှတ်တော်နာယကသည် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်၊

(၈) ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ် စုစုပေါင်းဦးရေ၏ သုံးပုံနှစ်ပုံက စွပ်စွဲပြစ်တင်မှုသည် မှန်ကန်၍စွပ်စွဲခံရသူသည် ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ်တရားသူကြီးရာထူးတွင် ဆက်လက်ထမ်းရွက်စေရန် မသင့်ကြောင်း ဆုံးဖြတ်လျှင် ပြည်ထောင်စုလွှတ်တော်နာယကသည် ထိုဆုံးဖြတ်ချက်ကို နိုင်ငံတော်သမ္မတထံ တင်ပြအစီရင်ခံရမည်၊

(၉) ယင်းသို့ တင်ပြအစီရင်ခံသည့်အခါ နိုင်ငံတော်သမ္မတသည် စွပ်စွဲပြစ်တင်ခြင်းခံရသည့် ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးကို ရာထူးမှ ရပ်စဲရမည်၊

(၁၀) စွပ်စွဲပြစ်တင်မှုသည် မမှန်ကန်ကြောင်း ပြည်ထောင်စုလွှတ်တော်က ဆုံးဖြတ်လျှင် ထိုသို့ဆုံးဖြတ်ကြောင်းကို ပြည်ထောင်စုလွှတ်တော်နာယကသည် နိုင်ငံတော်သမ္မတထံ တင်ပြအစီရင်ခံရမည်။

(ဂ) ပြည်သူ့လွှတ်တော် သို့မဟုတ် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များက စွပ်စွဲပြစ်တင်ရန် လိုအပ်ပါက -

(၁) နိုင်ငံတော်သမ္မတ သို့မဟုတ် ဒုတိယသမ္မတကို စွပ်စွဲပြစ်တင်ခြင်းနှင့် စပ်လျဉ်း၍ ပုဒ်မ ၇၁ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်၊

(ii) the President shall, if the Hluttaw which made the investigation resolves and reports that the charge made upon the Chief Justice of the Union or any Judge of the Supreme Court of the Union has been substantiated and the person being charged is unfit to continue to serve as the Chief Justice of the Union or Judge of the Supreme Court of the Union, proceed to remove the Chief Justice of the Union or the Judge of the Supreme Court of the Union who has been impeached from office;

(iii) if the Hluttaw which made the investigation resolves that the charge has been failed, the Chairperson of the Hluttaw concerned shall present and report the resolution to the President.

**Term of the Chief Justice of the Union and Judges of the Supreme Court of the Union**

303. The Chief Justice of the Union and Judges of the Supreme Court of the Union shall hold office up to the age of 70 years unless one of the following occurs :

(a) resignation on his own volition;

(b) being impeached in accord with the provisions under the Constitution and removed from office;

(c) being found to be unable to continue to serve due to permanent disability caused by either physical or mental defect according to the findings of the medical board formed by law;

(d) death.

304. Duties, powers and rights of the Chief Justice of the Union and Judges of the Supreme Court of the Union shall be prescribed by law.

(၂) ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးတစ်ဦးဦးအပေါ် စွပ်စွဲပြစ်တင်မှုသည် မှန်ကန်၍ စွပ်စွဲခံရသူသည် ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးရာထူးတွင် ဆက်လက်ထမ်းရွက်စေရန်မသင့်ကြောင်း စုံစမ်းစစ်ဆေးသည့် လွှတ်တော်က ဆုံးဖြတ်တင်ပြလျှင် နိုင်ငံတော်သမ္မတသည် စွပ်စွဲပြစ်တင်ခြင်းခံရသည့် ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးအား ရာထူးမှရပ်စဲရမည်၊

(၃) စွပ်စွဲပြစ်တင်မှုသည် မမှန်ကန်ကြောင်း စုံစမ်းစစ်ဆေးသည့် လွှတ်တော်က ဆုံးဖြတ်ပါက ထိုသို့ဆုံးဖြတ်ကြောင်း သက်ဆိုင်ရာ လွှတ်တော်ဥက္ကဋ္ဌသည် နိုင်ငံတော်သမ္မတထံ တင်ပြအစီရင်ခံရမည်။

**ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများ၏ ရာထူးသက်တမ်း**

၃၀၃။ ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများသည် အောက်ပါအကြောင်းတစ်ရပ်ရပ် မပေါ်ပေါက်လျှင် အသက် ၇၀ နှစ် ပြည့်သည်အထိ တာဝန်ထမ်းဆောင်ခွင့်ရှိသည်

(က) မိမိသဘောအလျောက် ရာထူးမှနုတ်ထွက်ခြင်း၊

(ခ) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ စွပ်စွဲပြစ်တင်ခြင်းခံရ၍ ရာထူးမှ ရပ်စဲခံရခြင်း၊

(ဂ) ဥပဒေအရ သတ်မှတ်သောဆေးအဖွဲ့၏ စစ်ဆေးချက်အရ ကိုယ်စိတ်နှစ်ပါးအနက် တစ်ပါးပါးသည် ထာဝစဉ်ချို့ယွင်းသွားခြင်းကြောင့် တာဝန်ကို ဆက်လက်ထမ်းဆောင်နိုင်စွမ်းမရှိကြောင်း တွေ့ရှိရခြင်း၊

(ဃ) ကွယ်လွန်ခြင်း။

၃၀၄။ ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများ၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များ၊ ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

## High Courts of the Region or High Courts of the State

**Formation of High Courts of the Region or High Courts of the State**

305. There is the High Court of the Region in the Region and the High Court of the State in the State.

**Jurisdictions of High Courts of the Region or High Courts of the State**

306. High Courts of the Region or State shall have the following jurisdictions in accord with the law :

(a) adjudicating on original case;

(b) adjudicating on appeal case;

(c) adjudicating on revision case;

(d) adjudicating on matters prescribed by any law.

307. (a) For the purpose of judicial administration, the High Court of Mandalay Region is the High Court of the Courts situated in Nay Pyi Taw.

(b) For the purpose of judicial administration, where any area located in the Region or State is designated as a Union Territory, the High Court of the Region or State concerned is the High Court of the Courts situated in the said Union Territory.

**Appointment of the Chief Justice and Judges of the High Court of the Region or the High Court of the State**

308. (a) (i) The Head of the High Court of the Region or the High Court of the State shall be called the Chief Justice of the High Court of the Region or the Chief Justice of the High Court of the State.

## တိုင်းဒေသကြီးတရားလွှတ်တော်များ သို့မဟုတ် ပြည်နယ်တရားလွှတ်တော်များ

### တိုင်းဒေသကြီးတရားလွှတ်တော်များ သို့မဟုတ် ပြည်နယ်တရားလွှတ်တော်များ ဖွဲ့စည်းခြင်း

၃၀၅။ တိုင်းဒေသကြီးတွင် တိုင်းဒေသကြီးတရားလွှတ်တော်ကိုလည်းကောင်း၊ ပြည်နယ်တွင် ပြည်နယ်တရားလွှတ်တော်ကိုလည်းကောင်း ထားရှိသည်။

### တိုင်းဒေသကြီးတရားလွှတ်တော်များ သို့မဟုတ် ပြည်နယ်တရားလွှတ်တော်များ၏ စီရင်ပိုင်ခွင့်အာဏာများ

၃၀၆။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်များတွင် ဥပဒေနှင့်အညီ အောက်ပါတရားစီရင်ပိုင်ခွင့်အာဏာများရှိသည်

(က) မူလမှုကိုစီရင်ခြင်း၊
(ခ) အယူခံမှုကိုစီရင်ခြင်း၊
(ဂ) ပြင်ဆင်မှုကိုစီရင်ခြင်း၊
(ဃ) ဥပဒေတစ်ရပ်ရပ်အရ သတ်မှတ်ထားသော ကိစ္စရပ်များကိုစီရင်ခြင်း။

၃၀၇။ (က) တရားစီရင်ရေးဆိုင်ရာကိစ္စအလို့ငှာ မန္တလေးတိုင်းဒေသကြီးတရားလွှတ်တော်သည် နေပြည်တော်အတွင်းရှိ တရားရုံးများ၏တရားလွှတ်တော်ဖြစ်သည်၊
(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းရှိ ဒေသတစ်ခုခုကို ပြည်ထောင်စုနယ်မြေအဖြစ်သတ်မှတ်လျှင် တရားစီရင်ရေးဆိုင်ရာ ကိစ္စအလို့ငှာ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်သည် ယင်းပြည်ထောင်စုနယ်မြေအတွင်းရှိ တရားရုံးများ၏ တရားလွှတ်တော် ဖြစ်သည်။

### တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးချုပ်နှင့် တရားသူကြီးများ ခန့်အပ်ခြင်း

၃၀၈။ (က) (၁) တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော်၏အကြီးအမှူးကို တိုင်းဒေသကြီးတရားလွှတ်တော် တရားသူကြီးချုပ် သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ် ဟုခေါ်ရမည်၊

(ii) In the High Court of the Region or the High Court of the State, judges of the High Court of the Region or Judges of the High Court of the State including the Chief Justice of the High Court of the Region or the Chief Justice of the High Court of the State may be appointed from a minimum of three and a maximum of seven in number.

(b) (i) The President, in co-ordination with the Chief Justice of the Union and the Chief Minister of the Region or State concerned, shall prepare the nomination for the appointment of the Chief Justice of the High Court of the Region or State concerned and the Chief Minister of the Region or State concerned, in co-ordination with the Chief Justice of the Union, shall prepare the nomination for the appointment of the Judges of the High Court of the Region or State concerned, and the said nomination shall be sent to the Region or State Hluttaw concerned.

(ii) The Region or State Hluttaw concerned shall have no right to refuse the person or persons nominated by the President, in co-ordination with the Chief Justice of the Union and the Chief Minister of the Region or State concerned, for the appointment of the Chief Justice of the High Court of the Region or State concerned, or the person or persons nominated by the Chief Minister of the Region or State concerned, in co-ordination with the Chief Justice of the Union, for the appointment of Judges of the High Court of the Region or State concerned unless it can clearly be proved that the person does not meet the qualifications prescribed under Section 310 for the Chief Justice of the High Court of the Region or State and the Judge of the High Court of the Region or State.

(၂) တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တွင် တိုင်းဒေသကြီးတရားလွှတ်တော် တရားသူကြီးချုပ် သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ် အပါအဝင် တိုင်းဒေသကြီးတရားလွှတ်တော် တရားသူကြီးများ သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးများဦးရေ အနည်းဆုံး သုံးဦးမှ အများဆုံး ခုနစ်ဦးအထိ ခန့်အပ်နိုင်သည်၊

(ခ) (၁) နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုတရားသူကြီးချုပ်၊ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်တို့နှင့် ညှိနှိုင်းပြီး သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်အဖြစ်ခန့်အပ်ရန် အမည်စာရင်းကိုပြုစု၍ ယင်းအမည်စာရင်းကိုလည်းကောင်း၊ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ညှိနှိုင်းပြီး သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများအဖြစ်ခန့်အပ်ရန် အမည်စာရင်းကို ပြုစု၍ ယင်းအမည်စာရင်းများကိုလည်းကောင်း သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ ပေးပို့ရမည်၊

(၂) ပုဒ်မ ၃၁၀ တွင် သတ်မှတ်ထားသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်နှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီး၏ အရည်အချင်းများနှင့်မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သည် နိုင်ငံတော်သမ္မတက ပြည်ထောင်စုတရားသူကြီးချုပ်၊ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်တို့နှင့် ညှိနှိုင်းပြီး သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးချုပ်အဖြစ် ခန့်အပ်ရန်လည်းကောင်း၊ သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က ပြည်ထောင်စုတရားသူကြီးချုပ်နှင့် ညှိနှိုင်းပြီး တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများအဖြစ် ခန့်အပ်ရန်လည်းကောင်း အမည်စာရင်း ပေးပို့သူများကို ငြင်းပယ်ခွင့်မရှိစေရ၊

(iii) There is the right to resubmit a new nomination list as prescribed in place of the persons who are refused under Sub-Section (ii).

(iv) The President shall appoint persons approved by the Region or State Hluttaw as the Chief Justice of the High Court of the Region or State concerned and Judges of the High Court of the Region or State concerned.

309. (a) The Chief Justice of the High Court of the Region or State and Judges of the High Court of the Region or State must be free from party politics.

(b) The Chief Justice of the High Court of the Region or State and Judges of the High Court of the Region or State, if they are civil service personnel, shall be deemed to have retired from the civil service in accord with the existing Civil Service Regulations commencing from the day they have been appointed as the Chief Justice of the High Court of the Region or State and the Judge of the High Court of the Region or State.

**Qualification of the Chief Justice of the High Court of the Region or the High Court of the State and Judges of the High Court of the Region or the High Court of the State**

310. The Chief Justice of the High Court of the Region or State and Judges of the High Court of the Region or State shall be a person of the following qualifications :

(a) not younger than 45 years and not older than 65 years of age;

(b) who has the qualifications, with the exception of the age limit, prescribed under Section 120 for the Pyithu Hluttaw representatives;

(၃) ပုဒ်မခွဲငယ် (၂) အရ ငြင်းပယ်ခြင်းခံရသောပုဂ္ဂိုလ်များအစား အမည်စာရင်းသစ်ကို သတ်မှတ်ထားသည့်အတိုင်း ထပ်မံတင်သွင်းခွင့်ရှိသည်၊

(၄) နိုင်ငံတော်သမ္မတသည် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်က သဘောတူညီသူများကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးချုပ်အဖြစ်လည်းကောင်း၊ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများအဖြစ် လည်းကောင်း ခန့်အပ်ရမည်။

၃၀၉။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးချုပ်များနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးများသည် ပါတီနိုင်ငံရေးနှင့် ကင်းရှင်းရမည်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးချုပ်များနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးများသည် နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်အဖြစ်လည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် တရားလွှတ်တော် တရားသူကြီးအဖြစ်လည်းကောင်း ခန့်အပ်တာဝန်ပေးခြင်း ခံရသည့်နေ့မှစ၍ တည်ဆဲ ဝန်ထမ်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူရမည်။

**တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးချုပ်များနှင့် တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများ၏အရည်အချင်း**

၃၁၀။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်များနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများသည် အောက်ပါအရည်အချင်းများနှင့် ပြည့်စုံရမည်

(က) အသက် ၄၅ နှစ်ထက်မငယ်၊ အသက် ၆၅ နှစ်ထက်မကြီးသူ၊

(ခ) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့်ပြည့်စုံသူ၊

(c) whose qualifications does not breach the provisions under Section 121 which disqualify him from standing for election as Pyithu Hluttaw representatives;

(d) (i) who has served as a Judicial Officer or Law Officer at least five years not lower than that of the Region or State level or as a Judicial Officer or Law Officer at least 10 years not lower than that of the District level for; or

(ii) who has practised as an Advocate for at least 15 years; or

(iii) who is, in the opinion of the President, an eminent jurist.

(e) loyal to the Union and its citizens;

(f) who is not a member of a political party;

(g) who is not a Hluttaw representative.

**Impeachment of the Chief Justice of the High Court of the Region or the High Court of the State and Judges of the High Court of the Region or the High Court of the State**

311. (a) The Chief Justice of the High Court of the Region or State or Judges of the High Court of the Region or State may be impeached on any of the following reasons :

(i) high treason;

(ii) breach of any provision of the Constitution;

(iii) misconduct;

(ဂ) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့် မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(ဃ) (၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့်ထက်မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိရာထူးတွင် အနည်းဆုံး ၅ နှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ် ခရိုင်အဆင့်ထက်မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိရာထူးတွင် အနည်းဆုံး ၁၀ နှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ်

(၂) တရားလွှတ်တော်ရှေ့နေအဖြစ် အနည်းဆုံး ၁၅ နှစ် အမှုလိုက်ပါဆောင်ရွက်ခဲ့သူ သို့မဟုတ်

(၃) ထင်ပေါ်ကျော်ကြားသည့် ဂုဏ်သတင်းရှိသော ဥပဒေပညာရှင်အဖြစ် နိုင်ငံတော်သမ္မတက ယူဆသူ။

(င) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ၊

(စ) နိုင်ငံရေးပါတီဝင်မဟုတ်သူ၊

(ဆ) လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူ။

**တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်နှင့် တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများအား စွပ်စွဲပြစ်တင်ခြင်း**

၃၁၁။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်ကိုလည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးကိုလည်းကောင်း အောက်ပါအကြောင်းတစ်ရပ်ရပ်ဖြင့် စွပ်စွဲပြစ်တင်နိုင်သည် -

(၁) နိုင်ငံတော်၏ကျေးဇူးသစ္စာတော်ကိုဖောက်ဖျက်ခြင်း၊

(၂) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ကျူးလွန်ခြင်း၊

(၃) အကျင့်သိက္ခာပျက်ပြားခြင်း၊

(iv) disqualification of the qualification of the Chief Justice of the High Court of the Region or State and Judges of the High Court of the Region or State prescribed under Section 310;

(v) inefficient discharge of duties assigned by law.

(b) If the President wishes to impeach the Chief Justice of the High Court of the Region or State or the Chief Minister of the Region or State wishes to impeach any of the Judges of the High Court of the Region or State concerned, he shall submit the charge to the Speaker of the Region or State Hluttaw.

(c) If the representatives of the Region or State Hluttaw wish to impeach the Chief Justice of the High Court of the Region or State concerned or the Judge of the High Court of the Region or State concerned, the charge signed by not less than one-fourth of the total number of representatives of the Region or State Hluttaw concerned shall be submitted to the Speaker of the Region or State Hluttaw concerned.

(d) The Speaker of the Region or State Hluttaw shall form an investigation body and cause the charge to be investigated in accord with the law. The time for the completion of the investigation shall be determined on the volume of work.

(e) (i) If the President or the Chief Minister of the Region or the Chief Minister of the State wishes to carry out the impeachment, an investigation body shall be formed with the representatives of the Region or State Hluttaw concerned and a suitable person from among the members of the investigation body shall be assigned as the Chairperson.

(၄) ပုဒ်မ ၃၁၀ တွင် ပြဋ္ဌာန်းထားသောတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်နှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီး၏ အရည်အချင်း ပျက်ယွင်းခြင်း၊

(၅) ဥပဒေအရ ပေးအပ်သောတာဝန်များကို ကျေပွန်စွာမဆောင်ရွက်ခြင်း။

(ခ) နိုင်ငံတော်သမ္မတသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်ကိုလည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် ဝန်ကြီးချုပ်သည် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် တရားလွှတ်တော် တရားသူကြီးတစ်ဦးဦးကိုလည်းကောင်း စွပ်စွဲပြစ်တင်ရန် လိုအပ်ပါက မိမိ၏စွပ်စွဲချက်ကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ဥက္ကဋ္ဌထံ ပေးပို့ရမည်၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်များသည် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်ကိုလည်းကောင်း၊ သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးကိုလည်းကောင်း စွပ်စွဲပြစ်တင်ရန် လိုအပ်ပါက သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ် စုစုပေါင်းဦးရေအနက် အနည်းဆုံးလေးပုံတစ်ပုံက လက်မှတ် ရေးထိုးပြီး မိမိတို့၏စွပ်စွဲချက်ကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌထံ တင်ပြရမည်၊

(ဃ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌသည် စုံစမ်းစစ်ဆေးရေး အဖွဲ့ကို ဖွဲ့စည်း၍ ဥပဒေနှင့်အညီ စုံစမ်းစစ်ဆေးစေရမည်။ စုံစမ်းစစ်ဆေးရမည့် လုပ်ငန်းပမာဏကိုထောက်ရှု၍ စုံစမ်းစစ်ဆေးမှုပြီးစီးရမည့် အချိန်ကာလ ကိုလည်း သတ်မှတ်ပေးရမည်၊

(င) (၁) နိုင်ငံတော်သမ္မတ သို့မဟုတ် တိုင်းဒေသကြီးဝန်ကြီးချုပ် သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်က စွပ်စွဲပြစ်တင်လျှင် စုံစမ်းစစ်ဆေးရေးအဖွဲ့ကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်း၍ ယင်းအဖွဲ့ဝင်များထဲမှ သင့်လျော်သူ တစ်ဦးဦးကို စုံစမ်းစစ်ဆေးရေးအဖွဲ့ဥက္ကဋ္ဌအဖြစ် တာဝန်ပေးရမည်၊

(ii) The President or the Chief Minister of the Region or State concerned may, himself in person or through a representative, explain the charge before the investigation body and has also the right to submit relevant evidences and witnesses.

(f) When the charge is being investigated, the person being charged shall be given the right to defend himself in person or through a representative.

(g) The Speaker of the Region or State Hluttaw shall, on being submitted the findings of the investigation concerning the impeachment by the investigation body, report it to the Region or State Hluttaw.

(h) The Speaker of the Region or State Hluttaw shall, if the resolution is passed that the charge has been substantiated and the alleged person is unfit to continue to serve as the Chief Justice of the High Court of the Region or State or a Judge of the High Court of the Region or State by two-thirds of the total number of the representatives of the Region or State Hluttaw, if it is the case concerning the Chief Justice of the High Court of the Region or State, the said resolution is submitted to the President and if it is the case concerning a Judge of the High Court of the Region or State, the said resolution is submitted to the Chief Minister of the Region or State concerned. The Chief Minister of the Region of the State shall, on receiving the said resolution, submit it to the President.

(i) On receiving the report, the President shall, proceed to remove the Chief Justice of the High Court of the Region or State or the Judge of the High Court of the Region or State who has been impeached from office.

(၂) နိုင်ငံတော်သမ္မတ သို့မဟုတ် သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် မိမိ၏စွပ်စွဲချက်နှင့်စပ်လျဉ်း၍ မိမိကိုယ်တိုင်သော်လည်းကောင်း၊ ကိုယ်စားလှယ်စေလွှတ်၍သော်လည်းကောင်း စုံစမ်းစစ်ဆေးရေးအဖွဲ့ ရှေ့မှောက်တွင် ရှင်းလင်းတင်ပြနိုင်သည်။ သက်ဆိုင်ရာ အထောက်အထားများနှင့် သက်သေများကိုလည်း တင်ပြနိုင်ခွင့်ရှိသည်။

(စ) စွပ်စွဲချက်ကို စုံစမ်းစစ်ဆေးသည့်အခါ စွပ်စွဲပြစ်တင်ခြင်းခံရသူအား ကိုယ်တိုင်သော်လည်းကောင်း၊ ကိုယ်စားလှယ်ဖြင့်သော်လည်းကောင်း ချေပခွင့်ပေးရမည်၊

(ဆ) စွပ်စွဲပြစ်တင်မှုနှင့်စပ်လျဉ်း၍ စုံစမ်းစစ်ဆေးရေးအဖွဲ့က စုံစမ်းတွေ့ရှိချက်ကို တင်ပြသည့်အခါ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်သို့ တင်ပြရမည်၊

(ဇ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ကိုယ်စားလှယ် စုစုပေါင်းဦးရေ၏ သုံးပုံနှစ်ပုံက စွပ်စွဲပြစ်တင်မှုသည် မှန်ကန်၍ စွပ်စွဲခံရသူသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ် သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးရာထူးတွင် ဆက်လက်ထမ်းရွက်စေရန် မသင့်ကြောင်းဆုံးဖြတ်လျှင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် ဥက္ကဋ္ဌသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်အတွက်ဖြစ်လျှင် နိုင်ငံတော်သမ္မတထံသို့ လည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးအတွက်ဖြစ်လျှင် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်ထံသို့ လည်းကောင်း ထိုဆုံးဖြတ်ချက်ကိုတင်ပြရမည်။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်သည် ဖော်ပြပါတင်ပြချက်ကို ရရှိသည့်အခါ နိုင်ငံတော်သမ္မတထံ ဆက်လက်တင်ပြရမည်၊

(ဈ) ယင်းသို့တင်ပြချက်များရရှိသည့်အခါ နိုင်ငံတော်သမ္မတသည် စွပ်စွဲပြစ်တင်ခြင်းခံရသည့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ် သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးကို ရာထူးမှရပ်စဲရမည်၊

(j) If the Region or State Hluttaw concerned resolves that the charge has failed, the Speaker of the Region or State Hluttaw shall, if it is the case concerning the Chief Justice of the High Court of the Region or State, such resolution is submitted to the President and if it is the case concerning the Judge of the High Court of the Region or State, such resolution is submitted to the Chief Minister of the Region or State concerned.

**Term of the Chief Justice of the High Court of the Region or the High Court of the State and Judges of the High Court of the Region or High Court of the State**

312. The Chief Justice of the High Court of the Region or State and Judges of the High Court of the Region or State shall hold office up to the age of 65 years unless any of the following occurs :

(a) resignation on his own volition;

(b) being impeached in accord with the provisions under the Constitution and removed from office;

(c) being found to be unable to continue to serve due to permanent disability caused by either physical or mental defect according to the findings of the medical board formed by law;

(d) death.

313. Duties, powers and rights of the Chief Justice of the High Court of the Region or State and the Judges of the High Court of the Region or State shall be prescribed by law.

(ည) စွပ်စွဲပြစ်တင်မှုသည် မမှန်ကန်ကြောင်း သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ကဆုံးဖြတ်လျှင် ထိုသို့ဆုံးဖြတ်ကြောင်းကို တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌသည် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်အတွက်ဖြစ်လျှင် နိုင်ငံတော်သမ္မတထံသို့လည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် တရားလွှတ်တော် တရားသူကြီးအတွက်ဖြစ်လျှင် သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်ထံသို့လည်းကောင်း တင်ပြရမည်။

**တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော်တရားသူကြီးချုပ်နှင့် တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများ၏ ရာထူးသက်တမ်း**

၃၁၂။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်များနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများသည် အောက်ပါအကြောင်းတစ်ရပ်ရပ် မပေါ်ပေါက်လျှင် အသက် ၆၅ နှစ် ပြည့်သည်အထိ တာဝန်ထမ်းဆောင်ခွင့်ရှိသည် -

(က) မိမိသဘောအလျောက် ရာထူးမှနုတ်ထွက်ခြင်း၊

(ခ) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ စွပ်စွဲပြစ်တင်ခြင်းခံရ၍ ရာထူးမှရပ်စဲခံရခြင်း၊

(ဂ) ဥပဒေအရသတ်မှတ်သောဆေးအဖွဲ့၏ စစ်ဆေးချက်အရ ကိုယ်စိတ်နှစ်ပါးအနက် တစ်ပါးပါးသည် ထာဝစဉ်ချို့ယွင်းသွားခြင်းကြောင့် တာဝန်ကို ဆက်လက်ထမ်းဆောင်နိုင်စွမ်းမရှိကြောင်း တွေ့ရှိရခြင်း၊

(ဃ) ကွယ်လွန်ခြင်း။

၃၁၃။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးချုပ်များနှင့် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးများ၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များ၊ ရပိုင်ခွင့်များကို ဥပဒေပြဋ္ဌာန်းသတ်မှတ်ရမည်။

**Courts under the Supervision of the High Court of the Region or the High Court of the State**

314. The following levels of Courts are under the supervision of the High Court of the Region or State :

(a) if there is no Self-Administered Areas in the Region or State :

(i) District Courts;

(ii) Township Courts.

(b) if there is Self-Administered Areas in the Region or State :

(i) In the Self-Administered Division :

(aa) Court of the Self-Administered Division;

(bb) Township Courts.

(ii) In the Self-Administered Zone :

(aa) Court of the Self-Administered Zone;

(bb) Township Courts.

(iii) In the remaining areas :

(aa) District Courts;

(bb) Township Courts.

(c) In the Union Territory :

(i) District Courts;

(ii) Township Courts.

(d) Other Courts constituted by law.

**Jurisdiction of the District Courts and Township Courts**

315. District Courts, Courts of the Self-Administered Division, and Courts of the Self-Administered Zone, in accord with the law, have the jurisdiction relating to original criminal cases, original civil cases, appeal cases, revision cases or matters prescribed by any law.

**တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော်၏ ကြီးကြပ်မှု အောက်ရှိ တရားရုံးများ**

၃၁၄။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် ကြီးကြပ်မှုအောက်၌ အောက်ပါအတိုင်း တရားရုံးအဆင့်ဆင့်ရှိသည် -

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုမရှိလျှင်
(၁) ခရိုင်တရားရုံးများ၊
(၂) မြို့နယ်တရားရုံးများ။
(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုရှိလျှင်
(၁) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း၌
(ကက) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းတရားရုံး၊
(ခခ) မြို့နယ်တရားရုံးများ။
(၂) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ၌
(ကက) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသတရားရုံး၊
(ခခ) မြို့နယ်တရားရုံးများ။
(၃) ကျန်ဒေသများ၌
(ကက) ခရိုင်တရားရုံးများ၊
(ခခ) မြို့နယ်တရားရုံးများ။
(ဂ) ပြည်ထောင်စုနယ်မြေ၌
(၁) ခရိုင်တရားရုံးများ၊
(၂) မြို့နယ်တရားရုံးများ။
(ဃ) ဥပဒေအရတည်ထောင်ထားသော အခြားတရားရုံးများ။

**ခရိုင်တရားရုံးနှင့် မြို့နယ်တရားရုံးများ၏ စီရင်ပိုင်ခွင့်အာဏာများ**

၃၁၅။ ခရိုင်တရားရုံးများ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းတရားရုံးများ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသတရားရုံးများသည် ဥပဒေနှင့်အညီ ပြစ်မှုဆိုင်ရာမူလမှုများ၊ တရားမမူလမှုများကို လည်းကောင်း၊ အယူခံမှုများနှင့် ပြင်ဆင်မှုများကိုလည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရ သတ်မှတ်ထားသောကိစ္စရပ်များကိုလည်းကောင်း စီရင်ပိုင်ခွင့်အာဏာရှိသည်။

316. Township Courts, in accord with the law, have the jurisdiction relating to original criminal cases, original civil cases or matters prescribed by any law.

317. The Judges appointed in accord with the law at the Courts formed by the Constitution or any other law shall administer all judicial affairs in the entire Union.

318. (a) Appointment of Judges at various levels of Courts under the supervision of the High Court of the Region or State, conferring judicial powers, prescribing the duties, powers and rights shall be in accord with the law.

(b) Formation of staff organizations, comprising of officers and other ranks at the Supreme Court of the Union, the High Courts of the Region or State and other Courts, and prescribing duties, powers and rights shall be in accord with the law.

## Courts-Martial

319. According to Sub-Section (b) of Section 293, the Courts-Martial shall be constituted in accord with the Constitution and the other law and shall adjudicate Defence Services personnel.

## The Constitutional Tribunal of the Union

### Formation of the Constitutional Tribunal of the Union

320. The Constitutional Tribunal of the Union shall be formed with nine members including the Chairperson.

၃၁၆။ မြို့နယ်တရားရုံးများသည် ဥပဒေနှင့်အညီ ပြစ်မှုဆိုင်ရာမူလမှုများ၊ တရားမမူလမှုများကိုလည်းကောင်း၊ ဥပဒေတစ်ရပ်ရပ်အရ သတ်မှတ်ထားသောကိစ္စရပ်များကိုလည်းကောင်း စီရင်ပိုင်ခွင့်အာဏာရှိသည်။

၃၁၇။ ပြည်ထောင်စုတစ်ဝန်းလုံးတွင် တရားစီရင်ရေးဆိုင်ရာကိစ္စအဝဝကို ဖွဲ့စည်းပုံအခြေခံဥပဒေအရဖြစ်စေ၊ အခြားဥပဒေတစ်ရပ်ရပ်အရဖြစ်စေ ဖွဲ့စည်းသည့်တရားရုံးများတွင် ဥပဒေနှင့်အညီခန့်ထားသော တရားသူကြီးများက စီမံဆောင်ရွက်ရမည်။

၃၁၈။ (က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် ကြီးကြပ်မှုအောက်ရှိ တရားရုံးအဆင့်ဆင့်တွင် တရားသူကြီးများခန့်ထားခြင်း၊ စီရင်ပိုင်ခွင့်များအပ်နှင်းခြင်း၊ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များ သတ်မှတ်ခြင်းတို့သည် ဥပဒေနှင့်အညီ ဖြစ်စေရမည်၊

(ခ) ပြည်ထောင်စုတရားလွှတ်တော်ချုပ်၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော်များနှင့် ကျန်တရားရုံးများတွင် အရာရှိအဆင့်ဝန်ထမ်းများ၊ အခြားအဆင့်ဝန်ထမ်းများပါဝင်သည့် ဝန်ထမ်းအဖွဲ့အစည်းဖွဲ့စည်းခြင်း၊ တာဝန်များ၊ လုပ်ပိုင်ခွင့်များနှင့် ရပိုင်ခွင့်များသတ်မှတ်ခြင်းတို့သည် ဥပဒေနှင့်အညီ ဖြစ်စေရမည်။

## စစ်ဘက်ဆိုင်ရာတရားရုံးများ

၃၁၉။ ပုဒ်မ ၂၉၃ ပုဒ်မခွဲ (ခ) အရ စစ်ဘက်ဆိုင်ရာတရားရုံးများကို နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် အခြားဥပဒေအရဖွဲ့စည်း၍ တပ်မတော်သားများအတွက် တရားစီရင်ရမည်။

## နိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေဆိုင်ရာခုံရုံး

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး ဖွဲ့စည်းခြင်း**

၃၂၀။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံးကို ဥက္ကဋ္ဌအပါအဝင် အဖွဲ့ဝင် ကိုးဦး ဖြင့် ဖွဲ့စည်းရမည်။

321. The President shall submit the candidature list of total nine persons, three members chosen by him, three members chosen by the Speaker of the Pyithu Hluttaw and three members chosen by the Speaker of the Amyotha Hluttaw, and one member from among nine members to be assigned as the Chairperson of the Constitutional Tribunal of the Union, to the Pyidaungsu Hluttaw for its approval.

**Functions and Duties of the Constitutional Tribunal of the Union**

322. The functions and the duties of the Constitutional Tribunal of the Union are as follows :

(a) interpreting the provisions under the Constitution;

(b) vetting whether the laws promulgated by the Pyidaungsu Hluttaw, the Region Hluttaw, the State Hluttaw or the Self-Administered Division Leading Body and the Self-Administered Zone Leading Body are in conformity with the Constitution or not;

(c) vetting whether the measures of the executive authorities of the Union, the Regions, the States, and the Self-Administered Areas are in conformity with the Constitution or not;

(d) deciding Constitutional disputes between the Union and a Region, between the Union and a State, between a Region and a State, among the Regions, among the States, between a Region or a State and a Self-Administered Area and among the Self-Administered Areas;

(e) deciding disputes arising out of the rights and duties of the Union and a Region, a State or a Self-Administered Area in implementing the Union Law by a Region, State or Self-Administered Area;

၃၂၁။ နိုင်ငံတော်သမ္မတသည် မိမိရွေးချယ်ထားသည့် အဖွဲ့ဝင် သုံးဦး၊ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌက ရွေးချယ်ထားသည့် အဖွဲ့ဝင်သုံးဦးနှင့် အမျိုးသားလွှတ်တော်ဥက္ကဋ္ဌက ရွေးချယ်ထားသည့် အဖွဲ့ဝင် သုံးဦး စုစုပေါင်း ကိုးဦး၏ အမည်စာရင်းကိုလည်းကောင်း၊ ယင်းတို့အနက် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံးဥက္ကဋ္ဌအဖြစ် တာဝန်ပေးအပ်ရန် အဖွဲ့ဝင်တစ်ဦး၏ အမည်ကိုလည်းကောင်း၊ ပြည်ထောင်စုလွှတ်တော်သို့ တင်သွင်းလျက် သဘောတူညီချက် ရယူရမည်။

## နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ လုပ်ငန်းတာဝန်

၃၂၂။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ လုပ်ငန်းတာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည် -

(က) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို အနက်အဓိပ္ပာယ်ဖွင့်ဆိုခြင်း၊

(ခ) ပြည်ထောင်စုလွှတ်တော်၊ တိုင်းဒေသကြီးလွှတ်တော်၊ ပြည်နယ်လွှတ်တော် သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်းဦးစီးအဖွဲ့နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဒေသဦးစီးအဖွဲ့တို့က ပြဋ္ဌာန်းသည့်ဥပဒေများသည် ဖွဲ့စည်းပုံအခြေခံ ဥပဒေနှင့် ညီညွတ်ခြင်းရှိ-မရှိ စိစစ်ခြင်း၊

(ဂ) ပြည်ထောင်စု၊ တိုင်းဒေသကြီးများ၊ ပြည်နယ်များနှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုများ၏ အုပ်ချုပ်မှုဆိုင်ရာအာဏာပိုင်များ၏ ဆောင်ရွက်ချက်များသည် ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် ညီညွတ်ခြင်း ရှိ-မရှိ စိစစ်ခြင်း၊

(ဃ) ပြည်ထောင်စုနှင့် တိုင်းဒေသကြီးအကြား၊ ပြည်ထောင်စုနှင့် ပြည်နယ်အကြား၊ တိုင်းဒေသကြီးနှင့် ပြည်နယ်အကြား၊ တိုင်းဒေသကြီးအချင်းချင်း၊ ပြည်နယ်အချင်းချင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်နှင့် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုအကြား၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရစီရင်စုအချင်းချင်း ဖြစ်ပေါ်သည့် ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ အငြင်းပွားမှုများကို ဆုံးဖြတ်ခြင်း၊

(င) တိုင်းဒေသကြီး၊ ပြည်နယ် သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုတို့က ပြည်ထောင်စုဥပဒေကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပြည်ထောင်စုနှင့် တိုင်းဒေသကြီး၊ ပြည်နယ် သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ စီရင်စုတို့၏ အခွင့်အရေးနှင့် တာဝန်များနှင့်စပ်လျဉ်း၍ ပေါ်ပေါက်သည့် အငြင်းပွားမှုများကို ဆုံးဖြတ်ခြင်း၊

(f) vetting and deciding matters intimated by the President relating to the Union Territory;

(g) functions and duties conferred by laws enacted by the Pyidaungsu Hluttaw.

**Effect of the Resolution of the Constitutional Tribunal of the Union**

323. In hearing a case by a Court, if there arises a dispute whether the provisions contained in any law contradict or conform to the Constitution, and if no resolution has been made by the Constitutional Tribunal of the Union on the said dispute, the said Court shall stay the trial and submit its opinion to the Constitutional Tribunal of the Union in accord with the prescribed procedures and shall obtain a resolution. In respect of the said dispute, the resolution of the Constitutional Tribunal of the Union shall be applied to all cases.

324. The resolution of the Constitutional Tribunal of the Union shall be final and conclusive.

**Submission to obtain the interpretation, resolution and opinion of the Constitutional Tribunal of the Union**

325. The following persons and organizations shall have the right to submit matters directly to obtain the interpretation, resolution and opinion of the Constitutional Tribunal of the Union :

(a) the President;

(b) the Speaker of the Pyidaungsu Hluttaw;

(c) the Speaker of the Pyithu Hluttaw;

(d) the Speaker of the Amyotha Hluttaw;

(e) the Chief Justice of the Union;

(f) the Chairperson of the Union Election Commission.

(စ) ပြည်ထောင်စုနယ်မြေများနှင့်စပ်လျဉ်း၍ နိုင်ငံတော်သမ္မတကအကြောင်းကြားလာသည့် ကိစ္စရပ်များကို စိစစ်ဆုံးဖြတ်ခြင်း၊

(ဆ) ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသည့်ဥပဒေများက ပေးအပ်သည့် လုပ်ငန်းတာဝန်များ။

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး ဆုံးဖြတ်ချက်၏ အကျိုးသက်ရောက်မှု**

၃၂၃။ တရားရုံးတစ်ရုံးသည် အမှုတစ်မှုကို စစ်ဆေးစီရင်ရာတွင် ဥပဒေတစ်ရပ်ရပ်ပါ ပြဋ္ဌာန်းချက်သည် ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် ဆန့်ကျင်မှုရှိ-မရှိ၊ ညီညွတ်မှုရှိ-မရှိ အငြင်းပွားမှုပေါ်ပေါက်ပါက ထိုအငြင်းပွားမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံးကလည်း တစ်စုံတစ်ရာဆုံးဖြတ်ချက် ချမှတ်ထားခြင်းမရှိသေးလျှင် အဆိုပါတရားရုံးသည် အမှုစစ်ဆေးစီရင်ခြင်းကိုရပ်ဆိုင်းထားပြီး မိမိ၏ထင်မြင်ချက်ကို သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးသို့တင်ပြ၍ အဆုံးအဖြတ်ရယူရမည်။ ယင်းအငြင်းပွားမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေဆိုင်ရာခုံရုံး၏ ဆုံးဖြတ်ချက်သည် အမှုအားလုံးနှင့် သက်ဆိုင်စေရမည်။

၃၂၄။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ ဆုံးဖြတ်ချက်သည် အပြီးအပြတ်အတည်ဖြစ်သည်။

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ အဓိပ္ပာယ်ဖွင့်ဆိုချက်၊ ဆုံးဖြတ်ချက်နှင့် သဘောထားရယူရန် တင်သွင်းခြင်း**

၃၂၅။ ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ အဓိပ္ပာယ်ဖွင့်ဆိုချက်၊ ဆုံးဖြတ်ချက်၊ သဘောထားရယူရန်ကိစ္စများကို အောက်ဖော်ပြပါပုဂ္ဂိုလ်များသည် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံးသို့ တိုက်ရိုက်တင်သွင်းခွင့်ရှိသည်

(က) နိုင်ငံတော်သမ္မတ၊
(ခ) ပြည်ထောင်စုလွှတ်တော်နာယက၊
(ဂ) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၊
(ဃ) အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ၊
(င) ပြည်ထောင်စုတရားသူကြီးချုပ်၊
(စ) ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ဥက္ကဋ္ဌ။

326. The following persons and organizations shall have the right to submit matters to obtain the interpretation, resolution and opinion of the Constitutional Tribunal of the Union in accord with the prescribed procedures :

(a) the Chief Minister of the Region or State;

(b) the Speaker of the Region or State Hluttaw;

(c) the Chairperson of the Self-Administered Division Leading Body or the Self-Administered Zone Leading Body;

(d) Representatives numbering at least ten percent of all the representatives of the Pyithu Hluttaw or the Amyotha Hluttaw.

**Appointment of the Chairperson and members of the Constitutional Tribunal of the Union**

327. The President shall appoint the Chairperson and members of the Constitutional Tribunal of the Union approved by the Pyidaungsu Hluttaw .

328. The Pyidaungsu Hluttaw shall have no right to refuse the persons nominated for members of the Constitutional Tribunal of the Union by the President unless it can clearly be proved that they are disqualified.

329. The President has the right to submit again, in accord with the provisions of the Constitution, the new nomination list to replace the person who has not been approved by the Pyidaungsu Hluttaw for appointment as member of the Constitutional Tribunal of the Union.

330. A member of the Constitutional Tribunal of the Union shall :

(a) if he is a representative of any Hluttaw, be deemed to have resigned as representative of the Hluttaw commencing from the day he has been appointed as a member of the Constitutional Tribunal of the Union;

၃၂၆။ အောက်ပါပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းများသည် ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံး၏ အဓိပ္ပာယ်ဖွင့်ဆိုချက်၊ ဆုံးဖြတ်ချက်၊ သဘောထားရယူရန်ကိစ္စများကို သတ်မှတ်ထားသော နည်းလမ်းများနှင့်အညီ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံးသို့ တင်သွင်းခွင့်ရှိသည် -

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဝန်ကြီးချုပ်၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်ဥက္ကဋ္ဌ၊

(ဂ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်းဦးစီးအဖွဲ့ သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီးအဖွဲ့ဥက္ကဋ္ဌ၊

(ဃ) ပြည်သူ့လွှတ်တော် သို့မဟုတ် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်အားလုံး၏ အနည်းဆုံး ၁၀ ရာခိုင်နှုန်း အရေအတွက်ရှိသော ကိုယ်စားလှယ်များ။

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များ ခန့်အပ်တာဝန်ပေးခြင်း**

၃၂၇။ နိုင်ငံတော်သမ္မတသည် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက် ရရှိပြီးသည့် ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များအား နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များအဖြစ် ခန့်အပ်တာဝန်ပေးရမည်။

၃၂၈။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်၏ အရည်အချင်းနှင့် မပြည့်စုံကြောင်း အထင်အရှားမပြနိုင်ပါက ပြည်ထောင်စုလွှတ်တော်သည် နိုင်ငံတော်သမ္မတက စုစည်းအမည်စာရင်းတင်သွင်းသည့် ပုဂ္ဂိုလ်များအား နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံးအဖွဲ့ဝင်အဖြစ် ခန့်အပ်တာဝန်ပေးရန် ငြင်းပယ်ခွင့်မရှိစေရ။

၃၂၉။ နိုင်ငံတော်သမ္မတသည် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်အဖြစ် ခန့်အပ်တာဝန်ပေးရန် ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက် မရရှိသည့်အဖွဲ့ဝင်နေရာအတွက် အမည်စာရင်းသစ်ကို ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များ နှင့်အညီ ပြည်ထောင်စုလွှတ်တော်သို့ ထပ်မံတင်သွင်းခွင့်ရှိသည်။

၃၃၀။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်တစ်ဦးသည် -

(က) လွှတ်တော်တစ်ရပ်ရပ်၏ ကိုယ်စားလှယ်ဖြစ်လျှင် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့် နေ့မှစ၍ လွှတ်တော်ကိုယ်စားလှယ်အဖြစ်မှ နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(b) if he is a Civil Services personnel, be deemed to have retired from the Civil Services in accord with the existing Civil Services Regulations commencing from the day he has been appointed as a member of the Constitutional Tribunal of the Union;

(c) if he is a member of any political party, he shall not take part in its party activities during his term, commencing from the day he has been appointed a member of the Constitutional Tribunal of the Union.

331. If a member of the Constitutional Tribunal of the Union wishes to resign on his own volition from office before the expiry of his term due to any reason, he may do so, after submitting his resignation in writing to the President.

332. If the position of a member of the Constitutional Tribunal of the Union is vacant for any reason, the President may appoint a new member of the Constitutional Tribunal of the Union in accord with the provisions under the Constitution.

**Qualifications of the Member of the Constitutional Tribunal of the Union**

333. The President, the Speaker of the Pyithu Hluttaw and the Speaker of the Amyotha Hluttaw shall select from among the Hluttaw representatives or among those who are not Hluttaw representatives with three members each who has the following qualifications :

(a) person who has attained the age of 50 years;

(b) person who has qualifications, with the exception of the age limit, prescribed in Section 120 for Pyithu Hluttaw representatives;

(ခ) နိုင်ငံ့ဝန်ထမ်းဖြစ်လျှင် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်အဖြစ် ခန့်အပ်တာဝန်ပေးခြင်းခံရသည့်နေ့မှစ၍ တည်ဆဲဝန်ထမ်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ ဝန်ထမ်းအဖြစ်မှ အငြိမ်းစားယူပြီးဖြစ်သည်ဟု မှတ်ယူရမည်၊

(ဂ) နိုင်ငံရေးပါတီတစ်ခုခု၌ အဖွဲ့ဝင်ဖြစ်လျှင် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်အဖြစ် တာဝန်ပေးအပ်ခြင်းခံရသည့်နေ့မှစ၍ မိမိရာထူးသက်တမ်းအတွင်း ယင်းပါတီအဖွဲ့အစည်း၏ ပါတီလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ခြင်းမပြုရ။

၃၃၁။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်တစ်ဦးဦးသည် ရာထူးသက်တမ်းမကုန်ဆုံးမီ အကြောင်းတစ်ခုခုကြောင့် မိမိသဘောဆန္ဒအလျောက် ရာထူးမှ နုတ်ထွက်လိုလျှင် ထိုသို့နုတ်ထွက်လိုကြောင်း နိုင်ငံတော်သမ္မတထံ စာဖြင့်တင်ပြပြီး ရာထူးမှ နုတ်ထွက်နိုင်သည်။

၃၃၂။ အကြောင်းတစ်ခုခုကြောင့် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင် ရာထူးနေရာလစ်လပ်လျှင် နိုင်ငံတော်သမ္မတသည် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်အသစ်အား ခန့်အပ်တာဝန်ပေးနိုင်သည်။

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်၏ အရည်အချင်း**

၃၃၃။ နိုင်ငံတော်သမ္မတ၊ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် အမျိုးသားလွှတ်တော်ဥက္ကဋ္ဌတို့သည် လွှတ်တော်ကိုယ်စားလှယ်များထဲကဖြစ်စေ၊ လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူများထဲက ဖြစ်စေ အောက်ဖော်ပြပါ အရည်အချင်းများနှင့် ပြည့်စုံသူများအနက်မှ အဖွဲ့ဝင် သုံးဦးစီကို ရွေးချယ်ရမည် -

(က) အသက် ၅၀ နှစ် ပြည့်ပြီးသူ၊

(ခ) အသက်ကန့်သတ်ချက်မှအပ ပုဒ်မ ၁၂၀ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များအတွက် သတ်မှတ်ထားသော အရည်အချင်းများနှင့် ပြည့်စုံသူ၊

(c) person whoes qualification does not breach the provisions under Section 121 which disqualify a person standing for election as Pyithu Hluttaw representatives;

(d) (i) person who has served as a Judge of the High Court of the Region or State for at least five years; or

(ii) person who has served as a Judicial Officer or a Law Officer at least 10 years not lower than that of the Region or State level for; or

(iii) person who has practised as an Advocate for at least 20 years; or

(iv) person who is, in the opinion of the President, an eminent jurist.

(e) person who is not a member of a political party;

(f) person who is not a Hluttaw representative;

(g) person who has political, administrative, economic and security outlook;

(h) person loyal to the Union and its citizens.

**Impeachment of the Chairperson and the Members of the Constitutional Tribunal of the Union**

334. (a) The Chairperson and members of the Constitutional Tribunal of the Union may be impeached on any of the following reasons :

(i) high treason;

(ii) breach of any of the provisions under the Constitution;

(iii) misconduct;

(iv) disqualification of the qualifications of member of the Constitutional Tribunal of the Union prescribed under Section 333;

(v) inefficient discharge of duties assigned by law.

(ဂ) ပုဒ်မ ၁၂၁ တွင် ဖော်ပြထားသည့် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များအဖြစ် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်မရှိစေသော ပြဋ္ဌာန်းချက်များနှင့်လည်း ငြိစွန်းခြင်းမရှိသူ၊

(ဃ) (၁) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်တရားလွှတ်တော် တရားသူကြီးအဖြစ် အနည်းဆုံး ငါးနှစ် ဆောင်ရွက်ခဲ့သူ သို့မဟုတ်

(၂) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့်ထက်မနိမ့်သော တရားရေးအရာရှိ သို့မဟုတ် ဥပဒေအရာရှိရာထူးတွင် အနည်းဆုံး ၁၀ နှစ် တာဝန်ထမ်းဆောင်ခဲ့သူ သို့မဟုတ်

(၃) တရားလွှတ်တော်ရှေ့နေအဖြစ် အနည်းဆုံး ၂၀ နှစ် အမှုလိုက်ပါဆောင်ရွက်ခဲ့သူ သို့မဟုတ်

(၄) ထင်ပေါ်ကျော်ကြားသည့် ဂုဏ်သတင်းရှိသော ဥပဒေပညာရှင်အဖြစ် နိုင်ငံတော်သမ္မတက ယူဆသူ။

(င) နိုင်ငံရေးပါတီဝင်မဟုတ်သူ၊

(စ) လွှတ်တော်ကိုယ်စားလှယ်မဟုတ်သူ၊

(ဆ) နိုင်ငံရေး၊ အုပ်ချုပ်ရေး၊ စီးပွားရေး၊ လုံခြုံရေးအမြင်ရှိသူ၊

(ဇ) နိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာရှိသူ။

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များအား စွပ်စွဲပြစ်တင်ခြင်း**

၃၃၄။ (က) နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးဥက္ကဋ္ဌနှင့် အဖွဲ့ဝင်တစ်ဦးဦးအား အောက်ပါအကြောင်းတစ်ရပ်ရပ်ဖြင့် စွပ်စွဲပြစ်တင်နိုင်သည်

(၁) နိုင်ငံတော်၏ ကျေးဇူးသစ္စာတော်ကို ဖောက်ဖျက်ခြင်း၊

(၂) ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ကျူးလွန်ခြင်း၊

(၃) အကျင့်သိက္ခာပျက်ပြားခြင်း၊

(၄) ပုဒ်မ ၃၃၃ တွင် သတ်မှတ်ထားသည့် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးအဖွဲ့ဝင်၏ အရည်အချင်းပျက်ယွင်းခြင်း၊

(၅) ဥပဒေအရ ပေးအပ်သော တာဝန်များကို ကျေပွန်စွာ မဆောင်ရွက်ခြင်း။

(b) If the Chairperson or any member of the Constitutional Tribunal of the Union is to be impeached, it shall be done so in accord with the impeachment provisions as prescribed under Section 302 of the Chief Justice of the Union or a Judge of the Supreme Court of the Union.

**Term of the Constitutional Tribunal of the Union**

335. The term of the Constitutional Tribunal of the Union is the same as that of the Pyidaungsu Hluttaw being five years. However, the ongoing Constitution Tribunal of the Union, on expiry of its term, shall continue its functions till the President forms a new Tribunal under the Constitution.

336. The formation and communication of the Constitutional Tribunal of the Union, duties, powers and rights of the Chairperson and members of the Tribunal shall be prescribed by law.

(ခ) နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးဥက္ကဋ္ဌနှင့် အဖွဲ့ဝင်တစ်ဦးဦးအပေါ် စွပ်စွဲပြစ်တင်လိုပါက ပြည်ထောင်စုတရားသူကြီးချုပ် သို့မဟုတ် ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးတစ်ဦးဦးအား စွပ်စွဲပြစ်တင်ခြင်းနှင့် စပ်လျဉ်း၍ ပုဒ်မ ၃၀၂ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။

**နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ သက်တမ်း**

၃၃၅။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ သက်တမ်းသည် ပြည်ထောင်စု လွှတ်တော်၏ သက်တမ်းနှင့်အညီ ငါးနှစ်ဖြစ်သည်။ သို့ရာတွင် သက်တမ်းကုန်ဆုံးပြီး ဖြစ်သော်လည်း လက်ရှိတာဝန်ထမ်းဆောင်လျက်ရှိသော နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေ ဆိုင်ရာခုံရုံးသည် ဖွဲ့စည်းပုံအခြေခံဥပဒေအရ နိုင်ငံတော်သမ္မတက နိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေဆိုင်ရာခုံရုံးအသစ် ဖွဲ့စည်းပြီးသည့်အချိန်အထိ မိမိ၏လုပ်ငန်းတာဝန်များကို ဆက်လက်တာဝန်ထမ်းဆောင်ရမည်။

၃၃၆။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး၏ ဖွဲ့စည်းမှု၊ ဆက်သွယ်မှု၊ ခုံရုံးဥက္ကဋ္ဌ နှင့် အဖွဲ့ဝင်များ၏ တာဝန်များ၊ လုပ်ပိုင်ခွင့်များ၊ ရပိုင်ခွင့်များ စသည်တို့ကို ဥပဒေပြဋ္ဌာန်း သတ်မှတ် ရမည်။

# Chapter VII
# Defence Services

337. The main armed force for the Defence of the Union is the Defence Services.

338. All the armed forces in the Union shall be under the command of the Defence Services.

339. The Defence Services shall lead in safeguarding the Union against all internal and external dangers.

340. With the approval of the National Defence and Security Council, the Defence Services has the authority to administer the participation of the entire people in the Security and Defence of the Union. The strategy of the people's militia shall be carried out under the leadership of the Defence Services.

341. The Defence Services shall render assistance when calamities that affects the Union and its citizens occur in the Union.

342. The President shall appoint the Commander-in-Chief of the Defence Services with the proposal and approval of the National Defence and Security Council.

343. In the adjudication of Military justice :

(a) the Defence Services personnel may be administered in accord with law collectively or singly;

(b) the decision of the Commander-in-Chief of the Defence Services is final and conclusive.

344. A law shall be enacted to provide assistance and care for disabled Defence Services personnel and the families of deceased or fallen Defence Services personnel.

## အခန်း(၇)
## တပ်မတော်

၃၃၇။ တပ်မတော်သည် နိုင်ငံတော်ကာကွယ်ရေးအတွက် အဓိကအကျဆုံးသော လက်နက်ကိုင်တပ်ဖွဲ့ ဖြစ်သည်။

၃၃၈။ နိုင်ငံတော်အတွင်းရှိ လက်နက်ကိုင်အဖွဲ့အစည်းအားလုံးသည် တပ်မတော်၏ကွပ်ကဲမှုအောက်တွင်ရှိရမည်။

၃၃၉။ နိုင်ငံတော်အားပြည်တွင်း၊ ပြည်ပအန္တရာယ်များမှကာကွယ်ရေးအတွက် တပ်မတော်က ဦးဆောင်ရမည်။

၃၄၀။ တပ်မတော်သည် အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီ၏ သဘောတူညီချက်ဖြင့် နိုင်ငံတော်လုံခြုံရေးနှင့် ကာကွယ်ရေးတွင် ပြည်သူတစ်ရပ်လုံးပါဝင်ရေးအတွက် စီမံဆောင်ရွက်ခွင့်ရှိသည်။ တပ်မတော်၏ဦးဆောင်မှုဖြင့် ပြည်သူ့စစ်မဟာဗျူဟာကို ဖော်ဆောင်ရမည်။

၃၄၁။ နိုင်ငံတော်တွင် နိုင်ငံတော်နှင့် နိုင်ငံသားများအတွက် ဘေးအန္တရာယ်များကျရောက်လာလျှင် တပ်မတော်ကကူညီဆောင်ရွက်ရမည်။

၃၄၂။ နိုင်ငံတော်သမ္မတသည် အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီ၏ အဆိုပြုထောက်ခံချက်ဖြင့် တပ်မတော်ကာကွယ်ရေးဦးစီးချုပ်ကို ခန့်အပ်တာဝန်ပေးရမည်။

၃၄၃။ စစ်ဘက်တရားစီရင်ရာတွင် -

(က) တပ်မတော်သားများအတွက် အဖွဲ့ဖြင့်ဖြစ်စေ၊ တစ်ဦးတည်းဖြစ်စေ ဥပဒေနှင့်အညီ စီရင်နိုင်သည်၊

(ခ) တပ်မတော်ကာကွယ်ရေးဦးစီးချုပ်၏ အဆုံးအဖြတ်သည် အပြီးအပြတ်ဖြစ်သည်။

၃၄၄။ မသန်မစွမ်းဖြစ်သွားသော တပ်မတော်သားများနှင့် သေဆုံးသော သို့မဟုတ် ကျဆုံးသော တပ်မတော်သားများ၏မိသားစုများအား ထောက်ပံ့စောင့်ရှောက်ရေးတို့အတွက် ဥပဒေပြဋ္ဌာန်းရမည်။

## Chapter VIII

# Citizen, Fundamental Rights and Duties of the Citizens

345. All persons who have either one of the following qualifications are citizens of the Republic of the Union of Myanmar:

(a) person born of parents both of whom are nationals of the Republic of the Union of Myanmar;

(b) person who is already a citizen according to law on the day this Constitution comes into operation.

346. Citizenship, naturalization and revocation of citizenship shall be as prescribed by law.

347. The Union shall guarantee any person to enjoy equal rights before the law and shall equally provide legal protection.

348. The Union shall not discriminate any citizen of the Republic of the Union of Myanmar, based on race, birth, religion, official position, status, culture, sex and wealth.

349. Citizens shall enjoy equal opportunity in carrying out the following functions :

(a) public employment;

(b) occupation;

(c) trade;

(d) business;

(e) technical know-how and vocation;

(f) exploration of art, science and technology.

# အခန်း(၈)
# နိုင်ငံသား၊ နိုင်ငံသားများ၏ မူလအခွင့်အရေးနှင့် တာဝန်များ

၃၄၅။ အောက်ဖော်ပြပါအရည်အချင်းတစ်ရပ်ရပ်နှင့်ပြည့်စုံသူများသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ နိုင်ငံသားများဖြစ်ကြသည် -

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တိုင်းရင်းသားမိဘနှစ်ပါးမှ မွေးဖွားသူ၊

(ခ) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အတည်ပြုပြဋ္ဌာန်းသည့်နေ့တွင် ဥပဒေအရ နိုင်ငံသားဖြစ်ပြီးသူ။

၃၄၆။ နိုင်ငံသားဖြစ်ခြင်း၊ နိုင်ငံသားပြုခြင်းနှင့် နိုင်ငံသားအဖြစ်မှရုပ်စဲခြင်းတို့သည် ဥပဒေဖြင့်ပြဋ္ဌာန်းသည့်အတိုင်း ဖြစ်စေရမည်။

၃၄၇။ နိုင်ငံတော်သည် မည်သူ့ကိုမဆို ဥပဒေအရာတွင် တန်းတူညီမျှအခွင့်အရေးရရှိစေရမည်။ ထို့ပြင် ဥပဒေ၏အကာအကွယ်ကိုလည်း တန်းတူညီမျှစွာ ရယူပိုင်ခွင့်ပေးရမည်။

၃၄၈။ နိုင်ငံတော်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ မည်သည့်နိုင်ငံသားကိုမျှ လူမျိုး၊ ဇာတိ၊ ကိုးကွယ်ရာဘာသာ၊ ရာထူးဌာနန္တရ၊ အဆင့်အတန်း၊ ယဉ်ကျေးမှု၊ အမျိုးသား၊ အမျိုးသမီး၊ ဆင်းရဲချမ်းသာတို့ကို အကြောင်းပြု၍ ခွဲခြားမှုမရှိစေရ။

၃၄၉။ နိုင်ငံသားများသည် အောက်ပါလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင်တူညီသော အခွင့်အလမ်းရရှိစေရမည် -

(က) ပြည်သူ့ဝန်ထမ်း တာဝန်ထမ်းဆောင်မှု၊

(ခ) အလုပ်လုပ်ကိုင်မှု၊

(ဂ) ကုန်သွယ်ရောင်းဝယ် ဖောက်ကားမှု၊

(ဃ) စီးပွားရေးလုပ်ငန်း လုပ်ကိုင်မှု၊

(င) အတတ်ပညာနှင့် အသက်မွေးဝမ်းကျောင်းမှု၊

(စ) ဝိဇ္ဇာပညာ၊ သိပ္ပံပညာနှင့် နည်းပညာရပ်များ ရှာဖွေဖော်ထုတ်မှု။

350. Women shall be entitled to the same rights and salaries as that received by men in respect of similar work.

351. Mothers, children and expectant women shall enjoy equal rights as prescribed by law.

352. The Union shall, upon specified qualifications being fulfilled, in appointing or assigning duties to civil service personnel, not discriminate for or against any citizen of the Republic of the Union of Myanmar, based on race, birth, religion, and sex. However, nothing in this Section shall prevent appointment of men to the positions that are suitable for men only.

353. Nothing shall, except in accord with existing laws, be detrimental to the life and personal freedom of any person.

354. Every citizen shall be at liberty in the exercise of the following rights, if not contrary to the laws, enacted for Union security, prevalence of law and order, community peace and tranquility or public order and morality:

(a) to express and publish freely their convictions and opinions;

(b) to assemble peacefully without arms and holding procession;

(c) to form associations and organizations;

(d) to develop their language, literature, culture they cherish, religion they profess, and customs without prejudice to the relations between one national race and another or among national races and to other faiths.

355. Every citizen shall have the right to settle and reside in any place within the Republic of the Union of Myanmar according to law.

၃၅၀။ အမျိုးသမီးများသည် တူညီသောအလုပ်အတွက် အမျိုးသားများခံစားခွင့်ရှိသော အခွင့်အရေးနှင့်လစာတို့ကို ခံစားခွင့်ရှိသည်။

၃၅၁။ မိခင်များ၊ ကလေးသူငယ်များနှင့် ကိုယ်ဝန်ဆောင်အမျိုးသမီးများသည် ဥပဒေအရ သတ်မှတ်ထားသော သက်ဆိုင်ရာအခွင့်အရေးများကို အညီအမျှခံစားခွင့်ရှိစေရမည်။

၃၅၂။ နိုင်ငံတော်သည် အလုပ်အကိုင်ခန့်ထားရာတွင်ဖြစ်စေ၊ နိုင်ငံ့ဝန်ထမ်းရွေးချယ်တာဝန်ပေးရာတွင်ဖြစ်စေ သတ်မှတ်သောအရည်အချင်းနှင့်ပြည့်စုံပါက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ မည်သည့်နိုင်ငံသားကိုမျှ လူမျိုး၊ ဇာတိ၊ ကိုးကွယ်ရာဘာသာ သာသနာ၊ အမျိုးသား၊ အမျိုးသမီးကိုအကြောင်းပြုလျက် ရာထူးရွေးချယ်ခန့်ထားခြင်းကို ခွဲခြားမှုမပြုရ။ သို့ရာတွင် အမျိုးသားများနှင့်သာလျော်ကန်သင့်မြတ်သည့် ရာထူးတာဝန်များအတွက် အမျိုးသားများအား ရွေးချယ်ခန့်ထားခြင်းကို ဤပုဒ်မအရ အဟန့်အတားမဖြစ်စေရ။

၃၅၃။ မည်သူ့ကိုမျှ တည်ဆဲဥပဒေနှင့်အညီမှတစ်ပါး အသက်ကိုဖြစ်စေ၊ ပုဂ္ဂိုလ်ဆိုင်ရာ လွတ်လပ်မှုကိုဖြစ်စေ နစ်နာဆုံးရှုံးမှုမရှိစေရ။

၃၅၄။ နိုင်ငံသားတိုင်းသည် နိုင်ငံတော်လုံခြုံရေး၊ တရားဥပဒေစိုးမိုးရေး၊ ရပ်ရွာအေးချမ်းသာယာရေး သို့မဟုတ် ပြည်သူတို့၏ကိုယ်ကျင့်တရားအကျိုးငှာ ပြဋ္ဌာန်းထားသည့်ဥပဒေများနှင့် မဆန့်ကျင်လျှင် အောက်ပါအခွင့်အရေးများကို လွတ်လပ်စွာသုံးစွဲဆောင်ရွက်ခွင့်ရှိသည် -

(က) မိမိ၏ ယုံကြည်ချက်၊ ထင်မြင်ယူဆချက်များကို လွတ်လပ်စွာ ထုတ်ဖော်ပြောဆိုခွင့်၊ ရေးသားဖြန့်ဝေခွင့်၊

(ခ) လက်နက်မပါဘဲ ငြိမ်းချမ်းစွာစုဝေးခွင့်၊ စီတန်းလှည့်လည်ခွင့်၊

(ဂ) အသင်းအဖွဲ့ သို့မဟုတ် အစည်းအရုံးများ ဖွဲ့စည်းဆောင်ရွက်ခွင့်၊

(ဃ) တိုင်းရင်းသားလူမျိုး တစ်မျိုးနှင့်တစ်မျိုး သို့မဟုတ် တိုင်းရင်းသားလူမျိုးအချင်းချင်းကိုလည်းကောင်း၊ အခြားဘာသာသာသနာကိုလည်းကောင်း ထိခိုက်နစ်နာမှုမရှိစေဘဲ မိမိချစ်ခင်မြတ်နိုးသည့် စကား၊ စာပေ၊ ယဉ်ကျေးမှု၊ ကိုးကွယ်သည့်ဘာသာသာသနာနှင့် ဓလေ့ထုံးတမ်းများကို လွတ်လပ်စွာ ဆောင်ရွက်ပိုင်ခွင့်။

၃၅၅။ နိုင်ငံသားတိုင်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မည်သည့်အရပ်ဒေသ၌မဆို ဥပဒေနှင့်အညီ အခြေစိုက်နေထိုင်ခွင့်ရှိသည်။

356. The Union shall protect according to law movable and immovable properties of every citizen that are lawfully acquired.

357. The Union shall protect the privacy and security of home, property, correspondence and other communications of citizens under the law subject to the provisions of this Constitution.

358. The Union prohibits the enslaving and trafficking in persons.

359. The Union prohibits forced labor except hard labor as a punishment for crime duly convicted and duties assigned by the Union in accord with the law in the interest of the public.

360. (a) The freedom of religious right given in Section 34 shall not include any economic, financial, political or other secular activities that may be associated with religious practice.

(b) The freedom of religious practice so guaranteed shall not debar the Union from enacting law for the purpose of public welfare and reform.

361. The Union recognizes special position of Buddhism as the faith professed by the great majority of the citizens of the Union.

362. The Union also recognizes Christianity, Islam, Hinduism and Animism as the religions existing in the Union at the day of the coming into operation of this Constitution.

363. The Union may assist and protect the religions it recognizes to its utmost.

၃၅၆။ နိုင်ငံတော်သည် နိုင်ငံသားများ၏ တရားဝင်ရရှိပိုင်ဆိုင်ထားသော ရွှေ့ပြောင်းနိုင်သောပစ္စည်း၊ မရွှေ့မပြောင်းနိုင်သောပစ္စည်းများနှင့်စပ်လျဉ်း၍ ဥပဒေအရ ကာကွယ်ပေးရမည်။

၃၅၇။ ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်လျှင် နိုင်ငံတော်သည် နိုင်ငံသားများ၏ နေအိမ်ဥပစာလုံခြုံမှု၊ ပစ္စည်းလုံခြုံမှု၊ စာပေးစာယူနှင့် အခြားဆက်သွယ်ရေးဆိုင်ရာလုံခြုံမှုများအတွက် ဥပဒေအရကာကွယ်ပေးရမည်။

၃၅၈။ နိုင်ငံတော်သည် ကျေးကျွန်ပြုမှုနှင့် လူကုန်ကူးမှုများကို တားမြစ်သည်။

၃၅၉။ နိုင်ငံတော်သည် ဥပဒေကျူးလွန်၍ ပြစ်ဒဏ်ပေးခြင်းကိုခံရသဖြင့် အလုပ်ဒဏ်ထမ်းဆောင်ခိုင်းခြင်းနှင့် အများပြည်သူအကျိုးအတွက်ဆောင်ရွက်ရန် နိုင်ငံတော်က ဥပဒေနှင့်အညီ တာဝန်ချထားခြင်းမှတစ်ပါး အဓမ္မစေခိုင်းခြင်းကို တားမြစ်သည်။

၃၆၀။ (က) ဘာသာသာသနာရေးဆိုင်ရာ ကိုးကွယ်ဆောက်တည်မှုသည် စီးပွားရေး၊ ဘဏ္ဍာရေး၊ နိုင်ငံရေး၊ အခြားလောကီရေးရာ ဆောင်ရွက်မှုတစ်ခုခုနှင့် ဆက်စပ်နေပါက ပုဒ်မ ၃၄ ပါ ဘာသာသာသနာရေးဆိုင်ရာ လွတ်လပ်ခွင့်များတွင် မပါဝင်စေရ၊

(ခ) ထိုသို့ ဘာသာသာသနာရေးနှင့်စပ်လျဉ်း၍ လွတ်လပ်သောအခွင့်အရေးများကိုပေးထားသော်လည်း အများပြည်သူအကျိုးကိစ္စနှင့် ပြုပြင်ရေးကိစ္စတို့အတွက် နိုင်ငံတော်၏ဥပဒေပြုခြင်းကို မတားမြစ်ရ။

၃၆၁။ နိုင်ငံတော်သည် ဗုဒ္ဓဘာသာသာသနာတော်ကို နိုင်ငံတော်၏ နိုင်ငံသားအများဆုံးကိုးကွယ်ရာဖြစ်သော ဂုဏ်ထူးဝိသေသနှင့်ပြည့်စုံသည့် ဘာသာသာသနာဖြစ်သည်ဟု နိုင်ငံတော်က အသိအမှတ်ပြုသည်။

၃၆၂။ နိုင်ငံတော်သည် ခရစ်ယာန်ဘာသာသာသနာ၊ အစ္စလာမ်ဘာသာသာသနာ၊ ဟိန္ဒူဘာသာသာသနာနှင့် နတ်ကိုးကွယ်သောဘာသာတို့ကို ဤဖွဲ့စည်းပုံအခြေခံဥပဒေအာဏာတည်သောနေ့၌ နိုင်ငံတော်တွင်ရှိနေကြသော ကိုးကွယ်ရာဘာသာများဟူ၍ အသိအမှတ်ပြုသည်။

၃၆၃။ နိုင်ငံတော်သည် အသိအမှတ်ပြုထားသော ဘာသာသာသနာများကို တတ်နိုင်သမျှကူညီစောင့်ရှောက်မည်။

364. The abuse of religion for political purposes is forbidden. Moreover, any act which is intended or is likely to promote feelings of hatred, enmity or discord between racial or religious communities or sects is contrary to this Constitution. A law may be promulgated to punish such activity.

365. Every citizen shall, in accord with the law, have the right to freely develop literature, culture, arts, customs and traditions they cherish. In the process, they shall avoid any act detrimental to national solidarity. Moreover, any particular action which might adversely affect the interests of one or several other national races shall be taken only after co-ordinating with and obtaining the settlement of those affected.

366. Every citizen, in accord with the educational policy laid down by the Union :

(a) has the right to education;

(b) shall be given basic education which the Union prescribes by law as compulsory;

(c) have the right to conduct scientific research explore science, work with creativity and write to develop the arts and conduct research freely other branches of culture.

367. Every citizen shall, in accord with the health policy laid down by the Union, have the right to health care.

368. The Union shall honour and assist citizens who are outstanding in education irrespective of race, religion and sex according to their qualifications.

၃၆၄။ နိုင်ငံရေးကိစ္စအလို့ငှာ ဘာသာသာသနာကို အလွဲသုံးစားမပြုရ။ ထို့ပြင် လူမျိုးရေးကြောင့်သော်လည်းကောင်း၊ ဘာသာရေးကြောင့်သော်လည်းကောင်း တစ်ဖက်နှင့်တစ်ဖက်၊ တစ်ဂိုဏ်းနှင့်တစ်ဂိုဏ်း မုန်းတီးခြင်း၊ ရန်မူခြင်း၊ စိတ်ဝမ်းကွဲခြင်းတစ်မျိုးမျိုး ပေါ်ပေါက်လာစေရန် ရည်ရွယ်သော သို့မဟုတ် ပေါ်ပေါက်လာရန်အကြောင်းရှိသော အပြုအမူသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့် ဆန့်ကျင်သည်။ ထိုအပြုအမူမျိုးအတွက် ပြစ်ဒဏ်ပေးနိုင်ရန် ဥပဒေပြဋ္ဌာန်းနိုင်သည်။

၃၆၅။ နိုင်ငံသားတိုင်းသည် ဥပဒေနှင့်အညီ မိမိတို့အမြတ်တနိုးထားရှိသော စာပေ၊ ယဉ်ကျေးမှု၊ အနုပညာနှင့်ဓလေ့ထုံးတမ်းတို့ကို လွတ်လပ်စွာ ပြုစုပျိုးထောင်ဆောင်ရွက်ပိုင်ခွင့် ရှိသည်။ ယင်းသို့ဆောင်ရွက်ရာတွင် တိုင်းရင်းသားစည်းလုံးညီညွတ်ရေးကို ထိပါးမှုမရှိစေရန် ရှောင်ကြဉ်ရမည်။ ထို့ပြင် မိမိတို့၏ဆောင်ရွက်မှုသည် အခြားတိုင်းရင်းသား လူမျိုးတစ်မျိုးကိုဖြစ်စေ၊ လူမျိုးများကိုဖြစ်စေ ထိခိုက်နစ်နာစေနိုင်လျှင် သက်ဆိုင်သူများအချင်းချင်းညှိနှိုင်း၍ ပြေလည်မှုရရှိပြီးမှသာ ဆောင်ရွက်ခွင့်ရှိသည်။

၃၆၆။ နိုင်ငံသားတိုင်းသည် နိုင်ငံတော်ကချမှတ်ထားသော ပညာရေးဆိုင်ရာမူဝါဒများနှင့်အညီ -

(က) ပညာသင်ကြားပိုင်ခွင့်ရှိသည်၊

(ခ) ဥပဒေဖြင့်ပြဋ္ဌာန်းသည့် မသင်မနေရအခြေခံပညာများကို သင်ကြားရမည်၊

(ဂ) သိပ္ပံပညာစူးစမ်းရှာဖွေမှု၊ စာပေနှင့် အနုပညာခေတ်မီတိုးတက်စေရန် တီထွင်ကြံဆဖော်ထုတ်ရေးသားမှုနှင့် ယဉ်ကျေးမှုကိစ္စများတွင် လွတ်လပ်စွာ သုတေသနပြု ဖော်ထုတ်ဆောင်ရွက်ခွင့်ရှိသည်။

၃၆၇။ နိုင်ငံသားတိုင်းသည် နိုင်ငံတော်ကချမှတ်ထားသော ကျန်းမာရေးဆိုင်ရာမူဝါဒများနှင့်အညီ ကျန်းမာရေးစောင့်ရှောက်မှုကို ခံယူခွင့်ရှိသည်။

၃၆၈။ နိုင်ငံတော်သည် ပညာရည်ထူးချွန်သော နိုင်ငံသားများအား လူမျိုး၊ ကိုးကွယ်ရာဘာသာ၊ အမျိုးသား၊ အမျိုးသမီးခွဲခြားမှုမထားရှိဘဲ ယင်းတို့၏ အရည်အချင်းအလိုက် ချီးမြှောက်ထောက်ပံ့မည်။

369. (a) Subject to this Constitution and relevant laws, every citizen has the right to elect and right to be elected to the Pyithu Hluttaw, the Amyotha Hluttaw, and the Region or State Hluttaw.

(b) Relevant electorate has the right to recall a Hluttaw representative in accord with the law.

370. Every citizen has, in accord with the law, the right to conduct business freely in the Union, for national economic development.

371. The Union may assist the access to technology, investment, machinery, raw material, so forth, for national economic development.

372. The Union guarantees the right to ownership, the use of property and the right to private invention and patent in the conducting of business if it is not contrary to the provisions of this Constitution and the existing laws.

373. Any person who committed a crime, shall be convicted only in accord with the relevant law then in operation. Moreover, he shall not be penalized to a penalty greater than that is applicable under that law.

374. Any person convicted or acquitted by a competent court for an offence shall not be retried unless a superior court annuls the judgment and orders the retrial.

375. An accused shall have the right of defence in accord with the law.

၃၆၉။ (က) နိုင်ငံသားတိုင်းသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့်ဖြစ်စေ၊ သက်ဆိုင်ရာ ဥပဒေများနှင့်ဖြစ်စေ မဆန့်ကျင်လျှင် ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော်၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် တစ်ရပ်ရပ်တွင် ရွေးကောက်တင်မြှောက်ခွင့်နှင့် ရွေးကောက်တင်မြှောက်ခံပိုင်ခွင့်ရှိသည်၊

(ခ) သက်ဆိုင်ရာ မဲဆန္ဒရှင်များသည် လွှတ်တော်တစ်ရပ်ရပ်မှ လွှတ်တော် ကိုယ်စားလှယ်ကို ဥပဒေနှင့်အညီ တာဝန်မှ ပြန်လည်ရုပ်သိမ်းခွင့်ရှိသည်။

၃၇၀။ နိုင်ငံသားများသည် နိုင်ငံတော်အတွင်း အမျိုးသားစီးပွားရေး ဖွံ့ဖြိုးတိုးတက်စေရေး အတွက် စီးပွားရေးလုပ်ငန်းများကို ဥပဒေနှင့်အညီ လွတ်လပ်စွာလုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည်။

၃၇၁။ နိုင်ငံတော်သည် အမျိုးသားစီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးအတွက် နည်းပညာ၊ အရင်းအနှီး၊ စက်မှုပစ္စည်း၊ ကုန်ကြမ်း အစရှိသည်တို့ကို ရရှိစေရန်ကူညီမည်။

၃၇၂။ ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း၊ တည်ဆဲဥပဒေများပါ ပြဋ္ဌာန်းချက်များနှင့်လည်းကောင်း မဆန့်ကျင်စေဘဲ စီးပွားရေးကိစ္စများကို ဆောင်ရွက်ရာတွင် ပစ္စည်းပိုင်ဆိုင်ခွင့်၊ သုံးစွဲခွင့်နှင့် ကိုယ်ပိုင်တီထွင်ခွင့်၊ မူပိုင်ခွင့်တို့ကို နိုင်ငံတော်က အာမခံသည်။

၃၇၃။ ပြစ်မှုကျူးလွန်သူ မည်သူ့ကိုမဆို ယင်းပြစ်မှုကျူးလွန်သည့်အချိန်က အတည်ဖြစ်လျက် ရှိသော သက်ဆိုင်ရာဥပဒေအရသာ ပြစ်မှုထင်ရှားစီရင်ရမည်။ ထို့ပြင် ယင်းဥပဒေအရ ချမှတ်နိုင်သော ပြစ်ဒဏ်ထက်ပို၍ ချမှတ်ခြင်းမပြုရ။

၃၇၄။ တစ်ဦးတစ်ယောက်သည် စီရင်ပိုင်ခွင့်ရှိသောတရားရုံးက ပြစ်မှုတစ်ရပ်အတွက် ပြစ်မှု ထင်ရှားစီရင်ခြင်းခံရလျှင်ဖြစ်စေ၊ အမှုမှအပြီးအပြတ်လွှတ်ခြင်းခံရလျှင်ဖြစ်စေ အဆိုပါပြစ်မှု ထင်ရှားစီရင်သည့်စီရင်ချက် သို့မဟုတ် အမှုမှအပြီးအပြတ်လွှတ်သည့်စီရင်ချက်ကို အဆင့်မြင့် တရားရုံးကပယ်ဖျက်ပြီး အမှုကိုအသစ်တစ်ဖန်ပြန်လည်စစ်ဆေးစေရန် အမိန့်ချမှတ်သည့်အခါ မှတစ်ပါး ယင်းပြစ်မှုအတွက် ထိုသူအား ထပ်မံစစ်ဆေးခြင်းမပြုရ။

၃၇၅။ ပြစ်မှုကျူးလွန်ကြောင်း စွပ်စွဲခံရသူတစ်ဦးဦးသည် ဥပဒေနှင့်အညီ ခုခံချေပခွင့်ရှိစေရမည်။

376. No person shall, except matters on precautionary measures taken for the security of the Union or prevalence of law and order, peace and tranquility in accord with the law in the interest of the public, or the matters permitted according to an existing law, be held in custody for more than 24 hours without the remand of a competent magistrate.

377. In order to obtain a right given by this Chapter, application shall be made in accord with the stipulations, to the Supreme Court of the Union.

378. (a) In connection with the filing of application for rights granted under this Chapter, the Supreme Court of the Union shall have the power to issue the following writs as suitable :

(1) Writ of Habeas Corpus;

(2) Writ of Mandamus;

(3) Writ of Prohibition;

(4) Writ of Quo Warranto;

(5) Writ of Certiorari.

(b) The right to issue writs by the Supreme Court of the Union shall not affect the power of other courts to issue order that has the nature of writs according to the existing laws.

379. At the time of the occurrence the following situation, the rights under Section 377 shall not be suspended unless the public safety may so require :

(a) in time of war;

(b) in time of foreign invasion;

(c) in time of insurrection.

၄၃၁။ အမျိုးသားကာကွယ်ရေးနှင့်လုံခြုံရေးကောင်စီသည် နိုင်ငံတော်အာဏာကို ကျင့်သုံးရာတွင် နိုင်ငံတော်သမ္မတအမည်ဖြင့် ဖော်ပြဆောင်ရွက်ရမည်။

၄၃၂။ အရေးပေါ်အခြေအနေ ထုတ်ပြန်ကြေညာထားစဉ် ကာလအတွင်းတွင် နိုင်ငံတော်သမ္မတကိုယ်စားဖြစ်စေ၊ တပ်မတော်ကာကွယ်ရေးဦးစီးချုပ်က နိုင်ငံတော်အာဏာကို ကျင့်သုံးနေသည့် ကာလအတွင်းဖြစ်စေ၊ အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီက နိုင်ငံတော်အာဏာကို ကျင့်သုံးနေသည့် ကာလအတွင်းဖြစ်စေ လုံခြုံရေး၊ တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေးတို့ကို မူလအခြေအနေသို့ အမြန်ပြန်လည်ရောက်ရှိစေခြင်းငှာ လိုအပ်သည့် အရေးယူဆောင်ရွက်မှုပြုနိုင်ရန် လုပ်ပိုင်ခွင့်နှင့်တာဝန်များပေးအပ်ခြင်းခံရသည့် အာဏာပိုင်အဖွဲ့အစည်းတစ်ရပ်ရပ်၊ ယင်းအဖွဲ့အစည်းဝင်တစ်ဦးဦး၊ နယ်ဘက်ဝန်ထမ်း အဖွဲ့အစည်းတစ်ရပ်ရပ်၊ ယင်းအဖွဲ့အစည်းဝင်တစ်ဦးဦး၊ စစ်ဘက်ဆိုင်ရာအဖွဲ့အစည်းတစ်ရပ်ရပ်၊ ယင်းအဖွဲ့အစည်းဝင် တစ်ဦးဦး၏ တရားဝင်ဆောင်ရွက်ချက်များသည် အတည်ဖြစ်စေရမည်။ ယင်းတရားဝင် ဆောင်ရွက်ချက်များအပေါ် အကြောင်းပြုလျက် တရားစွဲဆိုခွင့်မရှိစေရ။

## Chapter XII

# AMENDMENT OF THE CONSTITUTION

433. Any provision of this Constitution may be amended in the manner herein after provided :

(a) the proposal to amend the Constitution shall be submitted in the form of a Bill;

(b) the Bill to amend the Constitution shall not contain other proposals.

434. The Bill to amend the Constitution shall be submitted to the Pyidaungsu Hluttaw.

435. If twenty percent of the total number of the Pyidaungsu Hluttaw representatives submit the Bill to amend the Constitution, it shall be considered by the Pyidaungsu Hluttaw.

436. (a) If it is necessary to amend the provisions of Sections 1 to 48 in Chapter I, Sections 49 to 56 in Chapter II, Sections 59 and 60 in Chapter III, Sections 74, 109, 141 and 161 in Chapter IV, Sections 200, 201, 248 and 276 in Chapter V, Sections 293, 294, 305, 314 and 320 in Chapter VI, Sections 410 to 432 in Chapter XI and Sections 436 in Chapter XII of this Constitution, it shall be amended with the prior approval of more than seventy-five percent of all the representatives of the Pyidaungsu Hluttaw, after which in a nation-wide referendum only with the votes of more than half of those who are eligible to vote.

# အခန်း(၁၂)
# ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင်ခြင်း

၄၃၃။ ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကိုပြင်ဆင်လိုပါက အောက်ဖော်ပြပါ သတ်မှတ်ထားသောနည်းလမ်းအတိုင်း ဆောင်ရွက်ရမည် -

(က) ဖွဲ့စည်းပုံအခြေခံဥပဒေကိုပြင်ဆင်ရန် တင်သွင်းသောအဆိုကို ဥပဒေမူကြမ်းအဖြစ်ဖြင့် တင်သွင်းရမည်၊

(ခ) ဖွဲ့စည်းပုံအခြေခံဥပဒေကိုပြင်ဆင်ရန် အဆိုတင်သွင်းသော ဥပဒေမူကြမ်းတွင် အခြားအဆိုများ မပါရှိစေရ။

၄၃၄။ ဖွဲ့စည်းပုံအခြေခံဥပဒေကိုပြင်ဆင်ရန် ဥပဒေမူကြမ်းကို ပြည်ထောင်စုလွှတ်တော်တွင် တင်သွင်းရမည်။

၄၃၅။ ဖွဲ့စည်းပုံအခြေခံဥပဒေကိုပြင်ဆင်ရန် ဥပဒေမူကြမ်းကို ပြည်ထောင်စုလွှတ်တော်ရှိ လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်း၏ ၂၀ ရာခိုင်နှုန်းက တင်ပြလာလျှင် အဆိုပါပြင်ဆင်ချက် ဥပဒေမူကြမ်းကို ပြည်ထောင်စုလွှတ်တော်က လက်ခံဆွေးနွေးရမည်။

၄၃၆။ (က) ဤဖွဲ့စည်းပုံအခြေခံဥပဒေ၏ အခန်း(၁) ပုဒ်မ ၁ မှ ၄၈ ထိ၊ အခန်း(၂) ပုဒ်မ ၄၉ မှ ၅၆ ထိ၊ အခန်း(၃) ပုဒ်မ ၅၉၊ ၆၀၊ အခန်း(၄) ပုဒ်မ ၇၄၊ ၁၀၉၊ ၁၄၁၊ ၁၆၁၊ အခန်း(၅) ပုဒ်မ ၂၀၀၊ ၂၀၁၊ ၂၄၈၊ ၂၇၆၊ အခန်း(၆) ပုဒ်မ ၂၉၃၊ ၂၉၄၊ ၃၀၅၊ ၃၁၄၊ ၃၂၀၊ အခန်း(၁၁) ပုဒ်မ ၄၁၀ မှ ၄၃၂ ထိ၊ အခန်း(၁၂) ပုဒ်မ ၄၃၆ တို့ရှိ ပြဋ္ဌာန်းချက်များကို ပြင်ဆင်လိုလျှင် ပြည်ထောင်စုလွှတ်တော်ကိုယ်စားလှယ် အားလုံး၏ ၇၅ ရာခိုင်နှုန်းကျော်က ပြင်ဆင်ရန် သဘောတူလက်ခံပြီးနောက် ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပ၍ ဆန္ဒမဲပေးပိုင်ခွင့်ရှိသူအားလုံး၏ ထက်ဝက်ကျော်ဆန္ဒမဲဖြင့်သာ ပြင်ဆင်ရမည်၊

(b) Provisions other than those mentioned in Sub-Section (a) shall be amended only by a vote of more than seventy-five percent of all the representatives of the Pyidaungsu Hluttaw.

(ခ) ပုဒ်မခွဲ (က) တွင်ဖော်ပြထားသည့် ပြဋ္ဌာန်းချက်များမှအပ အခြားပြဋ္ဌာန်းချက်များကို ပြည်ထောင်စုလွှတ်တော် ကိုယ်စားလှယ်အားလုံး၏ ၇၅ ရာခိုင်နှုန်းကျော် ထောက်ခံဆန္ဒမဲဖြင့်သာ ပြင်ဆင်ရမည်။

# အခန်း (၁၃)
# နိုင်ငံတော်အလံ၊ အထိမ်းအမှတ်တံဆိပ်၊ သီချင်းနှင့်မြို့တော်

## Chapter XIII
# State Flag, State Seal, National Anthem and Capital

437. (a) The State Flag shall be as shown below :



(b) Law shall be promulgated concerning the State Flag.

438. (a) The State Seal shall be as shown below :




(b) Law shall be promulgated concerning the State Seal.

# အခန်း ( ၁၃ )
# နိုင်ငံတော်အလံ၊ အထိမ်းအမှတ်တံဆိပ်၊ သီချင်းနှင့်မြို့တော်

၄၃၇။ (က) နိုင်ငံတော်အလံသည် အောက်တွင်ဖော်ပြထားသည့်အတိုင်းဖြစ်သည်၊



(ခ) နိုင်ငံတော်အလံနှင့် စပ်လျဉ်း၍ ဥပဒေပြဋ္ဌာန်းရမည်။

၄၃၈။ (က) နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်သည် အောက်ပါအတိုင်းဖြစ်သည်၊




(ခ) နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ ဥပဒေပြဋ္ဌာန်းရမည်။

439. (a) The present National Anthem shall be prescribed as the National Anthem.

(b) Law shall be promulgated concerning the National Anthem.

440. The Capital of the Republic of the Union of Myanmar is Nay Pyi Taw.

၄၃၉။ (က) နိုင်ငံတော်သီချင်းအဖြစ် အောက်ဖော်ပြပါ လက်ရှိ နိုင်ငံတော်သီချင်းကို သတ်မှတ်သည်၊

## နိုင်ငံတော်သီချင်း

တရားမျှတ-လွတ်လပ်ခြင်းနဲ့မသွေ-
တို့ပြည်-တို့မြေ-
များလူခပ်သိမ်း-ငြိမ်းချမ်းစေဖို့-
ခွင့်တူညီမျှ-ဝါဒဖြူစင်တဲ့ပြည်-
တို့ပြည်-တို့မြေ-
ပြည်ထောင်စုအမွေ-အမြဲတည်တံ့စေ-
အဓိဋ္ဌာန်ပြုပေ-ထိန်းသိမ်းစို့လေ။
(ကမ္ဘာမကျေ-မြန်မာပြည်-
တို့ဘိုးဘွားအမွေစစ်မို့-ချစ်မြတ်နိုးပေ)[၂]
ပြည်ထောင်စုကို-အသက်ပေးလို့-တို့ကာကွယ်မလေ။
ဒါတို့ပြည်-ဒါတို့မြေ-တို့ပိုင်နက်မြေ။
တို့ပြည်-တို့မြေ-အကျိုးကို ညီညာစွာ-တို့တစ်တွေ
ထမ်းဆောင်ပါစို့လေ-တို့တာဝန်ပေ
အဖိုးတန်မြေ။

(ခ) နိုင်ငံတော်သီချင်းနှင့် စပ်လျဉ်း၍ ဥပဒေပြဋ္ဌာန်းရမည်။

၄၄၀။ နေပြည်တော်သည် နိုင်ငံတော်၏ မြို့တော် ဖြစ်သည်။

## Chapter XIV
# TRANSITORY PROVISIONS

441. A nation-wide referendum held for adoption of this Constitution where more than half of the eligible voters voted, of which majority of these voters adopted this Constitution, shall come into operation throughout the Union from the day the first session of the Pyidaungsu Hluttaw is convened.

442. The State Peace and Development Council shall continue to exercise State sovereignty before this Constitution comes into operation.

443. The preparatory work done by the State Peace and Development Council, before this Constitution comes into operation, to bring the Constitution into operation, shall be deemed to have been carried out in accord with this Constitution.

444. (a) The Government that exists on the day this Constitution comes into operation shall continue to discharge the respective duties until the emergence of the new Government formed and assigned duties in accord with this Constitution.

(b) All courts existing on the day the coming into operation of this Constitution shall continue to exercise their jurisdiction until new courts are constituted by law in accord with this Constitution. All cases, civil, criminal and revenue, pending in the said courts, shall be disposed of in accord with the laws exercised on the day on which the cases came up for trial.

# အခန်း(၁၄)
# ကူးပြောင်းရေးကာလပြဋ္ဌာန်းချက်များ

၄၄၁။ ပြည်လုံးကျွတ်ဆန္ဒခံယူပွဲတွင် ဆန္ဒမဲပေးခွင့်ရှိသူအားလုံး၏ ထက်ဝက်ကျော်မဲပေးသည့် ဆန္ဒမဲ၏မဲအများဖြင့် အတည်ပြုပြဋ္ဌာန်းလိုက်သည့် ဤဖွဲ့စည်းပုံအခြေခံဥပဒေသည် ပြည်ထောင်စုလွှတ်တော် ပထမအကြိမ်အစည်းအဝေးစတင်ကျင်းပသည့်နေ့မှစ၍ နိုင်ငံတော် တစ်ဝန်းလုံး၌ အာဏာတည်သည်။

၄၄၂။ ဤဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာမတည်မီ နိုင်ငံတော်၏အချုပ်အခြာအာဏာကို နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီက ဆက်လက် ကျင့်သုံးဆောင်ရွက်ရမည်။

၄၄၃။ ဤဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာတည်သည့်နေ့မတိုင်မီ နိုင်ငံတော်အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ဖွဲ့စည်းပုံအခြေခံဥပဒေ အကောင်အထည်ဖော်ရေးအတွက် ကြိုတင်ဆောင်ရွက်သည့် လုပ်ငန်းရပ်များသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ ဆောင်ရွက် သည်ဟု မှတ်ယူရမည်။

၄၄၄။ (က) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာတည်သည့်နေ့၌ တည်ရှိနေသော အစိုးရ အဖွဲ့သည် ဖွဲ့စည်းပုံအခြေခံဥပဒေအရ တာဝန်ပေးအပ်သည့် အစိုးရအဖွဲ့ မပေါ်ပေါက်မီ မိမိတို့၏သက်ဆိုင်ရာတာဝန်များကို ဆက်လက်ဆောင်ရွက် ရမည်၊

(ခ) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာတည်သည့်နေ့၌ တည်ရှိနေသောတရားရုံး များသည် ဖွဲ့စည်းပုံအခြေခံဥပဒေအရ တည်ထောင်သည့်တရားရုံးများ မပေါ် ပေါက်မီ ဆက်လက်၍ တရားစီရင်ပိုင်ခွင့်အာဏာများ သုံးစွဲဆောင်ရွက်ရမည်။ အဆိုပါ တရားရုံးများတွင် မပြီးမပြတ် ကျန်ရှိနေသေးသော တရားမမှုများ၊ ပြစ်မှုဆိုင်ရာ အမှုများနှင့် အခွန်တော်အမှုများကို အမှုစတင်စစ်ဆေးစဉ်က ကျင့်သုံးသည့် ဥပဒေများနှင့်အညီ ဆက်လက်စစ်ဆေး စီရင်ရမည်။

445. All policy guidelines, laws, rules, regulations, notifications and declarations of the State Law and Order Restoration Council and the State Peace and Development Council or actions, rights and responsibilities of the State Law and Order Restoration Council and the State Peace and Development Council shall devolve on the Republic of the Union of Myanmar. No proceeding shall be instituted against the said Councils or any member thereof or any member of the Government, in respect of any act done in the execution of their respective duties.

446. Existing laws shall remain in operation in so far as they are not contrary to this Constitution until and unless they are repealed or amended by the Pyidaungsu Hluttaw.

447. Existing rules, regulations, by-laws, notifications, orders, directives and procedures shall remain in operation in so far as they are not contrary to this Constitution until and unless they are repealed or amended by the Union Government.

448. All functioning Civil Services personnel of departmental organizations including the Defence Services under the State Peace and Development Council on the day this Constitution comes into operation, shall continue in their functions unless otherwise prescribed by the Government of the Republic of the Union of Myanmar.

၄၄၅။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်သည် နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေး အဖွဲ့နှင့် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီတို့၏ မူဝါဒလမ်းညွှန်မှုများ၊ ဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းများ၊ အမိန့်ပြန်တမ်းများ၊ ကြေညာချက်များကို လည်းကောင်း၊ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့နှင့် နိုင်ငံတော်အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီတို့၏ ဆောင်ရွက်ချက်များ၊ တာဝန်များနှင့်ရပိုင်ခွင့်များကို လည်းကောင်း ဆက်ခံသည်။ ယင်းအဖွဲ့၊ သို့မဟုတ် အဖွဲ့ဝင်တစ်ဦးဦး၊ သို့မဟုတ် အစိုးရအဖွဲ့ဝင် တစ်ဦးဦး၏ တာဝန်အရဆောင်ရွက်ချက်များအပေါ် အကြောင်းပြု၍ ယင်းတို့အား တရားစွဲဆိုခြင်း၊ အရေးယူခြင်းမရှိစေရ။

၄၄၆။ တည်ဆဲဥပဒေများသည် ပြည်ထောင်စုလွှတ်တော်က ပယ်ဖျက်ခြင်း၊ ပြင်ဆင်ခြင်း မပြုသေးမီ ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့်မဆန့်ကျင်သမျှ အတည်ဖြစ်သည်။

၄၄၇။ တည်ဆဲနည်းဥပဒေများ၊ စည်းမျဉ်းများ၊ စည်းကမ်းများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့် များ၊ ညွှန်ကြားချက်များနှင့် လုပ်ထုံးလုပ်နည်းများကို ပြည်ထောင်စုအစိုးရအဖွဲ့က ပယ်ဖျက်ခြင်း၊ ပြင်ဆင်ခြင်းမပြုသေးမီ ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့် မဆန့်ကျင်သမျှ အတည်ဖြစ်သည်။

၄၄၈။ ဤဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာစတင်တည်သည့်နေ့တွင် နိုင်ငံတော်အေးချမ်း သာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီလက်အောက်၌ ဖွဲ့စည်းထားရှိသည့် တပ်မတော်အပါအဝင် ဌာနဆိုင်ရာအဖွဲ့အစည်းများ၌ အမှုထမ်းရွက်ဆဲဖြစ်ကြသော နိုင်ငံ့ဝန်ထမ်းများသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက အခြားပြဋ္ဌာန်းခြင်းမပြုသမျှ ဆက်လက် အမှုထမ်းရမည်။

## Chapter XV

# GENERAL PROVISIONS

449. This Constitution is the Basic Law of all the laws of the Union.

450. Myanmar language is the official language.

451. The application of the Basic Principles of the Union in the legislation and administration shall be the care of the Union but shall not be enforceable in any Court of law.

452. Interpretation of the preamble, Sections, Sub-Sections, expressions, individual words and ideas of this Constitution shall be based only on the Myanmar text.

453. In interpretation of expressions contained in this Constitution reference shall be made to the existing Interpretation Law.

454. The Myanmar text of this Constitution shall be kept as record in the National Archives. Such text shall be conclusive evidence of the provisions of this Constitution.

455. The Government of the Union may, in the interest of the Union, relating to any of the economic activity prescribed to be carried out only by the Government of the Union :

(a) permit the Region government or the State government to form a joint venture with the Government of the Union or to operate under terms and conditions;

# အခန်း ( ၁၅ )
# အထွေထွေပြဋ္ဌာန်းချက်များ

၄၄၉။ ဤဖွဲ့စည်းပုံအခြေခံဥပဒေသည် နိုင်ငံတော်အတွင်းရှိ ဥပဒေအားလုံး၏အခြေခံဥပဒေဖြစ်သည်။

၄၅၀။ မြန်မာစာသည် ရုံးသုံးစာ ဖြစ်သည်။

၄၅၁။ နိုင်ငံတော်သည် ဥပဒေပြုရာတွင်လည်းကောင်း၊ အုပ်ချုပ်ရာတွင်လည်းကောင်း နိုင်ငံတော်အခြေခံမူများနှင့်အညီ အလေးဂရုပြု ဆောင်ရွက်ရမည်။ သို့ရာတွင် ထိုသို့ဆောင်ရွက်စေရန် မည်သည့်တရားရုံးတွင်မျှ တရားစွဲဆိုခွင့်မရှိစေရ။

၄၅၂။ ဤဖွဲ့စည်းပုံအခြေခံဥပဒေ၏ နိဒါန်း၊ ပုဒ်မများ၊ ပုဒ်မခွဲများ၊ စကားလုံးစုများ၊ စကားလုံးတစ်လုံးချင်း၏ အနက်အဓိပ္ပာယ်၊ သဘောအယူအဆများ ဖွင့်ဆိုရာ၌ မြန်မာစာဖြင့်ရေးသားထားချက်များအပေါ်တွင်သာ အခြေပြုရမည်။

၄၅၃။ ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ စကားရပ်များကို အနက်အဓိပ္ပာယ်ဖွင့်ဆိုရာတွင် တည်ဆဲစကားရပ်များ အနက်အဓိပ္ပာယ် ဖွင့်ဆိုရေးဥပဒေကို ကိုးကားရမည်။

၄၅၄။ ဤဖွဲ့စည်းပုံအခြေခံဥပဒေ မြန်မာစာမူတစ်ခုကို အမျိုးသားမော်ကွန်းတိုက်တွင် မော်ကွန်းတင်ထားရှိရမည်။ ထိုစာမူသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များအတွက် အပြီးအပြတ် သက်သေအရာတည်စေရမည်။

၄၅၅။ ပြည်ထောင်စုအစိုးရသည် ပြည်ထောင်စုအစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ရန် သတ်မှတ်ထားသော စီးပွားရေးလုပ်ငန်းတစ်ရပ်ရပ်ကို နိုင်ငံတော်၏အကျိုးစီးပွားအလို့ငှာ -

(က) တိုင်းဒေသကြီးအစိုးရအဖွဲ့ သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ကို ပြည်ထောင်စုအစိုးရအဖွဲ့နှင့် ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ရန်ဖြစ်စေ၊ စည်းကမ်းသတ်မှတ်ချက်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန်ဖြစ်စေ ခွင့်ပြုနိုင်သည်၊

(b) permit a co-operative organization, economic organization and an individual person to form a joint venture with the Government of the Union or to operate under terms and conditions.

456. The Republic of the Union of Myanmar shall honour all legitimate obligations arising out of treaties or agreements which before the commencement of this Constitution have been in operation between the Government of the Union of Myanmar and the Government of other State, provided that such other State honours any reciprocal obligations towards the Union of Myanmar.

457. (a) Any proceedings relating to contract or liabilities which might have been brought against the Government of the Union of Myanmar before this Constitution comes into operation, may be brought against the Government of the Union of Myanmar.

(b) The Republic of the Union of Myanmar may sue and be sued in the name of the Republic of the Union of Myanmar.

(ခ) သမဝါယမအဖွဲ့အစည်း၊ စီးပွားရေးအဖွဲ့အစည်း သို့မဟုတ် ပုဂ္ဂိုလ်တစ်ဦးဦးကို ပြည်ထောင်စုအစိုးရအဖွဲ့နှင့် ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ရန်ဖြစ်စေ၊ စည်းကမ်းသတ်မှတ်ချက်ဖြင့် လုပ်ကိုင်ဆောင်ရွက်ရန်ဖြစ်စေ ခွင့်ပြုနိုင်သည်။

၄၅၆။ ဤဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာမတည်မီကာလက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရနှင့် အခြားနိုင်ငံအစိုးရတို့ ချုပ်ဆိုအတည်ဖြစ်ခဲ့သော စာချုပ်များအရသော်လည်းကောင်း၊ သဘောတူညီချက်များအရ သော်လည်းကောင်း ပေါ်ထွက်လာသော တရားမျှတသည့်တာဝန်များကို အဆိုပါအခြားနိုင်ငံကလည်း ပြည်ထောင်စုမြန်မာနိုင်ငံနှင့် စပ်လျဉ်း၍ ထားရှိအပ်သော ပဋိညာဉ်များကို လေးစားပါက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကလည်း လေးစားသည်။

၄၅၇။ (က) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အာဏာမတည်မီက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရနှင့် ချုပ်ဆိုထားရှိခဲ့သော ပဋိညာဉ်များနှင့် စပ်လျဉ်း၍ဖြစ်စေ၊ တာဝန်များနှင့် စပ်လျဉ်း၍ဖြစ်စေ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအား တရားစွဲဆိုနိုင်သော အခွင့်အရေးအရ တရားစွဲဆိုရန် ပေါ်ပေါက်ခဲ့လျှင် ပြည်ထောင်စုအစိုးရအား တရားစွဲဆိုနိုင်သည်၊

(ခ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏အမည်ဖြင့် တရားစွဲဆိုနိုင်သည်။ ထိုနည်းတူပင် တရားစွဲဆိုခြင်းကိုခံနိုင်သည်။

# SCHEDULE ONE
## Union Legislative List
## (Refer to Section 96)

1. **Union Defence and Security Sector**
   - (a) Defence of the Republic of the Union of Myanmar and every part thereof and preparation for such defence;
   - (b) Defence and Security industries;
   - (c) Arms, ammunition and explosives including biological and chemical weapons;
   - (d) Atomic energy, nuclear fuel and radiation and mineral resources essential to its production;
   - (e) Declaration of war and conclusion of peace;
   - (f) Stability, peace and tranquility of the Union and prevalence of law and order; and
   - (g) Police force.

2. **Foreign Affairs Sector**
   - (a) Representatives of the diplomatic, consular and other affairs;
   - (b) United Nations;
   - (c) Participation in international, regional and bilateral conferences, seminars, meetings, associations and other organizations and implementation of resolutions thereof;
   - (d) Conclusion and implementation of international and regional treaties, agreements, conventions and bilateral agreements and treaties;

# ဇယား ၁
# ပြည်ထောင်စုဥပဒေပြုစာရင်း
# (ပုဒ်မ ၉၆ ကို ရည်ညွှန်းသည်)

၁။ **နိုင်ငံတော်ကာကွယ်ရေးနှင့်လုံခြုံရေးကဏ္ဍ**

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ နယ်မြေအစိတ်အပိုင်းများကာကွယ်ရေး၊ ယင်းသို့ကာကွယ်ရေးအတွက် စီမံပြင်ဆင်ခြင်း၊

(ခ) ကာကွယ်ရေးနှင့် လုံခြုံရေးဆိုင်ရာ စက်မှုလက်မှုလုပ်ငန်းများ၊

(ဂ) ဇီဝနှင့်ဓာတုစသည့်လက်နက်များအပါအဝင် လက်နက်ခဲယမ်းမီးကျောက်များနှင့် ပေါက်ကွဲစေတတ်သည့်ပစ္စည်းများ၊

(ဃ) အဏုမြူစွမ်းအင်၊ အဏုမြူလောင်စာ၊ အဏုမြူရောင်ခြည်နှင့် ယင်းတို့ကိုဖြစ်ထွန်းစေသော ဓာတ်သတ္တုပင်ရင်း အခြေအမြစ်များ၊

(င) စစ်ကြေညာခြင်းနှင့် စစ်ပြေငြိမ်းခြင်း၊

(စ) နိုင်ငံတော်တည်ငြိမ်ရေး၊ အေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး၊

(ဆ) ရဲတပ်ဖွဲ့။

၂။ **နိုင်ငံခြားရေးကဏ္ဍ**

(က) သံတမန်ရေးရာ၊ ကောင်စစ်ရေးရာနှင့် အခြားရေးရာဆိုင်ရာ ကိုယ်စားလှယ်များ၊

(ခ) ကုလသမဂ္ဂ၊

(ဂ) အပြည်ပြည်ဆိုင်ရာ၊ ဒေသဆိုင်ရာနှင့် နှစ်ပြည်ထောင်ဆိုင်ရာ ညီလာခံများ၊ ဆွေးနွေးပွဲများ၊ အစည်းအဝေးများ၊ အသင်းများနှင့် အခြားအဖွဲ့အစည်းများတွင် ပါဝင်ဆောင်ရွက်ရေးနှင့် ယင်းတို့၏ ဆုံးဖြတ်ချက်များကို အထမြောက်စေရေး၊

(ဃ) အပြည်ပြည်ဆိုင်ရာနှင့် ဒေသဆိုင်ရာစာချုပ်များ၊ သဘောတူညီချက်များ၊ ကွန်ဗင်းရှင်းများ၊ နှစ်ပြည်ထောင်ဆိုင်ရာသဘောတူညီချက်များ၊ စာချုပ်များကို ချုပ်ဆိုရေးနှင့် အထမြောက်စေရေး၊

(e) Passports and identification certificates;

(f) Visas, admission into the Republic of the Union of Myanmar, stay, departure, immigration and deportation; and

(g) Extradition and request for extradition.

**3. Finance and Planning Sector**

(a) The Union Budget;

(b) The Union Fund;

(c) Currency and coinage;

(d) The Central Bank of Myanmar and financial institutions;

(e) Foreign exchange control;

(f) Capital and money markets;

(g) Insurance;

(h) Income tax;

(i) Commercial tax;

(j) Stamp duty;

(k) Customs duty;

(l) Union lottery;

(m) Tax appeal;

(n) Services of the Union;

(o) Sale, lease and other means of execution of property of the Union;

(p) Disbursement of loans from the Union Funds;

(q) Investment of the Union Funds;

(r) Domestic and foreign loans;

(s) Acquisition of property for the Union; and

(t) Foreign aid and financial assistance.

(င) နိုင်ငံကူးလက်မှတ်များနှင့် မည်သူမည်ဝါဖြစ်ကြောင်း သက်သေခံလက်မှတ်များ၊

(စ) ပြည်ဝင်ခွင့်ဗီဇာ၊ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းသို့ ဝင်ခွင့်ပြုရေး၊ နေထိုင်ခွင့်ပြုရေး၊ နိုင်ငံမှ ထွက်ခွာခွင့်ပြုရေး၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်နှင်ဒဏ်ပေးရေး၊

(ဆ) ပြစ်မှုကျူးလွန်သူအား သက်ဆိုင်ရာနိုင်ငံသို့ ပြန်လည်လွှဲအပ်ပေးရေးနှင့် သက်ဆိုင်ရာနိုင်ငံမှ တောင်းဆိုရေး။

၃။ **ဘဏ္ဍာရေးနှင့် စီမံကိန်းကဏ္ဍ**

(က) ပြည်ထောင်စုအရအသုံး ခန့်မှန်းခြေငွေစာရင်း၊
(ခ) ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေ၊
(ဂ) ငွေစက္ကူထုတ်လုပ်ရေး၊ ဒင်္ဂါးသွန်းလုပ်ရေး၊
(ဃ) မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ငွေရေးကြေးရေးအဖွဲ့အစည်းများ၊
(င) နိုင်ငံခြားသုံးငွေ ထိန်းသိမ်းကြီးကြပ်ရေး၊
(စ) အရင်းအနှီးနှင့်ငွေကြေးဈေးကွက်၊
(ဆ) အာမခံလုပ်ငန်း၊
(ဇ) ဝင်ငွေခွန်၊
(ဈ) ကုန်သွယ်လုပ်ငန်းခွန်၊
(ည) တံဆိပ်ခေါင်းခွန်၊
(ဋ) အကောက်ခွန်၊
(ဌ) အောင်ဘာလေထီ၊
(ဍ) အခွန်အယူခံခြင်း၊
(ဎ) ပြည်ထောင်စု၏ ဝန်ဆောင်မှုလုပ်ငန်းများ၊
(ဏ) ပြည်ထောင်စုပိုင်ပစ္စည်းများ ရောင်းချခြင်း၊ ငှားရမ်းခြင်းနှင့် အခြားနည်းဖြင့် ဆောင်ရွက်ခြင်း၊
(တ) ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေများ ထုတ်ချေးခြင်း၊
(ထ) ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေများ ရင်းနှီးမြှုပ်နှံခြင်း၊
(ဒ) ပြည်တွင်းပြည်ပမှငွေချေးယူခြင်း၊
(ဓ) ပြည်ထောင်စုအတွက် ပစ္စည်းရယူခြင်း၊
(န) ပြည်ပမှ ငွေကြေးအကူအညီနှင့် အထောက်အပံ့။

**4. Economic Sector**

(a) Economy;

(b) Commerce;

(c) Co-operatives;

(d) Corporations, boards, enterprises, companies and partnerships;

(e) Imports, exports and quality control thereon;

(f) Hotels and lodging houses; and

(g) Tourism.

**5. Agriculture and Livestock Breeding Sector**

(a) Land administration;

(b) Reclamation of vacant, fallow and virgin lands;

(c) Settlements and land records;

(d) Land survey;

(e) Dams, embankments and irrigation works managed by the Union;

(f) Meteorology, hydrology and seismic survey;

(g) Registration of documents;

(h) Mechanized agriculture;

(i) Agricultural research;

(j) Production of chemical fertilizers and insecticides;

(k) Marine fisheries; and

(l) Livestock proliferation, prevention and treatment of diseases and research works.

**6. Energy, Electricity, Mining and Forestry Sector**

(a) Petroleum, natural gas, other liquids and substances declared by the Union Law to be dangerously inflammable;

၄။ **စီးပွားရေးကဏ္ဍ**

(က) စီးပွားရေး၊

(ခ) ကူးသန်းရောင်းဝယ်ရေး၊

(ဂ) သမဝါယမ၊

(ဃ) ကော်ပိုရေးရှင်း၊ ဘုတ်အဖွဲ့၊ လုပ်ငန်း၊ ကုမ္ပဏီ၊ အစုစပ်၊

(င) သွင်းကုန်၊ ထုတ်ကုန်နှင့်ယင်းကုန်ပစ္စည်းများ၏ အရည်အသွေးသတ်မှတ်ခြင်း၊

(စ) ဟိုတယ်နှင့်တည်းခိုခန်း၊

(ဆ) ခရီးသွားလာရေးလုပ်ငန်း။

၅။ **စိုက်ပျိုးရေးနှင့်မွေးမြူရေးကဏ္ဍ**

(က) မြေယာစီမံခန့်ခွဲမှု၊

(ခ) မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ ဖော်ထုတ်ခြင်း၊

(ဂ) ကြေးတိုင်နှင့် မြေစာရင်း၊

(ဃ) မြေတိုင်း၊

(င) ပြည်ထောင်စုက စီမံခန့်ခွဲသည့် ဆည်မြောင်း၊ တာတမံနှင့် စိုက်ပျိုးရေရရှိရေး လုပ်ငန်းများ၊

(စ) မိုးလေဝသ၊ ဇလဗေဒနှင့် မြေငလျင်တိုင်းတာရေး၊

(ဆ) စာချုပ်စာတမ်းမှတ်ပုံတင်ခြင်း၊

(ဇ) စက်မှုလယ်ယာ၊

(ဈ) စိုက်ပျိုးရေးသုတေသန၊

(ည) ဓာတ်မြေဩဇာနှင့် ပိုးသတ်ဆေး ထုတ်လုပ်ရေး၊

(ဋ) ပင်လယ်ငါးလုပ်ငန်း၊

(ဌ) တိရစ္ဆာန်မျိုးပွားရေး၊ ရောဂါကာကွယ်ရေး၊ ကုသရေးနှင့် သုတေသနလုပ်ငန်းများ။

၆။ **စွမ်းအင်၊ လျှပ်စစ်၊ သတ္တုနှင့် သစ်တောကဏ္ဍ**

(က) ရေနံ၊ သဘာဝဓာတ်ငွေ့နှင့် ပြည်ထောင်စုဥပဒေအရ ဘေးအန္တရာယ် ဖြစ်လောက်အောင် လောင်ကျွမ်းစေတတ်သည်ဟု သတ်မှတ်ထားသော အခြားအရည်အခဲ စသည်များ၊

(b) Production and distribution of electricity of the Union;

(c) Minerals, mines, safety of mine workers, and environmental conservation and restoration;

(d) Gems;

(e) Pearls;

(f) Forests; and

(g) Environmental protection and conservation including wildlife, natural plants and natural areas.

7. **Industrial Sector**

(a) Industries to be undertaken by the Union level;

(b) Industrial zones;

(c) Basic standardization and specification for manufactured products;

(d) Science and technology and research thereon;

(e) Standardization of weights and measures; and

(f) Intellectual property such as copyrights, patents, trademarks and industrial designs.

8. **Transport, Communication and Construction Sector**

(a) Inland water transport;

(b) Maintenance of waterways;

(c) Development of water resources and rivers and streams;

(d) Carriage by sea;

(e) Major ports;

(f) Lighthouses, lightships and lighting plans;

(g) Shipbuilding, repair and maintenance;

(h) Air transport;

(ခ) ပြည်ထောင်စု လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရေး၊

(ဂ) သတ္တုများ၊ သတ္တုတွင်းများ၊ သတ္တုတွင်း အလုပ်သမားဘေးကင်းရေး၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပြန်လည်ပြုပြင်တည်ဆောက်ရေး၊

(ဃ) ကျောက်မျက်ရတနာ၊

(င) ပုလဲ၊

(စ) သစ်တော၊

(ဆ) တောရိုင်းတိရစ္ဆာန်များ၊ သဘာဝအပင်များနှင့် သဘာဝနယ်မြေများ အပါအဝင် ပတ်ဝန်းကျင်ကာကွယ်ရေးနှင့် ထိန်းသိမ်းရေး။

၇။ **စက်မှုလက်မှုကဏ္ဍ**

(က) ပြည်ထောင်စုအဆင့်က ဆောင်ရွက်မည့် စက်မှုလုပ်ငန်းများ၊

(ခ) စက်မှုဇုန်များ၊

(ဂ) ထုတ်လုပ်သည့်ပစ္စည်းများအတွက် အခြေခံစံချိန်စံညွှန်းများ၊

(ဃ) သိပ္ပံနှင့်နည်းပညာ၊ သိပ္ပံနှင့်နည်းပညာဆိုင်ရာ သုတေသန၊

(င) အလေးတင်းတောင်း၊ အတိုင်းအတာစသည်တို့ကို စံပြုခြင်း၊

(စ) မူပိုင်ခွင့်များ၊ တီထွင်မှုမူပိုင်ခွင့်များ၊ ကုန်အမှတ် တံဆိပ်များ၊ စက်မှုဆိုင်ရာ ဒီဇိုင်းများစသည့် အသိဉာဏ်ဆိုင်ရာပစ္စည်းများ။

၈။ **ပို့ဆောင်ရေး၊ ဆက်သွယ်ရေးနှင့် ဆောက်လုပ်ရေးကဏ္ဍ**

(က) ပြည်တွင်းရေကြောင်းသယ်ယူပို့ဆောင်ရေး၊

(ခ) ရေကြောင်းလမ်းများပြုပြင်ထိန်းသိမ်းရေး၊

(ဂ) ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေး၊

(ဃ) ပင်လယ်ရေကြောင်းသယ်ယူပို့ဆောင်ရေး၊

(င) ပင်လယ်ကူးသင်္ဘောဆိပ်ကမ်းကြီးများ၊

(စ) မီးပြတိုက်၊ မီးပြသင်္ဘောနှင့် မီးပြအစီအမံများ၊

(ဆ) သင်္ဘောတည်ဆောက်ရေး၊ ပြင်ဆင်ထိန်းသိမ်းရေး၊

(ဇ) လေကြောင်းသယ်ယူပို့ဆောင်ရေး၊

(i) Air navigation, control and airfields construction;

(j) Land transport;

(k) Railways;

(l) Major highways and bridges managed by the Union;

(m) Posts, telegraphs, telephones, fax, e-mail, internet, intranet and similar means of communication; and

(n) Television, satellite communication, transmission and reception, and similar means of communication and housing and buildings.

**9. Social Sector**

(a) Educational curricula, syllabus, teaching methodology, research, plans, projects and standards;

(b) Universities, degree colleges, institutes and other institutions of higher education;

(c) Examinations prescribed by the Union;

(d) Private schools and training;

(e) National sports;

(f) National health;

(g) Development of traditional medicinal science and traditional medicine;

(h) Charitable hospitals and clinics and private hospitals and clinics;

(i) Maternal and child welfare;

(j) Red cross society;

(k) Prevention from adulteration, manufacture and sale of foodstuffs, drugs, medicines and cosmetics;

(l) Welfare of children, youths, women, the disabled, the aged and the homeless;

(m) Relief and rehabilitation;

(ဈ) လေကြောင်းပို့သန်းရေး၊ ထိန်းသိမ်းရေးနှင့် လေယာဉ်ကွင်းတည်ဆောက်ရေး၊
(ည) ကုန်းလမ်းသယ်ယူပို့ဆောင်ရေး၊
(ဋ) မီးရထား၊
(ဌ) ပြည်ထောင်စုက စီမံခန့်ခွဲသည့်လမ်းမကြီးများ၊ တံတားကြီးများ၊
(ဍ) စာတိုက်၊ ကြေးနန်း၊ တယ်လီဖုန်း၊ ဖက်(စ်)၊ အီးမေးလ်၊ အင်တာနက်၊ အင်ထရာနက်နှင့် အလားတူ ဆက်သွယ်ရေးများ၊
(ဎ) ရုပ်မြင်သံကြား၊ ဂြိုဟ်တုဆက်သွယ်ရေး၊ အသံလွှင့်အသံဖမ်းလုပ်ငန်းနှင့် အလားတူ ဆက်သွယ်ရေးများ၊ အိမ်ရာနှင့် အဆောက်အအုံများ။

၉။ **လူမှုရေးကဏ္ဍ**

(က) ပညာသင်ကြားရေးဆိုင်ရာ သင်ရိုးညွှန်းတမ်း၊ သင်ရိုးမာတိကာ၊ သင်ပြနည်းစနစ်၊ သုတေသန၊ စီမံကိန်း၊ စီမံချက်နှင့်စံများ၊
(ခ) တက္ကသိုလ်၊ ဒီဂရီကောလိပ်၊ သိပ္ပံစသည့်သင်တန်းများနှင့် အဆင့်မြင့်ပညာအခြားအဖွဲ့အစည်းများ၊
(ဂ) ပြည်ထောင်စုကသတ်မှတ်သည့် စာမေးပွဲများ၊
(ဃ) ကိုယ်ပိုင်ကျောင်းများနှင့် သင်တန်းများ၊
(င) အမျိုးသားအားကစား၊
(စ) အမျိုးသားကျန်းမာရေး၊
(ဆ) တိုင်းရင်းဆေးပညာနှင့် တိုင်းရင်းဆေးဝါးဖွံ့ဖြိုးတိုးတက်ရေး၊
(ဇ) ကုသိုလ်ဖြစ်ဆေးရုံများနှင့်ဆေးခန်းများ၊ ပုဂ္ဂလိကဆေးရုံများနှင့်ဆေးခန်းများ၊
(ဈ) မိခင်နှင့်ကလေးစောင့်ရှောက်ရေး၊
(ည) ကြက်ခြေနီအသင်း၊
(ဋ) အစားအသောက်၊ ဆေးဝါး၊ ဆေးပစ္စည်းနှင့် အလှကုန်စသည်တို့ တုပရောနှော ထုတ်လုပ်ရောင်းချခြင်းမှ ကာကွယ်ရေး၊
(ဌ) ကလေးသူငယ်များ၊ လူငယ်များ၊ အမျိုးသမီးများ၊ မသန်မစွမ်းသူများ၊ သက်ကြီးရွယ်အိုများ၊ အခြေအနေမဲ့များအား စောင့်ရှောက်ရေး၊
(ဍ) ကယ်ဆယ်ရေးနှင့် ပြန်လည်ထူထောင်ရေးကိစ္စရပ်များ၊

(n) Fire Brigade;

(o) Working hours, resting-hours, holidays and occupational safety;

(p) Trade disputes;

(q) Social security;

(r) Labour organizations;

(s) Managements by the Union, the following:

(i) Ancient culture or historical sites, buildings, monuments, records, stone inscriptions, ink inscriptions on stucco, palm-leaf parabaiks, handwritings, handiworks, inanimate objects and archaeological works;

(ii) Museums and libraries.

(t) Literature, dramatic arts, music, traditional arts and crafts, cinematographic films and videos; and

(u) Registration of births and deaths.

**10. Management Sector**

(a) General administration;

(b) Administration of town and village land;

(c) Tenants;

(d) Narcotic drugs and psychotropic substances;

(e) Union secrets;

(f) Associations;

(g) Prisons;

(h) Development of border areas;

(i) Census;

(j) Citizenship, naturalization, termination and revocation of citizenship, citizenship scrutiny and registration; and

(k) Titles and honours.

(ဎ) မီးသတ်တပ်ဖွဲ့၊

(ဏ) အလုပ်လုပ်ချိန်၊ နားချိန်၊ အလုပ်ပိတ်ရက်များနှင့် လုပ်ငန်းခွင်ဆိုင်ရာ ဘေးအန္တရာယ် ကင်းရှင်းရေး၊

(တ) ဝါဏိဇ္ဇပဋိပက္ခ၊

(ထ) လူမှုဖူလုံရေး၊

(ဒ) အလုပ်သမားအဖွဲ့အစည်းများ၊

(ဓ) ပြည်ထောင်စုက စီမံခန့်ခွဲသည့် -

(၁) ရှေးဟောင်းယဉ်ကျေးမှု သို့မဟုတ် သမိုင်းဝင်ဒေသများ၊ အဆောက်အအုံများ၊ အထိမ်းအမှတ်များ၊ မှတ်တမ်းများ၊ ကျောက်စာများ၊ မင်စာများ၊ ပေပုရပိုက်များ၊ လက်ရေးစာများ၊ လက်ရာများ၊ ရုပ်ဝတ္ထုပစ္စည်းများ၊ ရှေးဟောင်းသုတေသနလုပ်ငန်းများ၊

(၂) ပြတိုက်များ၊ စာကြည့်တိုက်များ။

(န) စာပေ၊ သဘင်၊ ဂီတ၊ ရိုးရာပန်း၊ ရုပ်ရှင်၊ ဗီဒီယို၊

(ပ) မွေးဖွားခြင်းနှင့် သေဆုံးခြင်းဆိုင်ရာ မှတ်ပုံတင်ရေး။

၁၀။ **စီမံခန့်ခွဲရေးကဏ္ဍ**

(က) အထွေထွေအုပ်ချုပ်ရေး၊

(ခ) ရွာမြေ၊ မြို့မြေ စီမံခန့်ခွဲရေး၊

(ဂ) အိမ်ငှား၊ မြေငှား၊

(ဃ) မူးယစ်ဆေးဝါးနှင့် စိတ်ကိုပြောင်းလဲစေတတ်သောဆေးဝါး၊

(င) နိုင်ငံတော်လျှို့ဝှက်ချက်ထိန်းသိမ်းရေးဆိုင်ရာကိစ္စများ၊

(စ) အသင်းအဖွဲ့များ၊

(ဆ) အကျဉ်းထောင်၊

(ဇ) နယ်စပ်ဒေသဖွံ့ဖြိုးတိုးတက်ရေး၊

(ဈ) သန်းခေါင်စာရင်း၊

(ည) နိုင်ငံသားဖြစ်ခြင်း၊ နိုင်ငံသားပြုခြင်း၊ နိုင်ငံသားအဖြစ်မှရုပ်စဲခြင်း၊ ရုပ်သိမ်းခြင်း၊ နိုင်ငံသားစိစစ်ရေးနှင့် မှတ်ပုံတင်လုပ်ငန်း၊

(ဋ) ဘွဲ့ထူး၊ ဂုဏ်ထူး။

**11. Judicial Sector**

(a) Judiciary;

(b) Lawyers;

(c) Criminal Laws and procedures;

(d) Civil Laws and procedures including contract, arbitration, actionable wrong, insolvency, trust and trustees, administrator and receiver, family laws, guardians and wards, transfer of property and inheritance;

(e) Law of Evidence;

(f) Limitation;

(g) Suit valuation;

(h) Specific relief;

(i) Foreign jurisdiction;

(j) Admiralty jurisdiction; and

(k) Piracies, crimes committed in international waters or in outer space and offences against the international law on land or in international waters or in outer space.

၁၁။ **တရားစီရင်ရေးကဏ္ဍ**

(က) တရားစီရင်ရေး၊

(ခ) ရှေ့နေများ၊

(ဂ) ပြစ်မှုဆိုင်ရာ ဥပဒေများ၊ ကျင့်ထုံးများ၊

(ဃ) တရားမဥပဒေများ၊ ကျင့်ထုံးများအပါအဝင်၊ ပဋိညာဉ်၊ အနုညာတ စီရင်ဆုံးဖြတ်ရေး၊ တရားစွဲဆိုပိုင်ခွင့်ရှိသော နစ်နာချက်များ၊ လူမွဲအဖြစ်ခံယူခြင်း၊ ယုံမှတ်အပ်နှံခြင်းနှင့် ယုံမှတ်အပ်နှံထားသဖြင့် စီမံပိုင်ခွင့်ရှိသူများ၊ အမွေထိန်းနှင့် ပစ္စည်းထိန်း၊ မိသားစုဆိုင်ရာဥပဒေများ၊ အုပ်ထိန်းသူများနှင့် အုပ်ထိန်းခံရသူများ၊ ပစ္စည်းလွှဲပြောင်းခြင်း၊ အမွေဆက်ခံရေး၊

(င) သက်သေခံဥပဒေ၊

(စ) ကာလစည်းကမ်းသတ်၊

(ဆ) အမှုတန်ဖိုးသတ်မှတ်ခြင်း၊

(ဇ) သီးခြားသက်သာခွင့်၊

(ဈ) နိုင်ငံခြားစီရင်ပိုင်ခွင့်အာဏာ၊

(ည) ပင်လယ်ရေကြောင်းစီရင်ပိုင်ခွင့်၊

(ဋ) ပင်လယ်ဓားပြမှုများ၊ နိုင်ငံတကာပင်လယ်ပြင် သို့မဟုတ် ကောင်းကင်ယံ၌ ကျူးလွန်သောပြစ်မှုများ၊ အပြည်ပြည်ဆိုင်ရာဥပဒေကို ဖောက်ဖျက်၍ မြေပြင် သို့မဟုတ် နိုင်ငံတကာပင်လယ်ပြင် သို့မဟုတ် ကောင်းကင်ယံ၌ ကျူးလွန်သောပြစ်မှုများ။

# SCHEDULE TWO
## Region or State Legislative List
## (Refer to Section 188)

**1. Finance and Planning Sector**

(a) The Region or State budget;

(b) The Region or State fund;

(c) Land revenue;

(d) Excise duty (not including narcotic drugs and psychotropic substances);

(e) Municipal taxes such as taxes on buildings and lands, water, street lightings and wheels;

(f) Services of the Region or State;

(g) Sale, lease and other means of execution of property of the Region or State;

(h) Disbursement of loans in the country from the Region or State funds;

(i) Investment in the country from the Region or State funds;

(j) Local plan; and

(k) Small loans business.

**2. Economic Sector**

(a) Economic matters undertaken in the Region or State in accord with law enacted by the Union;

(b) Commercial matters undertaken in the Region or State in accord with law enacted by the Union; and

(c) Co-operative matters undertaken in the Region or State in accord with law enacted by the Union.

# ဇယား ၂
# တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဥပဒေပြုစာရင်း
# (ပုဒ်မ ၁၈၈ ကို ရည်ညွှန်းသည်)

၁။ **ဘဏ္ဍာရေးနှင့်စီမံကိန်းကဏ္ဍ**

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အရအသုံးခန့်မှန်းခြေငွေစာရင်း၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဘဏ္ဍာရန်ပုံငွေ၊

(ဂ) မြေယာခွန်၊

(ဃ) ယစ်မျိုးခွန် (မူးယစ်ဆေးဝါးနှင့် စိတ်ကိုပြောင်းလဲစေတတ်သည့် ဆေးဝါးများ မပါ)၊

(င) အဆောက်အအုံနှင့် မြေခွန်၊ ရေခွန်၊ လမ်းမီးခွန်၊ ဘီးခွန်စသည့် စည်ပင်သာယာရေးဆိုင်ရာ အခွန်အခများ၊

(စ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များ၏ ဝန်ဆောင်မှုလုပ်ငန်းများ၊

(ဆ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ပိုင်ပစ္စည်းများ ရောင်းချခြင်း၊ ငှားရမ်းခြင်းနှင့် အခြားနည်းဖြင့်ဆောင်ရွက်ခြင်း၊

(ဇ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဘဏ္ဍာရန်ပုံငွေများ ပြည်တွင်း၌ထုတ်ချေးခြင်း၊

(ဈ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဘဏ္ဍာရန်ပုံငွေများ ပြည်တွင်း၌ ရင်းနှီးမြှုပ်နှံခြင်း၊

(ည) ဒေသန္တရစီမံကိန်း၊

(ဋ) အသေးစားငွေချေးလုပ်ငန်း။

၂။ **စီးပွားရေးကဏ္ဍ**

(က) ပြည်ထောင်စုက ပြဋ္ဌာန်းသည့် ဥပဒေနှင့်အညီ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း ဆောင်ရွက်သည့် စီးပွားရေးကိစ္စများ၊

(ခ) ပြည်ထောင်စုက ပြဋ္ဌာန်းသည့် ဥပဒေနှင့်အညီ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း ဆောင်ရွက်သည့် ကူးသန်းရောင်းဝယ်ရေးကိစ္စများ၊

(ဂ) ပြည်ထောင်စုက ပြဋ္ဌာန်းသည့် ဥပဒေနှင့်အညီ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း ဆောင်ရွက်သည့် သမဝါယမကိစ္စများ။

**3. Agriculture and Livestock Breeding Sector**

(a) Agriculture;

(b) Protection against and control of plants and crop pests and diseases;

(c) Systematic use of chemical fertilizers and systematic production and use of natural fertilizers;

(d) Agricultural loans and savings;

(e) Dams, embankments, lakes, drains and irrigation works having the right to be managed by the Region or State;

(f) Fresh water fisheries; and

(g) Livestock breeding and systematic herding in accord with the law enacted by the Union.

**4. Energy, Electricity, Mining and Forestry Sector**

(a) Medium and small scale electric power production and distribution that have the right to be managed by the Region or State not having any link with national power grid, except large scale electric power production and distribution having the right to be managed by the Union;

(b) Salt and salt products;

(c) Cutting and polishing of gemstones within the Region or State;

(d) Village firewood plantation; and

(e) Recreation centers, zoological garden and botanical garden.

**5. Industrial Sector**

(a) Industries other than those prescribed to be undertaken by the Union level; and

(b) Cottage industries.

၃။ **စိုက်ပျိုးရေးနှင့်မွေးမြူရေးကဏ္ဍ**

(က) လယ်ယာစိုက်ပျိုးရေး၊

(ခ) အပင်နှင့်သီးနှံဖျက်ပိုးမွှားရောဂါ ကာကွယ်ရေးနှင့် နှိမ်နင်းရေး၊

(ဂ) ဓာတ်မြေဩဇာ စနစ်တကျ သုံးစွဲရေးနှင့် သဘာဝမြေဩဇာများ စနစ်တကျ ထုတ်လုပ်သုံးစွဲရေး၊

(ဃ) စိုက်ပျိုးရေး ချေးငွေနှင့် စုငွေများ၊

(င) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသော ဆည်မြောင်း၊ တာတမံ၊ ရေကန်၊ ရေနုတ်မြောင်းနှင့် စိုက်ပျိုးရေးရရှိရေးလုပ်ငန်းများ၊

(စ) ရေချိုငါးလုပ်ငန်း၊

(ဆ) ပြည်ထောင်စုက ပြဋ္ဌာန်းသည့် ဥပဒေနှင့်အညီ တိရစ္ဆာန်မွေးမြူရေးနှင့် စနစ်တကျ ထိန်းကျောင်းရေး။

၄။ **စွမ်းအင်၊ လျှပ်စစ်၊ သတ္တုနှင့် သစ်တောကဏ္ဍ**

(က) ပြည်ထောင်စုက စီမံခန့်ခွဲခွင့်ရှိသည့် အကြီးစားလျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရေးမှအပ မဟာဓာတ်အားလိုင်းနှင့် ဆက်သွယ်ခြင်းမရှိသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့် အလတ်စားနှင့် အသေးစား လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရေး၊

(ခ) ဆားနှင့်ဆားထွက်ပစ္စည်း၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း ကျောက်မျက်ရတနာ ဖြတ်တောက်ခြင်း၊ သွေးခြင်း၊

(ဃ) ကျေးရွာထင်းစိုက်ခင်း၊

(င) အပန်းဖြေစခန်းများ၊ တိရစ္ဆာန်ဥယျာဉ်၊ ရုက္ခဗေဒဥယျာဉ်။

၅။ **စက်မှုလက်မှုကဏ္ဍ**

(က) ပြည်ထောင်စုအဆင့်က ဆောင်ရွက်ရန် သတ်မှတ်ထားသည့် စက်မှုလုပ်ငန်းများမှအပ အခြားစက်မှုလုပ်ငန်းများ၊

(ခ) အိမ်တွင်းစက်မှုလက်မှုလုပ်ငန်းများ။

**6. Transport, Communication and Construction Sector**

(a) Ports, jetties and pontoons having the right to be managed by the Region or State;

(b) Roads and bridges having the right to be managed by the Region or State; and

(c) Systematic running of private vehicles within the Region or State.

**7. Social Sector**

(a) Matters on traditional medicine not contrary to traditional medicine policies prescribed by the Union;

(b) Social welfare works within the Region or State;

(c) Preventive and precautionary measures against fire and natural disasters;

(d) Stevedoring;

(e) Having the right of management by the Region or State, the following:

(i) preservation of cultural heritage;

(ii) museums and libraries.

(f) Theatres, cinemas and video houses; and

(g) Exhibitions such as photographs, paintings and sculptures.

**8. Management Sector**

(a) Development matters;

(b) Town and housing development; and

(c) Honorary certificates and awards.

၆။ **ပို့ဆောင်ရေး၊ ဆက်သွယ်ရေးနှင့် ဆောက်လုပ်ရေးကဏ္ဍ**

(က) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့် ဆိပ်ကမ်းများ၊ သင်္ဘောဆိပ်များ၊ ဆိပ်ခံများ၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့်လမ်းများ၊ တံတားများ၊

(ဂ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းသာ သွားလာသည့် ပုဂ္ဂလိက ယာဉ်များ စနစ်တကျပြေးဆွဲနိုင်ရေး။

၇။ **လူမှုရေးကဏ္ဍ**

(က) ပြည်ထောင်စုက ချမှတ်ထားသည့် တိုင်းရင်းဆေးဆိုင်ရာ မူဝါဒများနှင့် မဆန့်ကျင်သော တိုင်းရင်းဆေးဆိုင်ရာကိစ္စများ၊

(ခ) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း လူမှုဝန်ထမ်းလုပ်ငန်းများ၊

(ဂ) မီးဘေးနှင့် သဘာဝဘေးအန္တရာယ်များ ကြိုတင်ကာကွယ်ရေး၊

(ဃ) ကုန်တင်ကုန်ချလုပ်ငန်း၊

(င) တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့် -

(၁) ယဉ်ကျေးမှုအမွေအနှစ်များထိန်းသိမ်းရေး၊

(၂) ပြတိုက်နှင့်စာကြည့်တိုက်များ။

(စ) ဇာတ်ရုံ၊ ရုပ်ရှင်ရုံနှင့် ဗီဒီယိုရုံ၊

(ဆ) ဓာတ်ပုံ၊ ပန်းချီ၊ ပန်းပု စသည့်ပြပွဲများ။

၈။ **စီမံခန့်ခွဲရေးကဏ္ဍ**

(က) စည်ပင်သာယာရေး၊

(ခ) မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးတိုးတက်ရေး၊

(ဂ) ဂုဏ်ထူးဆောင်လက်မှတ်များနှင့် ဂုဏ်ထူးဆောင်ဆုပစ္စည်းများ။

# SCHEDULE THREE

## List of Legislation of the Leading Body of Self-Administered Division or Self-Administered Area

## (Refer to Section 196)

1. Urban and Rural Projects
2. Construction and Maintenance of Roads and Bridges
3. Public Health
4. Development Affairs
5. Prevention of Fire Hazard
6. Maintenance of Pasture
7. Conservation and Preservation of Forest
8. Preservation of Natural Environment in Accord with Law Promulgated by the Union
9. Water and Electricity Matters in Towns and Villages
10. Market Matters of Towns and Villages

# ဇယား ၃
# ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဦးစီးအဖွဲ့၏ ဥပဒေပြုစာရင်း
# (ပုဒ်မ ၁၉၆ ကို ရည်ညွှန်းသည်)

၁။ မြို့ပြနှင့် ကျေးရွာစီမံကိန်းများ၊

၂။ လမ်းတံတားများ ဖောက်လုပ်၊ တည်ဆောက်၊ ပြုပြင်ထိန်းသိမ်းရေး၊

၃။ ပြည်သူ့ကျန်းမာရေး၊

၄။ စည်ပင်သာယာရေးလုပ်ငန်း၊

၅။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေး၊

၆။ စားကျက်မြေများထိန်းသိမ်းရေး၊

၇။ သစ်တောများကာကွယ်ထိန်းသိမ်းရေး၊

၈။ ပြည်ထောင်စုကပြဋ္ဌာန်းသည့် ဥပဒေနှင့်အညီ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး၊

၉။ မြို့နှင့် ကျေးရွာများအတွင်း ရေနှင့် လျှပ်စစ်မီးဆိုင်ရာကိစ္စ၊

၁၀။ မြို့များနှင့် ကျေးရွာများ၏ ဈေးများဆိုင်ရာကိစ္စ။

# SCHEDULE FOUR

## Form of Oaths or Affirmation

## (Refer to Section 125)

I ................ do solemnly and sincerely promise that as an elected representative of the Pyithu Hluttaw/ the Amyotha Hluttaw/ the Region or State Hluttaw, I will uphold and abide by the Constitution of the Union. I will be loyal to the Republic of the Union of Myanmar and citizenry and hold always in esteem non-disintegration of the Union, non-disintegration of national solidarity and perpetuation of sovereignty. In addition, I will carry out the responsibilities uprightly to the best of my ability.

# ဇယား ၄
# ကတိသစ္စာပြုချက် သို့မဟုတ် ကျမ်းသစ္စာဆိုချက် ပုံစံ
# (ပုဒ်မ ၁၂၅ ကို ရည်ညွှန်းသည်)

ပြည်သူ့လွှတ်တော်၊
ကျွန်ုပ် --------- သည် အမျိုးသားလွှတ်တော်၊ ကိုယ်စားလှယ်အဖြစ်
တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်

ရွေးချယ်ခံရပြီးဖြစ်သဖြင့် နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေကို ထိန်းသိမ်းကာကွယ် စောင့်ရှောက်ပြီး နိုင်ငံတော်၏ ဥပဒေများကိုလည်း လိုက်နာပါမည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်နှင့် နိုင်ငံသားများအပေါ် သစ္စာစောင့်သိရိုသေပါမည်။ ပြည်ထောင်စု မပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး၊ အချုပ်အခြာအာဏာတည်တံ့ ခိုင်မြဲရေးတို့ကို ထာဝစဉ်ဦးထိပ်ပန်ဆင်ဆောင်ရွက်ပါမည်။ ထို့ပြင်ယခုကျွန်ုပ်ထမ်းဆောင်မည်ဖြစ်သော တာဝန်ဝတ္တရားများကို ဖြောင့်မတ်မှန်ကန်စွာ ဆောင်ရွက်မည်ဟု လေးနက်တည်ကြည်စွာ

ကတိသစ္စာပြုပါသည်။

ကျမ်းသစ္စာဆိုပါသည်။

# SCHEDULE FIVE

## Taxes Collected by Region or States

## (Refer to Section 254)

1. Land revenue.

2. Excise revenue.

3. Water tax and embankment tax based on dams and reservoirs managed by the Region or State and tax on use of electricity generated by such facilities managed by the Region or State.

4. Toll fees from using roads and bridges managed by the Region or State.

5. (a) Royalty collected on fresh water fisheries.

   (b) Royalty collected on marine fisheries within the permitted range of territorial water.

6. Taxes collected on vehicles on road transport and vessels on inland waterway transport, in accord with law, in a Region or a State.

7. Proceeds, rent fees and other profits from those properties owned by a Region or a State.

8. Fees, taxes and other revenues collected on services enterprises by a Region or a State.

# ဇယား ၅
# တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များက ကောက်ခံရမည့် အခွန်အခများ
# (ပုဒ်မ ၂၅၄ ကို ရည်ညွှန်းသည်)

၁။ မြေယာခွန်၊

၂။ ယစ်မျိုးခွန်၊

၃။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့် ဆည်များ၊ တာတမံများကို အရင်းခံသည့် ရေခွန်၊ တာတမံခွန်နှင့် ထိုဆည်များ၊ တာတမံများ၏ ရေအားဖြင့် ထုတ်လုပ်ရရှိသည့် လျှပ်စစ်ဓာတ်အားသုံးစွဲခ၊

၄။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့်လမ်းများ၊ တံတားများ ဖြတ်သန်းခ၊

၅။ (က) ရေချိုငါးလုပ်ငန်းအပေါ်တွင် စည်းကြပ်ကောက်ခံသည့် ဘဏ္ဍာတော်ကြေး၊
(ခ) သတ်မှတ်ထားသော အကွာအဝေးအတွင်း ပင်လယ်ငါးဖမ်းလုပ်ငန်းအပေါ် တွင် စည်းကြပ်ကောက်ခံသည့် ဘဏ္ဍာတော်ကြေး။

၆။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် ကုန်းလမ်း၊ ရေလမ်းသုံးယာဉ်များဆိုင်ရာ ဥပဒေအရ စည်းကြပ်သောအခွန်၊

၇။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ပိုင်ပစ္စည်းများ ရောင်းရငွေနှင့် ငှားရမ်းခများ၊ ယင်းပစ္စည်းများမှ ရရှိသော အခြားအကျိုးအမြတ်များ၊

၈။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်များက ဝန်ဆောင်မှုလုပ်ငန်းများအတွက် သတ်မှတ် ကောက်ခံသည့် အခကြေးငွေများ၊ အခွန်အခများနှင့် အခြားရငွေများ၊

9. Fines imposed by judicial courts in a Region or a State including Region Taya Hluttaw or State Taya Hluttaw and taxes collected on service provision and other revenues.

10. Interests from disbursed by a Region or State.

11. Profits returned from investment of a Region or State.

12. Taxes collected on extraction of the following items from the forests in a Region or a State:

    (a) Taxes collected on all other woods except teak and other restricted hard woods;

    (b) Taxes collected on firewood, charcoal, rattan, bamboo, birdnests, cutch, thanetkha, turpentine, eaglewood and honey-based products.

13. Registration fees.

14. Taxes on entrainments.

15. Salt tax.

16. Revenue received from the Union Fund Account.

17. Contributions by development affairs organizations in a Region or State concerned.

18. Unclaimed cash and property.

19. Treasure trove.

၉။ တိုင်းဒေသကြီးတရားလွှတ်တော် သို့မဟုတ် ပြည်နယ်တရားလွှတ်တော် အပါအဝင် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းရှိ တရားရုံးများက ချမှတ်သည့် ဒဏ်ငွေများ၊ ဝန်ဆောင်မှုအတွက် ကောက်ခံသည့် အခွန်အခများနှင့် အခြားရငွေများ၊

၁၀။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ဘဏ္ဍာရန်ပုံငွေများ ထုတ်ချေးသဖြင့် ရရှိသော အတိုးများ၊

၁၁။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်၏ ရင်းနှီးမြှုပ်နှံမှုဖြင့်ရရှိသည့် အကျိုးအမြတ်များ၊

၁၂။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းရှိ သစ်တောများမှ အောက်ပါပစ္စည်းများ ထုတ်ယူသည့်အတွက် ကောက်ခံသည့်အခွန်အခများ -

(က) ကျွန်းနှင့် သတ်မှတ်သော သစ်မာများမှအပ ကျန်သစ်များအပေါ်တွင် ကောက်ခံသည့်အခွန်၊

(ခ) ထင်း၊ မီးသွေး၊ ကြိမ်၊ ဝါး၊ ငှက်သိုက်၊ ရှားစေး၊ သနပ်ခါး၊ ထင်းရှူးဆီ၊ သစ်မွှေး၊ ပျားထွက်ပစ္စည်းများ စသည်တို့အပေါ် ကောက်ခံသည့်အခွန်။

၁၃။ မှတ်ပုံတင်ကြေး၊

၁၄။ ပွဲခွန်၊

၁၅။ ဆားခွန်၊

၁၆။ ပြည်ထောင်စု ဘဏ္ဍာရန်ပုံငွေမှ ရရှိသည့်ဘဏ္ဍာငွေများ၊

၁၇။ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်းရှိ စည်ပင်သာယာရေးဆိုင်ရာ အဖွဲ့အစည်းများ၏ ထည့်ဝင်ငွေများ၊

၁၈။ ပိုင်ရှင်မပေါ်သော သွင်းထားငွေများနှင့်ပစ္စည်းများ၊

၁၉။ ရတနာသိုက်။